## စစ်ပွဲကြီးများနှင့် မေတ္တာ

"ဟောဒီမြေပုံမှာကြည့်စမ်း၊ ဒါက အီတလီ၊ ဒီဘက်က အဘက်ဆီးနီးယား၊ သူတို့တွေအချင်းချင်း စစ်ဖြစ်နေကြလို့ သတ္တဝါတွေ သေကြေပျက်စီးလိုက်ကြရတာ အလွန်သနားစရာကောင်းတယ်။"

"သူတို့တွေ ဒီစစ်ဘေးကလွတ်အောင် မေတ္တာပို့ကြရမယ်ကွယ့်၊ ထိုစစ်ဘေးကြီး တစ်နည်းနည်းနဲ့ အေးသွားတယ်ဆိုရင်ပဲ ကိုယ့်ရဲ့မေတ္တာ အောင်ပြီလို့ မှတ်ရမယ်။"

မိုးညှင်းဆရာတော်ဘုရားကြီး

ဗုဒ္ဓအသံ စာစဉ်အမှတ်-၅

# မေတ္တာဝါဒ

## (ဗြဟ္မဝိဟာရအဖွင့်)

(ဒုတိယအကြိမ် အထူးပြင်ဆင် ဖြည့်စွက်ချက်များ ပါဝင်သည်)

ဓမ္မာစရိယ ဦးရွှေလှိုင်

ဖြန့်ချိရေး



စာတိုက်ပူးအမှတ်(၁၃၂၃)
ဗဟိုစာတိုက်ကြီး၊ ရန်ကုန်မြို့
တတိယအကြိမ်

* ပုံနှိပ်ခြင်း — တတိယအကြိမ်
၁၉၈၇-ဇန္နဝါရီလ

* အုပ်ရေ — ၃၀၀၀

* တန်ဖိုး — ၇၅ဝိ/-

* စာအုပ်စာတမ်း
ပုံနှိပ်ခွင့်ပြုချက်အမှတ် (၆၄၈)

* မျက်နှာဖုံး
ပုံနှိပ်ခွင့်ပြုချက်အမှတ် (၂၂)

* ထုတ်ဝေသူ — ဒေါ်ကြင်မြင့် (မြ-၀၂၀၀၉)
ဗုဒ္ဓအသံစာပေ
အမှတ် ၁၉(စ)၊ မြစပယ်လမ်း၊
ဂ ရပ်ကွက်၊ မရမ်းကုန်းမြို့နယ်၊
ရန်ကုန်မြို့

* ပုံနှိပ်သူ — ဒေါ်သန္တာအောင်
သတင်းကျာနယ်ပုံနှိပ်တိုက် (၀၂၈၈၃)
အမှတ် ၈၉/၃၉ လမ်း၊
ရန်ကုန်မြို့

* မျက်နှာဖုံးရိုက် — သိန်းမြင့်ဝင်းအော့ဖ်ဆက်

* မျက်နှာဖုံးပန်းချီ — စံတိုး

* အခန်းဖွင့်ပန်းချီ — ကျော်ဖြူစံ

* စာအုပ်ချုပ် — ကျေးရွာတော် စာအုပ်ချုပ်လုပ်ငန်း

ဗုဒ္ဓအသံစာပေ



# မာတိကာ


နိဒါန်းစကား

အခန်း-၁။ မေတ္တာကိုယ်တွေ့ဝတ္ထုများ ၂၉

ဗုဒ္ဓကိုယ်တွေ့ မေတ္တာအောင်ပွဲများ ၂၉

အရှင်အာနန္ဒာ၏ သူငယ်ချင်း 'ရောဇ' ၂၉

နာဠာဂိရိနှင့် အာဠဝက ၃၅

ပဉ္စဝဂ္ဂီငါးပါးနှင့် ဘုရားရှင်မေတ္တာ ၃၇

လိစ္ဆဝီ ဆိုးသွမ်းလူငယ်များအတွက် ၄၆

ဗုဒ္ဓ၏ ကြီးပွားချမ်းသာရေးလမ်းစဉ်

ငြိမ်းချမ်းစွာ အတူတကွနေထိုင်ရေး ၅၀

(ကောသမ္ဗီအဓိကရုဏ်းကြီးမှ ရလာဒ်)

မေတ္တာဝါဒ မစလလွှတ်တော် ၇၀

အခန်း-၂။ ဗုဒ္ဓခေတ် မေတ္တာစံပြပုဂ္ဂိုလ်ကြီးများ ၈၁

တေဒင်္ဂနှစ်ထပ်ကွမ်း အရှင်သုဘူတိ ၈၃

မေတ္တာသုတ်ပရိတ်ကို ဦးစွာသင်ယူရသော ရဟန်းတော်ငါးရာ ၉၀

မေတ္တာစျာန်ဝင်စားသော ကိုရင်ကလေး ၉၇

သူဌေးသမီး ဥတ္တရာ လုပ်ကြံခံရခြင်း ၁၀၅

သာမာဝတီ၏ မေတ္တာနှင့် ကံကြမ္မာ ၁၁၁

မာတိကာ

အခန်း-၃။ သီဟိုဠ်နှင့် မြန်မာနိုင်ငံ
မေတ္တာစံပြပုဂ္ဂိုလ်ကြီးများ ၁၁၉
မေတ္တာစံပြ ဝိသာခမထေရ် ၁၂၁
မိစ္ဆာဒိဋ္ဌိနိုင်ငံ၌ ထေရဝါဒကို အသက်နှင့်ထွန်းပြသူ ၁၂၉
'မွန်ဇာနည်မယ် တာလထော်' ၁၃၀
ဂျပန်စစ်ဘက် အရာရှိကြီးနှင့် မိုးညှင်းဆရာတော် ၁၃၈
စစ်ပွဲကြားက ဝေဘူဆရာတော် ၁၄၈
ဆရာတော်အရှင်ဦးဥတ္တမသာရ၏ မေတ္တာတောင်တန်း ၁၅၆
ဗုဒ္ဓဘာသာ မြန်မာနိုင်ငံနှင့် မေတ္တာဝါဒကို ထွန်းပြခဲ့သူ ၁၇၁
အီတာလျံ ဘုန်းတော်ကြီး ဦးလောကနာထ ၁၇၁
အရေးပိုင် ဦးဘိုးစနှင့် လူဆိုးများ ၁၈၃
မဟာစည် ယောဂီမကြီး၏မေတ္တာ ၁၈၈
အခန်း-၄။ တိရစ္ဆာန်တို့၏ မေတ္တာရောင်ပြန် ၁၉၁
မုဆိုးဝန်ထောက်ကြီးအား ဆုံးမသော ငှက်များနှင့်
ဒေါ်မမကြီး၏မေတ္တာ ၁၉၃
စာမတတ်သော ဒေါ်ရွှေ၏မေတ္တာ ၂၀၁
ဦးဘထူး၏မေတ္တာ ၂၀၅
တိရစ္ဆာန်နှင့်လူ ထပ်တူရှုမြင်သော ဝေဿာန်မင်းကြီး၏
မေတ္တာရောင်ပြန် ၂၀၉
ဖခင်(ခြသေ့ကြီး)၏မေတ္တာ ၂၁၃
မိခင်(နွားမကြီး)၏မေတ္တာ ၂၁၄
ဥခွံထဲကသတ္တဝါနှင့်မိခင်၏မေတ္တာကြီး ၂၁၅
လက်ဦးဆရာ ဗြဟ္မာမိဘ ၂၁၇
အခန်း-၅။ လောကအမြင်(သိပ္ပံနှင့် စိတ်ပညာရှုထောင့်) ၂၁၉
စကြာဝဠာနိယာမ ၂၂၁
အစိုင်အခဲမရှိ၊ လှိုင်းအတိစကြာဝဠာ ၂၂၃
ရောင်ခြည် စကြာဝဠာ ၂၂၄

မာတိကာ

ဖိလိုဆိုဖီ ပညာရှင်များအဆို ၂၂၇
တုံ့ပြန်မှုနိယာမ ၂၂၈
ရူပဗေဒမှ နာမရူပဗေဒသို့ ၂၃၀
ကမ္ဘာကို လိုသလို စေစားနိုင်သော စိတ်လှိုင်းဂယက်များ ၂၃၁
စိတ်ကူးကိုသိနိုင်သောစက် ၂၃၂
စိတ်ဓာတ်လှိုင်းစေလွှတ်၍ စိတ်ချင်းစကားပြောနည်း ၂၃၃
ဗုဒ္ဓ၏နာမရူပဗေဒအမြင် ၂၃၆
လူတိုင်းတံခိုးရှင်များ ၂၃၇
တောတောင်ရေမြေတို့ပါ စက်ကွင်းမိခြင်း ၂၄၀
လူမိုက်များကို ရေမြေသစ်ပင်များက တော်လှန်ဒဏ်ခတ်ခြင်း ၂၄၁
အင်အားကို လူတိုင်းနားမလည်နိုင် ၂၄၂
ကောင်းဆိုးစိတ်လှိုင်း အင်အားနိုင်းယှဉ်ချက် ၂၄၃
၆၄ ကမ္ဘာပြေးသော မေတ္တာဓာတ်လှိုင်း ၂၄၅
အခန်း-၆။ ဗြဟ္မဝိဟာရအဖွင့် ၂၄၇
မေတ္တာရှေ့သွားအခြေခံ တစ်ဆယ့်ငါး ၂၅၀
နယ်ပယ်ခွဲခြားသတ်မှတ်မှု ပျက်ပြယ်ခြင်း ၂၅၁
စတင်၍မေတ္တာမပွားရသူ ၂၅၄
မေတ္တာလုံးဝမပွားပို့ထိုက်သူ နှစ်ဦး ၂၅၇
ဗြဟ္မဝိဟာရ၏ အနီးရန်၊ အဝေးရန် ၂၅၈
မေတ္တာ၏ ရန်ဓာတ်နှင့် မိတ်ဓာတ် ၂၆၃
ရန်ငြိုးဖြေရာ မေတ္တာတိုက်ပွဲ ၂၆၄
ကောင်းကွက်ကလေးကိုရှာကြည့် ၂၆၆
အရှင်သာရိပုတ္တရာ ရန်ငြိုးဖြေနည်း ၂၆၆
အရှုံးပေးမှ အနိုင်ရ ၂၆၈
အဓိဝါသန ခန္တီ ၂၇၀
မေတ္တာသုတ်လာ မေတ္တာပွားနည်း ၂၇၄

တတိယအကြိမ်

၅၂၈ သွယ် မေတ္တာပွားပုံ ၂၇၆
မေတ္တာစျာန် အဆင့်ဆင့် ၂၈၀
(နိဝရဏ)အပိတ်အဆီးငါးမျိုး ၂၈၂
အပ္ပနာစျာန်ရသူ ချမ်းသာပုံ ၂၈၂
အပျော်ထမ်းမေတ္တာ ၂၈၃
ပထမစျာန် အမှတ်အသားငါးခု ၂၈၄
ဒုတိယစျာန်စသည် ၂၈၅
မေတ္တာအကျိုး ၁၁ မျိုး ၂၈၆
အနာဂါမ်နှင့်တူသော သောတာပန် ၂၈၇
မေတ္တာစျာန်မှာ လမ်းမဆုံးစေနှင့် ၂၈၈
မေတ္တာစျာန်မှ ဝိပဿနာတက်နည်း ၂၉၀
စျာန်နှင့် ဝိပဿနာ ပူးတွဲသွားပုံ ၂၉၀
စျာန်အဘိညာဉ်ရ အရိယာခေတ်ကောင်းကြီး ၂၇၉
အခန်း-၇။ ကိုယ်တွေ့မေတ္တာပွားနည်းများ ၂၉၅
မေတ္တာပွားပို့စဉ် စိတ်ထားနည်း ၂၉၈
ချင်းချောင်းနန်းသစ်တက်ပွဲမှမေတ္တာ ၃၀၀
(ဆည်ကြီးဆရာတော်နည်း)
ဗုဒ္ဓ၏မေတ္တာနှင့် ဗုဒ္ဓ၏တရားပွဲများ ၃၀၄
သေကျွံတောင်ဆရာတော်၏ မေတ္တာစျာန်ထူထောင်နည်း ၃၀၆
မြဝတီဆရာတော်၏မေတ္တာဓာတ်ရိုက်နည်း ၃၁၉
အခန်း-၈။ နိကာယ်ကဏ္ဍ(နိကာယ်ငါးရပ်လာ
မေတ္တာဒေသနာများ ၃၂၉
၁-သတ္တိသုတ်၊ နှိပ်စက်၍မရသောမေတ္တာ ၃၃၂
၂-ကုလသုတ်၊ မေတ္တာအကာအကွယ် ၃၃၃
၃-သေဒကသုတ်၊ သူ့အကျိုးဆောင် ကိုယ့်အကျိုးအောင် ၃၃၄
တရားထိုင်သူ တကိုယ်ကောင်းလား ၃၃၆

၈–နိဝရဏာပ္ပဟာနဝဂ်–သတ္တမသုတ်
နှစ်ခုမရှိသော စိတ်ဆင်းရဲပျောက်နည်း ၃၂၈
၉–အစ္ဆရာသဃာတသုတ်များ
လက်ဖျစ်တစ်တွက်မျှ မေတ္တာ ၃၂၉
တာဝန်မကျေ၊ တာဝန်ကြောက်သော ရဟန်းများအတွက် ၃၂၉
၁၀–စတုက္ကအင်္ဂုတ္တိုရ်လာ မေတ္တာဈာန်ရသုတ်များ
ဖြဟ္မာ့ပြည်သွား ဖြဟ္မစိုရ် ရထား ၃၃၀
၁၁–ကရဇကာယသုတ်၊ မေတ္တာမနောကံ၏ အင်အား ၃၃၂
အကုသိုလ်ကံဟောင်းကိုပင် ချေဖျက်နိုင်သော မေတ္တာ ၃၃၃
သချာလွန်ကုသိုလ် ၃၃၃
၁၂–ဝေလာမသုတ်၊ အမြတ်ဆုံးဒါန သီလနှင့်မေတ္တာ ၃၃၄
၁၃–သတ္တင်္ဂုတ္တုရ မေတ္တသုတ်၊ မေတ္တာပဓာန ၃၃၅
ကြီးပွားမြင့်မြတ်သော ဘဝနေနည်းစနစ် ၃၃၆
မေတ္တာအင်အားသည်သာ မူလအင်အား ၃၃၇
၁၄–သတ္တသူရိယသုတ် စသည် ကမ္ဘာပျက်ခြင်းနှင့်မေတ္တာ ၃၃၈
တိရစ္ဆာန်များပင် နတ်ပြည်ဖြဟ္မာ့ပြည်သို့ ၃၃၉
လုံးဝအပါယ်ငရဲမှ လွတ်ခွင့်မရသူ ၃၄၀
လူလိုလူမှ လူ့ထက်လူဖြစ်အောင် ၃၄၂
၁၅–အင်္ဂုတ္တိုရ်မေတ္တာအကျိုးပြသုတ်များ ၃၄၂
မေတ္တာအကျိုး ၁၁–မျိုး ၃၄၂
စကြဝဠာမင်း လုပ်ရသည်ထက် မြတ်သော ကုသိုလ် ၃၄၃
၁၆–မူလပဏ္ဏာသ–စူဠအဿပုရသုတ်
မေတ္တာရေကန်ကြီး ၃၄၄
၁၇–ကကစူပမသုတ်၊
မြေကြီးနှင့် ကောင်းကင်ပမာ မေတ္တာအင်အား ၃၄၅
အရေးမကြုံသေး၍ သက်လုံကောင်းသူ ၃၄၇
ဆန့်ကျင်ဘက် စကား ၅–မျိုးနှင့် လွတရား ၃၄၈
ကြီးပွားချမ်းသာချင်ရင် ဒီအတိုင်းသာလုပ် ၃၄၉
မေတ္တသုတ် ပရိတ်တော် ၃၅၀

မာတိကာ ပြီး၏။

စတုတ္ထအကြိမ်



မေတ္တာဝါဒ သမိုင်းပြ

# နိဒါန်းစကား

(၁)

## ကမ္ဘာဦးဝါဒ

လောကကြီး၌ သတ္တဝါတိုင်း ချမ်းသာချင်ကြ၏။ ချမ်းသာအောင် ဆောင်ရွက်ပေးသူအား ချစ်ခင်လေးမြတ်ကြ၏။ ထို့ကြောင့် မိမိလည်းချမ်းသာ၊ တစ်ပါးသူတို့အားလည်း ချမ်းသာမှု ပေးနိုင်သော မေတ္တာကို မကြိုက်သူ မရှိချေ။

အသိဉာဏ်ရှိသော လူသားတို့သည် ကနဦးအစ လူသားတို့ကမ္ဘာကို တည်ထောင်ကြရာ၌ အားလုံးအကြိုက်ညီ၍ တန်းတူရည်တူ အကျိုးပြုနိုင်သော လူနေမှုစနစ်တစ်ခု၊ ဝါဒတစ်ခုကို လိုက်နာကျင့်သုံးခဲ့ကြ၏။

ထိုကမ္ဘာဦးသားတို့ တည်ထောင်ချမှတ်ခဲ့သော ဝါဒကား အခြားမဟုတ်၊ ကိုယ်ချင်းစာ မေတ္တာဝါဒပင်တည်း။

မေတ္တာဝါဒကို ကမ္ဘာ့သမိုင်းနှင့်ချိန်၍ ရှုမြင်သောအခါ သာ၍ပင် ကျေနပ်ဖွယ်, အားကိုးဖွယ်ကောင်းကြောင်း တွေ့မြင်ကြရ၏။ လူနေမှုစနစ်အတွက် အခြား အစားထိုးရန် ထို့ထက်ကောင်းသော ဝါဒတစ်ခု မတွေ့နိုင်တော့ပေ။

ဝါဒသစ် တစ်ခုတစ်ခု အစားထိုးလေလေ၊ မေတ္တာလမ်းကြောင်းမှ သွေဖည်လေလေသာ ဖြစ်သွားပေလိမ့်မည်။

မေတ္တာဝါဒသည်---

(၁) ကမ္ဘာဦးဝါဒ **'ကမ္ဘာသစ် တည်ထောင်သော ဝါဒ'** ဖြစ်ရုံမျှမက (အဂ္ဂညသုတ်)။

(၂) ဝါဒသစ်များ တီထွင်တီထွင်၍ ကျင့်သုံးခဲ့ရာမှ ဘက်စုံယိုယွင်းလာကာ တိရစ္ဆာန်လောကကြီးသို့ ဦးတည်၍ ကသိလင်တ ဒုက္ခမျိုးစုံ ဒုစရိုက် လွှမ်းခြုံ၍ ချွတ်ခြုံကျအောင် ပျက်စီးရသော အခြေအနေသို့ ရောက်သွား သောအခါတွင်လည်း **'ဩကာသ ပြန်လည်ထိန်းသိမ်းရေး ဝါဒ'** အဖြစ် ဤမေတ္တာဝါဒဖြင့်ပင် ကျားကန် တည့်မတ်ပေးခဲ့ရ၏။ (စက္ကဝတ္တိသုတ်)။

(၃) ထိုမျှမက လူသားတို့၏ လောဘ၊ ဒေါသ၊ မောဟကို အခြေခံ၍ ဤ ကမ္ဘာလောကဓာတ်ကြီး မီး၊ ရေ၊ လေကြောင့် အပြီးတိုင် ပျက်စီး ချုပ်ငြိမ်းရတော့မည့်အခြေ၌ပင် ကမ္ဘာ့သူကမ္ဘာ့သား တို့အား **'နောက်ဆုံး ကယ်တင်ရေး ဝါဒကြီး'** တစ်ခုအဖြစ် တွေ့မြင်ရပေသည်။ (သတ္တသူရိယသုတ်)။

ဤအဆိုအမိန့်များ အားလုံးသည် ဘုရားရှင် ဟောကြားတော်မူချက်များချည်း ဖြစ်ကုန်၏။ ယင်းသို့ဆိုသော် လူသားနှင့် မေတ္တာသည် ထာဝရ မကွေမကွာ စကောင်း သော မူလကျင့်ဝတ်ကြီး တစ်ခုအဖြစ် သမိုင်းက ညွှန်ပြလျက်ရှိပေသည်။

### ၁။ ကမ္ဘာဦးကာလ လူသား

မြတ်စွာဘုရားရှင်သည် ကမ္ဘာဦးကာလ အခြေအနေကို (ပါထိကဝဂ်၊ အဂ္ဂည သုတ်တော်၌ ဟောပြတော်မူခဲ့ရာ) အကျဉ်းချုပ်၍ ဖော်ပြဦးအံ့။

ဗြာဟ္မဏ(ရှေးအခေါ် ပုဏ္ဏား၊ ယခု ဟိန္ဒူလူမျိုး) တို့သည် မိမိတို့ သာ လျှင် ဗြဟ္မာ၏ သားထူးသားမြတ်ဖြစ်၍ မြင့်မြတ်သူဖြစ်ကြောင်း ဇာတိမာန် ထောင်ကြသဖြင့် ကမ္ဘာဦးသမိုင်းကို ဟောတော်မူ၍ ဇာတ်ဝါဒ၊ လူတန်းစား

သတ်မှတ်ချက်သည် ပဓာန မဟုတ်၊ တရားရှိသူသာ မြတ်၍ မည်သည့်အမျိုးဇာတ်ရှိသူမဆို တရားမရှိလျှင် ယုတ်ညံ့သူမည်ကြောင်း ဟောပြတော်မူ၏။ ကမ္ဘာတည်ဦးပကာတူးအစက လွန်၍ လူတန်းစားကွဲပြားပုံများကို ဟောတော်မူရသည်။

ကမ္ဘာတည်စတွင် စကြဝဠာ ကုဋေတစ်သိန်းလုံး မှောင်အတိ ကျနေသော ရေပြင်ကြီးသာ ရှိခဲ့၏။ ကမ္ဘာဦးလူတို့သည် သတ္တဝါ (လူ) ဟူ၍ ခေါ်ရုံမျှသာ ရှိသေး၏။

ယောကျ်ား၊ မိန်းမ ဟူ၍ မထင်ရှား။ နေ၊ လ၊ နက္ခတ်၊ နေ့–ည ဟူ၍ မရှိသေး။

ကမ္ဘာဦးလူသားများမှာ 'အာဘဿရာ' ခေါ် ဗြဟ္မာ့ပြည်မှ စုတေလာသူများ ဖြစ်ကြသည်။ (ဥပစာရ) ဈာန်ပီတိဖြင့်သာ နေကြ၏။ အာဟာရ အထူးမရှိ။ ကိုယ်ရောင်ကိုယ်ဝါများ တောက်ပကာ ကောင်းကင်၌ သွားလာနိုင်ကြ၏။ တင့်တယ်သော နေရာထိုင်ခင်းများဖြင့် အသက်ရှည်စွာ နေကြရသည်။ ဗြဟ္မာနှင့် တူသော လူသားများဖြစ်၏။

ထိုအခါ ရေအပြင်၌ နို့မလိုင်ကဲ့သို့ အလွန်အရသာရှိ၍ အဆင်း အနံ့နှင့် ပြည့်စုံသော မြေဆီသည် ရေပေါ်၌ ဝေ့နေ၏။ ထိုမြေဆီကို လက်ဖြင့်တို့၍ စားကြည့်ရာမှ ရသတဏှာ (လောဘ) ထွက်၍ ထမင်းကဲ့သို့ ဆုပ်ယူစားသုံးကြသဖြင့် မြေဆီ ကွယ်ပျောက်ခဲ့ရ၏။

ပီတိကို စားနေသောဘဝမှ မြေဆီကို စားကြရာ အသားအရေ ကြမ်းတမ်းလာ၏။ အရုပ်အဆင်း ညှိုးနွမ်းလာ၏။ ကိုယ်ရောင်ကိုယ်ဝါများ ကွယ်ပျောက်၍ လ၊ နေတို့ ထွက်ပေါ်လာကြ၏။ လောဘ (ရသတဏှာ) ထွက်ပေါ်ရာမှအစ ရုပ်အဆင်း လှ–မလှ နှင့်စပ်၍ တုပြိုင်မာန်တက် အဖက်မလုပ်လိုသော မာနကြောင့် ကာလကြာသောအခါ မြေဆီပင် ကွယ်ပျောက်ခဲ့ရပြန်၏။

ဤနည်းဖြင့် မြေလွှာ၊ နွယ်ချို၊ ဖွဲနု အခွံမပါသော သလေးဆန် အသီး စားသော ဘဝသို့ ရောက်လာကြ၏။ ထိုအခါ ယောကျ်ား၊ မိန်းမ ရုပ်လက္ခဏာများ ဖြစ်ပေါ်ကာ အိမ်ထောင်သားမွေးကြသည်။ နံနက် ခူးစားလျှင် ညနေပြည့်မြဲ ပြည့်နေသော သလေးဆန် ပဒေသာပင်ကိုပင် ရေသာခို ပျင်းရိသော စိတ်ဖြင့် နေ့ဖို့ညစာ အပိုယူရာမှ ဝေခြမ်း၍ ခွဲတမ်းချရသောစနစ်ကို ကျင့်သုံးကြရ၏။

စိတ်ကြမ်း၍ အစာကြမ်း၊ အစာကြမ်း၍ ရုပ်ရောစိတ်ပါကြမ်းရာမှ ခိုးယူစားသောက်မှု၊ တိုက်ခိုက်မှုများ ဖြစ်ပွား၍ မဟာသမ္မတမင်း မြှောက်ကြရသည်။ မင်းမျိုး၊ ပုဏ္ဏားမျိုး၊ ကုန်သွယ်လယ်လုပ်မျိုး၊ သူဆင်းရဲမျိုးခေါ်သော ကမ္ဘာဦးမူလ လူတန်းစားကြီးလေးရပ် ပေါ်ထွန်းလာလေတော့သည်။

ကမ္ဘာဦးကာလ ကမ္ဘာဦးလူတို့သည် ဗြဟ္မာ့ပြည်မှ လာသူများဖြစ်သည့်အတိုင်း ဗြဟ္မဝိဟာရ တရားလေးပါး ကိုယ်ချင်းစာတရားဖြင့် နေထိုင်ခဲ့ကြရာ မေတ္တာနေရာ၌ လောဘ၊ ဒေါသ၊ မာန်မာန စသော စိတ်ပူစိတ်ရိုင်းများ ဝင်လာရာမှ တန်ခိုးသတ္တိ အရှိန်အဝါ၊ ရုပ်လက္ခဏာနှင့် အာဟာရများ ကျဆင်းခဲ့ရကြောင်း လူ့သမိုင်း လာရာ လမ်းဟောင်းကို ပြန်ပြောင်း၍ ဆင်ခြင်သင့်ပေသည်။

၂။ ကြားကာလ လူသား

လူ့သမိုင်းနှင့်စပ်၍ ကြားကာလ ကမ္ဘာလူသားတို့၏ အခြေအနေကို (စက္ကဝတ္တိ သုတ်တော်၌) မြတ်စွာဘုရားရှင် ဟောတော်မူထား၏။

မေတ္တာဝါဒဖြင့် စတင်ခဲ့သော လူသားတို့သည် တစ်စတစ်စ မေတ္တာ လမ်းကြောင်းမှ သွေဖည်ကာ ကိုယ်ကြိုက်ဝါဒသစ်များ တီထွင်ကျင့်သုံးခဲ့ပုံကို ထိုသုတ်၌ တွေ့နိုင်၏။

- ဒုစရိုက် အဓမ္မဝါဒသစ်များကြောင့် လူတို့သက်တမ်း အနှစ် ရှစ်သောင်းမှ ဆယ်နှစ်တန်းအထိ လျော့ကျသွားပုံ၊
- မေတ္တာအခြေခံသော သုစရိုက် ဓမ္မဝါဒ (မေတ္တာဝါဒ)ကြောင့် ဆယ်နှစ်တန်းမှ အနှစ်ရှစ်သောင်းအထိ အဆင့်ဆင့် တိုးတက်သွားပုံ။

ဓမ္မနှင့် အဓမ္မအင်အားတို့၏ နိယာမကို သံဝေဂယူဖွယ် သတိပြုဖွယ် ကောင်းလှပေသည်။

၁။ အနှစ်ရှစ်သောင်းတန်းတွင် 'မစားလောက်၍' ဟုဆိုကာ 'ခိုးတာကိုပင် တရားသည်' ဟု ထင်မြင်သော အယူအဆကြောင့် မင်းက ဆုပေး၊ ဒဏ်ပေးသည့်ကြားက ခိုးမှု၊ သတ်မှုများ လူသားတို့ကမ္ဘာ၌ ပြန့်ပွားလာ၏။ ထို အဒိန္နာဒါနဝါဒ၊ ပါဏာတိပါတ ဝါဒကြောင့် သက်တမ်း ရှစ်သောင်းတန်းရှိ လူတို့၏ သားသမီးများ လက်ထက် တွင် သက်တမ်းခေါက်ချိုးကျကာ အနှစ်လေးသောင်း မျှသာ အသက်ရှည်ကြတော့၏။ ရုပ်အဆင်းလည်း ခေါက်ချိုး အိုစာသွား ကြသည်။

ထို့နောက် –

၂။ မုသာဝါဒ ခေတ်စားလာ၍ အနှစ် နှစ်သောင်းလျော့။

၃။ ပိသုဏာဝါစာဝါဒ = အတင်းပြော ကုန်းချော ခြေထိုးမှုကြောင့် အနှစ်တစ်သောင်းလျော့။

၄။ ကာမေသုမိစ္ဆာဝါဒကြောင့် အနှစ်ငါးထောင်။

၅။ ဖရုသဝါစာ၊ သမ္ဖပ္ပလာပဝါဒ = ကြမ်းတမ်းစွာ ပြောခြင်းမှု၊ အနှစ်မရှိသော အဖျင်းစကားများကြောင့် နှစ်ထောင့်ငါးရာ။

၆။ အဘိဇ္ဈာ = သူများပိုင်ပစ္စည်းကို မတရားရယူလိုမှု၊ ဗျာပါဒ = တစ်ဖက်သား ပျက်စီးဆုံးရှုံးစေချင်သော စိတ်ကြောင့် တစ်ထောင့်ငါးရာ လျော့၍ တစ်ထောင်သာ ကျန်တော့၏။

၇။ 'မိဘဝတ္တရား မလို၊ လူမှုတန်းမှု အပို၊ ကောင်းတာလုပ်လုပ်၊ မကောင်းတာ လုပ်လုပ် ဘာမှမထူး၊ သေလျှင် ပြီးတာပဲ၊ လက်ငင်းဘဝ မသေခင် စားရ၊ ဓိမ်ခံရပြီးရော' ဆိုသော ရုပ်ကြမ်းဝါဒ ကြောင့် အနှစ်ငါးရာလျော့။

၈။ လိင်တူ၊ လိင်ပြား၊ သားမယား၊ အမိ၊ အဒေါ် မရွေးချယ်သော ကာမဂုဏ် နှောင်ကြိုးမဲ့ဝါဒ ကြောင့် သက်တမ်း နှစ်ရာငါးဆယ်၊ နှစ်ရာသာ ကျန်တော့၏။

၉။ မိဘသက်ကြီးရွယ်ကြီးများ၌ ဦးစားပေး လေးစားရန် မလို။ ရဟန်းသံဃာ မြတ်သူ ယုတ်သူ မရှိ။ လူချင်း အတူတူဝါဒ ခေတ်စား ထွန်းကား လာ၍ အနှစ်တစ်ရာမျှသာ ကျန်တော့၏။

၁၀။ နောက်ဆုံး တစ်ရွေ့ရွေ့ လျော့ကျကာ ဆယ်နှစ်တမ်းကာလ လူသားတို့သည် ပို၍ခေတ်မီတိုးတက်လာကြ၏။ ရှေးက လူသား၊ ဘိုးဘွား မိဘ တို့၏ အယူအဆဟောင်းမှန်သမျှ အိတ်သွန်ဖာမှောက် ကောက်သင်း ကောက်စရာပင် မကျန်အောင် အားလုံး စွန့်ပစ်လိုက်ကြ၏။ မကောင်းတာ မှန်သမျှ အကုန်လုပ်၏။ သုစရိုက်ဆယ်ဖြာ မေတ္တာတရားများ လုံးဝ ချုပ်ငြိမ်းကုန်၏။

ဆား၊ ပျား၊ တင်လဲ၊ ဆီ၊ ဆီဥ၊ ထောပတ်များ ကွယ်ပျောက်ကုန်၏။

လူကြီးမိဘ၊ ဆရာသမား၊ ရဟန်းသံဃာတို့အပေါ် တာဝန် မကျေသူ၊ ထော်လော်ကန့်လန့် လုပ်သူတို့အား ပညာရှိ သူရဲကောင်းများအဖြစ် ချီးကျူးဂုဏ်ပြုကြကုန်၏။ ရှိသေလေးစားကာ ဆရာတင် ကြကုန်၏။

ကာမဂုဏ် ဖောက်ပြန်မှုနှင့်အတူ လူလူချင်း မနာလိုမှု၊ ပျက်စီး စေလိုမှု များပြားသည့်အပြင် ဒေါသကြီးကာ ဓက်ရဲလက်ရဲ သတ်ဖြတ်ချင် လာကြ၏။ ထိုစိတ်ပူများကြောင့် သားနှင့်အမိပင် မနာလို ဝန်တို သတ်ဖြတ်ကြ၏။

ထိုအခါ သတ္တန္တရကပ်ကြီးဆိုက်ကာ လူလူချင်း သားကောင်အမှတ်ဖြင့် ပစ်သတ်ကြရာ လက်ဖြင့်ဆွဲမိရာ သက်ငယ်ချောင်းပင် ဖြင်းထန်သော လက်နက်ကြီးအဖြစ် အကုသိုလ်ကံက ထုတ်လုပ်ပေးလိုက်တော့၏။ (ယခုရေနီယမ်ကျောက်ခဲမှ အဏုမြူ ထုတ်လုပ်သုံးစွဲနေသည်ကို သတိရဖွယ်။)

**ကြားကာလ ပြန်လည်ထိန်းသိမ်းရေး**

ယင်းသို့လျှင် ခုနစ်ရက် ခုနစ်လီ တိရစ္ဆာန်ထက်ဆိုးသော သတ်ပွဲကြီးဖြစ်နေစဉ် လူသားအချို့သည် တောတောင်ချောက်ကြားတို့၌ ပုန်းအောင်းကာ သစ်သီးသစ်ရွက်များကိုသာ စားနေကြရ၏။

"ငါက ဘယ်သူ့ကိုမှ မသတ်ဘူး၊

ငါ့ကိုလဲ သတ်မည့်သူ မရှိပါစေနဲ့၊

ချမ်းသာရပါလို၏၊ ချမ်းသာကြပါစေ"

–ဟူသော ကိုယ်ချင်းစာ မေတ္တာစိတ်ထားဖြင့် ပုန်းအောင်းနေကြစဉ် တစ်လောကလုံး အတုံးအရုံး သေကျေပျက်စီး၍ သတ်ပွဲကြီး ပြီးဆုံးသောအခါ ပုန်းအောင်းရာမှ အပြင်သို့ တိုးစမ်းထွက်လာကြ၏။

တစ်ယောက်တလေ အသက်ရှင်ကျန်နေသော လူအချင်းချင်း တွေ့ရလျှင် ဝမ်းသာအားရ ပွေ့ဖက်လျက် နှုတ်ဆက်ကြကုန်၏။

"အချင်းတို့၊ ငါတို့သည် ဒုစရိုက်တရားတို့ကို လိုက်စားမိကြသဖြင့် ငါတို့ဆွေးသား လူသားတွေ ဆုံးရှုံးခဲ့ရပြီ၊ သုစရိုက်တရားကို ကျင့်သုံးကြပါစို့"

–ဟု ဘဝတူ အသိအမြင်တူသူများ ဖြစ်လာကြ၏။ ပို၍ စည်းလုံးချစ်ခင်ကာ မေတ္တာသက်ဝင်လာကြ၏။ ပထမဆုံး ကိုယ်ချင်းစာ မေတ္တာဝါဒအရ **'သူ့အသက် မသတ်ကြေး'** ကတိထားကြသည်။ ထိုသူများ၏ သားသမီးများမှာ ဆယ်နှစ်တန်းမှ အသက်နှစ်ဆယ်အထိ တိုးတက်နေလာရ၏။ ရုပ်ဆင်းအင်္ဂါလည်း ရှေးကထက် လှပ လာကြသည်။

ဤနည်းဖြင့် အနှစ်ရှစ်သောင်းတမ်းထိအောင် မေတ္တာဝါဒဖြင့် သုစရိုက်တရားများကို အဆင့်ဆင့် ကျင့်ပွားထူထောင်ကြရာ ငြိမ်းချမ်း သာယာသော လူသားတို့ကမ္ဘာကြီး ဖြစ်ပေါ်လာတော့၏။

၃။ နောက်ဆုံး ကယ်တင်ရေး ဝါဒကြီး

မေတ္တာဝါဒကား သတ္တဝါတို့အား အမြဲစောင်မ, ကြည့်ရှုလျက်သာ ရှိနေခဲ့ပါ၏။ ကူညီဖေးမ,ပေးရန် အသင့်ရပ်တည်စောင့်ကြည့်နေခဲ့ပါ၏။ သို့ရာတွင် လူသားတို့ကား မိုက်လုံးထွားကြ၏။

'ကြိုက်သလို လျှောက်ပြီးလုပ်ကာ လုပ်သမျှ တရားသည် ထင်နေကြ၏'။ ထိုအကြိုက် ထိုအထင်များကြောင့် နောက်ဆုံး ဤကမ္ဘာလောကကြီး တစ်ခုလုံး အစ, ရှာမရအောင် ရေမျောမီးလောင်၍ ကမ္ဘာကြီးပျက်စီးရသည်အထိ မိုက်ကြကုန်၏။ တစ်နည်းအားဖြင့် စွမ်းအင်ရှိကြကုန်၏။ မည်သို့ပင် မိုက်ရိုင်းကြစေကာမူ မေတ္တာ တရားကြီးကမူ ပြုပြင်၍ မရတော့သည့်အဆုံး နောက်ဆုံးပိတ် ရနိုင်သမျှ ကယ်တင်ရန် အသင့်ရှိနေပေသေးသည်။

ကမ္ဘာကြီး မီး၊ ရေ၊ လေ တို့ကြောင့် ပျက်စီးရတော့မည့်အခြေအနေကို ပါဠိ၊ အဋ္ဌကထာတို့၌ ဖတ်ရှုရပေရာ အလွန်သံဝေဂဖြစ်ဖွယ်၊ ကြောက်လန့်ဖွယ် ကောင်းလှ ပေသည်။ (နောက်ပိုင်း နိကာယ်ကဏ္ဍ၊ ၁၄-သတ္တသူရိယသုတ်စသည်= 'ကမ္ဘာပျက်ခြင်း နှင့် မေတ္တာ' ကိုကြည့်ပါ။)

ကမ္ဘာပျက်တော့မည်ကို လောကဗျူဟာ နတ်တို့သည် အနှစ်တစ်သိန်း ကပင် ကြိုတင်၍ သိမြင်ကာ ကမ္ဘာလောကဓာတ် တစ်ခွင်လုံး လှည့်လည် ကြွေးကြော်ကြ၏။

"အို အချင်းတို့၊ နောင်နှစ်ပေါင်းတစ်သိန်းကြာသောအခါကမ္ဘာဖျက်မိုးကြီး ရွာသွန်း၍ ကမ္ဘာကြီး ပျက်စီးလတ္တံ့။ မဟာသမုဒ္ဒရာလည်း ခန်းခြောက်ကာ ဤကမ္ဘာမြေနှင့်တကွ မြင်းမိုရ်တောင်ကြီးလည်း မီးဟုန်းဟုန်းတောက်၍ ပျက်စီး လတ္တံ့။ ဗြဟ္မာ့ပြည်တိုင်အောင် ပျက်စီးလတ္တံ့။

အချင်းတို့၊ မေတ္တာတရားကို ပွားများကြကုန်လော့။ ကရုဏာ၊ မုဒိတာ၊ ဥပက္ခာတရားတို့ကို ပွားများကြကုန်လော့။ အမိ၊ အဖ၊ အဘိုး၊ အဘွားတို့ကို လုပ်ကျွေးပြုစုကြကုန်လော့ ။ ဆွေကြီးမျိုးကြီးတို့ကို ရိုသေလေးစားကြကုန်လော့။"

ယင်းသို့ လောကဗျူဟာနတ်တို့၏ နှိုးဆော်မှုကြောင့် ငရဲသားတို့သည် ငရဲဘဝမှ လွတ်ကာ ကိုယ်ချင်းစာနာစိတ်ရှိသော တိရစ္ဆာန်ဘဝကို ရရှိကြသည်။ တိရစ္ဆာန်တို့ သည်လည်း တစ်ကောင် တစ်ကောင် အကြင်နာမေတ္တာရှိကြသဖြင့် သေလွန်သောအခါ လူ့ပြည်၊ နတ်ပြည်၌ ဖြစ်ကြရ၏။ လူတို့လည်း သံဝေဂရ၍ ကုသိုလ်ကောင်းမှုပြုကြ သဖြင့် သေလွန်သောအခါ နတ်ပြည်၌ ပြောင်းရွှေ့ကြရသည်။

ထိုအခါ၌လည်း လောကဗျူဟာနတ်တို့သည် ကောင်းကင်၌ လှည့်လည်၍

.....

"အချင်းတို့ ဤနတ်ဘုံ၌ာနလည်း မြဲမြဲခိုင်ခံ့ခြင်း မရှိ။ မေတ္တာ ဖြဟ္မစိုရ် တရားတို့ကိုသာ ပွားများကြကုန်လော့။"

–ဟု နှိုးဆော်ကြပြန်၏။ ထိုအခါ နတ်တို့သည် မေတ္တာစျာန် စသည် ရရှိကာ သေလွန်သောအခါ ကမ္ဘာပျက်ဘေးကြီးလွတ်ရာ ဖြဟ္မာပြည်၌ ဖြစ်ကြရ၏။

အချုပ်ဆိုရသော် မေတ္တာဝါဒကြီးသည် မိုက်မဲလှသော သတ္တဝါတို့အား ကြားကာလ ပြန်လည်ထိန်းသိမ်း၍ မရတော့သည့်အဆုံး ကမ္ဘာကြီးတစ်ခုလုံး စုပ်စမြုပ်စ ပျက်စီး ရတော့မည့်အချိန်မျိုး၌ပင် ရနိုင်သလောက် 'နောက်ဆုံး ကယ်တင်ခြင်း' အနေဖြင့် ကူညီကယ်မ,နေကြောင်း မေတ္တာသမိုင်းက ညွှန်ပြ နေပေသည်။

– ကမ္ဘာကြီး စတင်ရာကာလ၌ မေတ္တာဖြင့်ပင် စတင်ခဲ့၏။

– ကြားကာလ၌လည်း မေတ္တာဖြင့်ပင် ထိန်းချုပ်ပဲ့ပြင်ခဲ့၏။

– ကမ္ဘာကြီး နိဂုံးချုပ်ရာ၌လည်း မေတ္တာဖြင့်ပင် နိဂုံး ချုပ်ရာ–

ကမ္ဘာနှင့် မေတ္တာသည် ခွဲခွာ၍ မရစကောင်းချေ။ **မေတ္တာမရှိသော နေ့သည် ကမ္ဘာမရှိသော နေ့ပင်တည်း။**

(၂)

### သာသနာခေတ် မေတ္တာဝါဒ

လူသားတို့ကမ္ဘာ အသက်တစ်ရာတမ်းတွင် ဗုဒ္ဓရှင်တော်မြတ် ပွင့်ထွန်းတော် မူလာ၏။ မေတ္တာဝါဒသည် သဗ္ဗညုတဉာဏ်တော်ကို မှီခိုခွင့်ရသဖြင့် ပို၍ တောက်ပြောင် ကျယ်ပြန့်လာခဲ့သည်။ ကမ္ဘာကြီးလည်း ပို၍ စိုပြည်လာတော့၏။

ဗုဒ္ဓမပွင့်မီက မေတ္တာဝါဒသည် မတောက်ပြောင် မကျယ်ပြန့်ရုံမျှမက လူနည်းစုအား ဖြဟ္မာ့ပြည်အထိသာ ပို့ဆောင်နိုင်ခဲ့၏။ ဗုဒ္ဓပွင့်တော်မူသောအခါ နိဗ္ဗာန်အထိ တွန်းပို့နိုင်သော 'ပင်မအင်အားကြီး' အဖြစ် တွေ့မြင်လာကြရပေသည်။

၁။ လူသားတို့အတွက် အခြေခံပဓာနဖြစ်၍ ငြိမ်းချမ်းစွာ အတူတကွ နေထိုင်ရေး (ငြိမ်းချမ်းရေး) ဥပဒေသ အဖြစ်လည်း ပို၍ သိမြင်လာကြရ၏။ ထို့မျှမက–

၂။ ကမ္ဘာ့အလှတန်ဆာ၊ ကမ္ဘာ့ပိယဆေးကြီး၊

၃။ အစစအရာရာ စည်းရုံးရေး၊ ညီညွတ်ရေးလက်နက်၊

၄။ အဏုမြူထက်စွမ်းသော မည်သည့်လက်နက်၏ အဖျက်အဆီး

အန္တရာယ်ကမျှ မထိုးဖောက်၊ မဟန့်တားနိုင်အောင် စွမ်းအား အကြီးဆုံး အောင်မြင်ရေး လက်နက်၊ မြေကြီးနှင့် ကောင်းကင်ပမာ ကာကွယ်ရေးတပ်ကြီး၊

၅။ သေမင်းကိုပင် ရင်ဆိုင်ရဲသော ရဲဆေး၊

၆။ ကမ္ဘာ့ဌာန်း ၄၀ တွင် စွမ်းရည်အများဆုံး ပါဝင်၍ အမြန်ဆုံး သမာဓိ ရလွယ်သော စိတ်ထိန်းနည်း၊

၇။ စကြဝတေးမင်း လုပ်ရသည်ထက် မြတ်သော ကုသိုလ် အစုအပုံကြီး၊ သချာ်လွန် ကုသိုလ်၊

၈။ ၆၄–ကမ္ဘာတိုင်တိုင် စွမ်းရည်အာနိသင် မကုန်ဆုံးဘဲ လူ့ထက်လူ၊ နတ်ထက်နတ်၊ မြတ်ထက်မြတ်အောင် ပို့ဆောင်နိုင်သော ဘဝ မြင့်မားရေး နည်းပညာ။

ဤသို့စသည်ဖြင့် မေတ္တာ၏ အားကိုးဖွယ် စွမ်းရည်သတ္တိ၊ ဂုဏ်ထူး ဝိသေသ တို့သည် များလှကုန်၏။ ထို့ကြောင့် ဗုဒ္ဓရှင်တော်မြတ်သည် လောကီ၊ လောကုတ္တရာ သံသရာနှင့် ယှက်ရှိဘဝအတွက် ပထမဆုံးလိုက်နာရမည့် 'အခြေခံ ပဓာန ပင်မ အင်အားကြီး'အဖြစ် ပြဋ္ဌန်တော်မူခဲ့ခြင်းဖြစ်လေသည်။

ဗုဒ္ဓရှင်တော်မြတ်နှင့်အတူ သာဝကကြီး အဆက်ဆက်တို့သည် လူသားတို့ ချမ်းသာမှုအတွက် သာသနာပြုရာ၌ ပွဲတိုင်းအောင် ထိပ်တန်း လက်နက်ကြီးအဖြစ် ကိုင်ဆောင်သုံးစွဲ၍ ပြတော်မူခဲ့ကြလေပြီ။ ဘဝလွတ်မြောက်ရေး အတွက်လည်း အသုံးချ၍ ပြတော်မူခဲ့ကြလေပြီ။ အထူးသဖြင့် ဗုဒ္ဓရှင်တော်မြတ်သည်.....

၁။ လောကနယ်ပယ်အတွင်း လောကီနှင့် မကင်းသေးသူတိုင်း အန္တရာယ် ရန်လုံ၊ ဘက်စုံပြည့်ဝ ၊ အဆိုးထဲက အကောင်းဆုံး၊ အမြင့်မြတ်ဆုံး၊ အချမ်းမြေ့ဆုံး၊ အသာယာဆုံးသောဘဝကို ရရှိစေရန် မေတ္တာဝါဒကို ချမှတ်ပြဋ္ဌန်တော်မူခဲ့၏။ လောကလူသားတို့နှင့် ဆက်သွယ်ကြရာ၌ ကိုယ်တော်တိုင်လည်း မေတ္တာဝါဒကို သုံးစွဲတော်မူရ၏။

၂။ ဘဝလွတ်မြောက်ရေးအတွက်ကား အနတ္တဝါဒကြီးကို ထုတ်ဖော်ပြဋ္ဌန် တော်မူခဲ့သည်။

**ဘာသာအမျိုးမျိုးလူမျိုးအသီးသီး**

**ပြန့်လွှမ်းသွားခြင်း**

ထိုလောကီလောကုတ္တရာဝါဒနှစ်မျိုးတွင် အနတ္တဝါဒ အပေါ်၌ အမျိုးမျိုး အံချော်ကာ ခေတ်အဆက်ဆက် ဘဝင်မကျသူအချို့ ရှိခဲ့သော်လည်း မေတ္တာဝါဒကိုမူ

လက်မခံ နိုင်သောသူ မရှိချေ။ တစ်ကမ္ဘာလုံး လွှမ်းမိုးသွားတော့သည်။ ဘာသာအမျိုးမျိုး၊ လူမျိုး အသီးသီးတို့လည်း မေတ္တာဝါဒဘက်သို့ လုံးဝ မျက်နှာမူလာခဲ့ကြ၏။

ဗုဒ္ဓပွင့်ပေါ်ရာ မဇ္ဈိမဒေသ (အိန္ဒိယနိုင်ငံ)၌ ဗြဟ္မာကို ဦးတိုက်၍ ဗြဟ္မာဝါဒ = ဗြဟ္မဝိဟာရဝါဒကို လက်ခံကြသည်ဆိုသော်လည်း ဗြာဟ္မဏလူမျိုးတို့သည် ဆိတ်၊ ဝက်၊ သိုး၊ နွားများကို ရာနှင့်ချီ၍ သတ်ဖြတ်ကာ ယဇ်ပူဇော်ပွဲများ လုပ်ခဲ့ကြ၏။ ဗုဒ္ဓပွင့်တော်မူစဉ်အချိန်အထိ အကြီးအကျယ် ပြုလုပ်နေကြကြောင်း( သီလက္ခန္ဓဝဂ္ဂပါဠိတော် စသည်၌) တွေ့မြင်ရလေသည်။

ဗုဒ္ဓ၏ အရှိန်အဝါများ အားကောင်းလာချိန်မှစ၍ ယခုအချိန်အထိ ဗြာဟ္မဏ တို့သည် (နိဂဏ္ဌဂိုဏ်းဝါဒနှင့်ပူးတွဲလျက်) အဟိံသာဝါဒ၊ မေတ္တာဝါဒကို လက်ကိုင်ပြု ခဲ့ကြ၏။ အိန္ဒိယအမျိုးသား ခေါင်းဆောင်ကြီး မဟတ္တမဂန္ဒီ၏ ဘဝနှင့် လုပ်ဆောင်ချက် များတွင် အဟိံသာနှင့် မေတ္တာရောင်များ ထင်ဟပ်နေသည်ကို တွေ့မြင်နိုင်လေသည်။

ခရစ်ယာန်ဘာသာဝင်တို့လောက အနောက်ဘက်ကမ္ဘာတစ်လွှားတွင်ကား မေတ္တာတရား၊ မေတ္တာဝါဒကို အသက်နှင့်လဲ၍ပင် ထူထောင်ခဲ့ကြလေသည်။ 'တစ်စုံတစ်ဦးက ပါးတစ်ဖက်ကို ရိုက်လျှင် အခြားတစ်ဖက်ကိုပါ ထိုးပေးရန်' သည်းခံခြင်းနှင့် မေတ္တာဝါဒကို ခရစ်တော်သည် အထူးဦးစားပေး သွန်သင်ခဲ့၏။

၁၉၅၈-ခုနှစ်မှစ၍ သုံးနှစ်သုံးကြိမ် မန္တလေး မဟာဗောဓိကမ္မဋ္ဌာန်းတိုက်၌ အနာဂါမ် ဆရာသက်ကြီးနည်း ဥပနိဿယအတိုင်း တရားအားထုတ်သွားသော ဩစတြေးလျသူ "မာရီဘီ-ဘိုင်းလ်စ်" ခေါ် အမျိုးသမီး ယောဂီကြီးမှာ မူလက ခရစ်ယာန်ဘာသာဝင်ဖြစ်ခဲ့၏။ နှစ်ပေါင်းများစွာ ဗုဒ္ဓစာပေများကို ဖတ်ရှုရင်း ဗုဒ္ဓဘာသာသို့ သက်ဝင်လာသူဖြစ်သည်။ အနတ္တဝါဒ ဘဝလွတ်မြောက်ရေးအတွက် ဝိပဿနာ နည်းပေးမည့်သူများ မရရှိသေးမီက မိမိနားလည်ထားသမျှ မေတ္တာ ဘာဝနာကို ၁၉-နှစ်တိုင်တိုင် အားထုတ်နိုင်သည်မှာ ခရစ်တော်၏ မေတ္တာနှင့် မကင်းချေ။

အထူးသဖြင့် မေတ္တာဝါဒကို ကျေကျေလည်လည် ကြည်ကြည်လင်လင် လက်ခံ ထားပြီးသော ခရစ်ယာန်ဘာသာဝင်တို့အတွက် အနတ္တဝါဒသို့ သက်ဝင်ရာ၌ ခရီးတစ်ဝက် လျှောက်ပြီးဖြစ်ကြောင်း မာရီက ထောက်ပြခဲ့၏။

ထိုမှတစ်ပါး ကမ္ဘာ့ဘာသာကြီးတစ်ရပ်ဖြစ်သော အစ္စလာမ် ဘာသာ ဝင်တို့ထဲမှာပင် မေတ္တာဝါဒကို အတိအလင်း ထုတ်ဖော်ကြေညာ၍ လက်တွေ့ ကိုယ်ချင်းစာတရားရှိသော တကယ့်မူစလင် သူတော်စင်များ ရှိနေကြ၏။ ယခုအခါ 'ဘဟာအီ' ခေါ်သော မူစလင် ဂိုဏ်းကွဲတစ်ခုမှာ မေတ္တာဝါဒီများ ဖြစ်ကြသည်ဆို၏။ အမေရိက စသော ကမ္ဘာ့နိုင်ငံကြီးများမှနေ၍ ဘဟာအီ မေတ္တာဝါဒကို ကမ္ဘာအနှံ့

ဖြစ်ဖြိုးလျက်ရှိသည် ဟုလည်း သိရှိရပေရာ ကမ္ဘာ့ငြိမ်းချမ်းရေးအတွက် ဘာသာဝင်အသီးသီးတို့၏ ရပ်တည်ချက်မှာ အားရဖွယ်ကောင်းလှပေသည်။

ဗုဒ္ဓပွင့်တော်မူလာခြင်းသည် ဗုဒ္ဓဘာသာဝင်တို့အတွက်သာမက စဉ်းစားဉာဏ်၊ အသိဉာဏ်ရှိသော မည်သည့်လူမျိုး ဘာသာဝင်တို့အတွက်မဆို တန်သလောက် အကျိုးသက်ရောက်စေတော်မူခဲ့၏။

"ဗုဒ္ဓပွင့်တော်မူလာ၍ ကမ္ဘာ့ဘာသာ လူမျိုးအသီးသီးထံသို့ ဗုဒ္ဓ၏ မေတ္တာဝါဒ စိမ့်ဝင်စီးဆင်းကာ လွှမ်းမိုး၍ သွားသဖြင့် ကမ္ဘာ့သူ ကမ္ဘာ့သားတို့ ကိုယ်ချင်းစာတရား၊ မေတ္တာထားကာ ချမ်းသာမှု ကိုယ်စီ ရရှိနေကြကြောင်း" 'ပရော်ဖက်ဆာ ဒတ်စ်ဂု-ပ်တား' ၏ **အင်းဒီးယန်း ဖီလော်ဆော်ဖီ** စာအုပ်ကြီး၌ အတိအလင်း ဖော်ပြထား၏။

**သာသနာ အပြင်ဘက်မှာ ပြည့်စုံစွာမရှိ**

သာသနာအပြင်ဘက်၌ မည်မျှပင် မေတ္တာဝါဒ ထွန်းပနေပါသည်ဟု ဆိုစေ၊ ဗုဒ္ဓ မပွင့်ပေါ်မီကပင် ကျင့်သုံးလာခဲ့ကြသည်ဟုပင် ဆိုစေဦး၊ စင်စစ် မေတ္တာဝါဒသည် သာသနာအပြင်ဘက်၌ ပြည့်စုံစွာ မရှိနိုင်ကြောင်း မြတ်စွာဘုရားရှင် ကိုယ်တော်တိုင် မေတ္တာသဟဂတသုတ်တော်၌ အတိအလင်း ဟောပြတော်မူထားလေသည်။ ('နိကာယ်'ကဏ္ဍ၊ ၇-'ဗြဟ္မဝိဟာရ ပန်းတိုင်များ' ၌ကြည့်ပါ။)

"ရဟန်းတို့၊ ဗြဟ္မဝိဟာရ တရားသည် အညတိတ္ထိယ(ဘာသာခြား) တို့၏ အရာမဟုတ်။ ငါဘုရားကို ဖြစ်စေ၊ ငါ၏ တပည့်သာဝကကို ဖြစ်စေ၊ ဤသာသနာတော်မှတစ်ဆင့် ကြားနာရဖူးသူကိုဖြစ်စေ ဖယ်ထား၍ ဤ ဗြဟ္မဝိဟာရ ပြဿနာတို့ကို စိတ်ကျေနပ်လောက်အောင် ဖြေဆိုနိုင်မည့်သူ တစ်ဦးတလေမျှ နတ်နှင့်တကွ သုံးလောက၌ မရှိချေ။"

အယူဝါဒအမျိုးမျိုးကြား၌ နားယောင်ရှုပ်ထွေးနေကြသော ဟာလိဒ္ဒဝသန နိဂုံး ရွာသူရွာသားများအား ဟောကြားတော်မူခဲ့ပေ၏။

(မေတ္တာစျာန်ရအောင် သမာဓိ ထူထောင်နည်း၊ မေတ္တာစျာန်ကို အခြေခံ၍ ဝိပဿနာ တက်ပုံ၊ မေတ္တာနှင့်စပ်သော သိမှတ်ဖွယ်လေ့ကျင့်ခန်း အပြည့်အစုံကို အခန်း ၆- 'ဗြဟ္မ ဝိဟာရ အဖွင့်၌' ကြည့်ပါ။)

(၃)

## လက်ရှိကမ္ဘာနှင့် မေတ္တာဝါဒ

ယနေ့ လက်ရှိကမ္ဘာသည် အားလုံးသိမြင်ကြသည့်အတိုင်း မည်သည့်နေရာ၌မျှ ကွက်လပ်မကျန်ရအောင် ဒုက္ခပင်လယ်ဝေနေ၏။

တတိယကမ္ဘာစစ်ကြီး၊ နေ့လား ညလား ကြောက်လန့်နေကြရသည်။

ကွက်၍ကွက်၍ လောင်နေသော စစ်မီးများက ငြိမ်းစဲသည် မရှိ။

ယခုခေတ် စစ်ပွဲများကား ရှေးအခါကကဲ့သို့ သွေးထွက်သံယိုစစ်ပွဲမျိုး မဟုတ်။ ကာယကံရှင်ကိုယ်တိုင် မသိဘဲ ဝုတ်တုတ်သေရသော စစ်ပွဲမျိုး ဖြစ်၏။ လူများစုကား စစ်မီးတောက်ကြီးများကိုသာကြည့်၍ မိမိတို့ထံ ကူးစက်လာမည်ကို ကြောက်ရွံ့နေကြ သည်။

စင်စစ် မျက်စိဖြင့် မြင်ရသော စစ်မီးတောက်ကြီးများထက် ကြောက်စရာကောင်းသော အန္တရာယ်တို့သည် အပ်ချစရာမျှမကျန်အောင် ကမ္ဘာနှင့်အဝန်း ပြန့်ပွားနေကုန်၏။

### တစ်နေ့ထက်တစ်နေ့ ပူ၍ပူ၍လာသော ကမ္ဘာ

ရှေးအခါကကဲ့သို့ မဟုတ်။ ထုထပ်နက်ရှိုင်းသော ရေခဲပြင်၊ ရေပြင်အောက်မှလည်း ငရဲဗုံးများကို အသင့်ကိုင်ဆောင်ထားကြ၏။ ကမ္ဘာကိုပင် အမြဲလှည့်ပတ်၍ အဆိပ်များကို ကိုင်ဆောင်ခြိမ်းခြောက်နေသော ဂြိုဟ်တုကြီးများလည်း ကောင်းကင် မလပ်တော့ပြီ။

– အဏုမြူဗုံး စမ်းသပ်ရာမှ အဆိပ်များ၊

– စက်ကိရိယာ လောင်စာဓာတ်ငွေ့ စက်ချေးများ၊

မြေ၊ ရေနှင့် လဟာပြင်တစ်ခုလုံး ပြန့်ပွားနေရာ ရှူရှိုက်သော လေ၊ သောက်သုံးသော ရေကအစ အန္တရာယ်ကြီးလှပေ၏။

ထိုအညစ်အကြေးများကြောင့် ခရမ်းဘေးရောင်ခြည် အန္တရာယ်မှာလည်း ကြာလေ စိုးရိမ်ဖွယ်ကြီးလေဖြစ်၏။ အိုဇုန်းဓာတ်အားနည်းကာ ကမ္ဘာ၌ အပူဓာတ် တစ်နှစ်ထက် တစ်နှစ် ပိုလာ၏။ မိုးခေါင်, ရေကြီး, တော်လည်း, လျှော်မုန်တိုင်းများလည်း နှစ်စဉ် လူဦးရေနှင့်အတူ တိုး၍တိုး၍ လာ၏။ ရိက္ခာကား ရှား၍ရှား၍ နေပြီ။

သို့သော် လူသားတို့ကား 'ငါ့ကြောင့်' ဟု မမြင်ကြသေး။ သဘာဝကိုသာ တွင်တွင် လက်ညှိုးထိုးနေကြတုန်း။ 'ဆင်နင်း၍ မသေ၊ ဆင်ချေးပိ၍

သေမှာကြောက်ရ’ ဆိုသကဲ့သို့ စစ်လက်နက် လူသတ်ပွဲကြီး မဖြစ်စေကာမူ ဓာတ်ငွေ့၊ ဓာတ်ပြာ၊ ဓာတ်ချေးပိမှာ ကြောက်နေကြရလေသည်။

**အဆိပ်တုံး အဆိပ်ကမ္ဘာကြီး**

တစ်ဦးထက်တစ်ဦး သာလွန်အောင် နည်းမျိုးစုံဖြင့် စိုက်ပျိုးကြရာ၌ပင် အဆိပ်ကို အသုံးပြုနေကြသည်။ ဆေးဝါးထုတ်လုပ်မှု၌လည်း ကန့်လောက်နှင့် ပြီးရမည့်ကိစ္စ၌ စိန်ကို အသုံးပြုကြ၊ စိန်တစ်မှုန့်နှင့်ပြီးရမည့်ကိစ္စ၌ တစ်ရွှေးသားထည့်၍ အပြိုင်အဆိုင် ဖော်စပ်ထုတ်လုပ်ကြသည်။

အတိမ်းအယိမ်းမခံသော ဆေးများဖြစ်၍ ရောဂါကယ်တင်သော ဆေးကိုပင် ကြောက်နေကြရပြန်ပြီ။

ကမ္ဘာတစ်ခွင်လုံး ထွက်ပေါက် မရှိ၊ ပိတ်မိ၍သာ နေကြရ၏။ ကမ္ဘာကြီးကား ‘အဆိပ်ကမ္ဘာကြီး’ ဖြစ်နေလေသည်။

အဆိပ်ကမ္ဘာကြီးအတွက် နောက်ဆုံးဆေးကား (လက်နက် အမျိုးမျိုး၊ အဆိပ်အမျိုးမျိုးကို ကာကွယ် ချေဖျက်နိုင်စွမ်းသော) မေတ္တာဆေးတော်ကြီးမှ လွဲ၍ အခြားမရှိချေ။

မီးကို ငြိမ်းသတ်နိုင်သည်မှာ ရေသာလျှင် ဖြစ်၏။

(၄)

**အသိဉာဏ်ရှိ တာဝန်သိစို့**

- ပြဆိုခဲ့ပြီးသော သမိုင်းကြောင်း သာဓက၊
- ကြောက်လန့်ဖွယ်ကောင်းလှသော အန္တရာယ်၊
- ကိုးကွယ်အားထားလောက်သော မေတ္တာ၏ စွမ်းအားသတ္တိများ

ထိုအရာအားလုံးကို ခြုံငုံသုံးသပ်ပြီးနောက် ဤ ‘မေတ္တာဝါဒ’ ကို နှစ်နှင့်ချီ၍ ရေးသားခဲ့ပါသည်။ လူတိုင်းအတွက် ဗဟုသုတရရုံ မဟုတ်။ လက်တွေ့ အသုံးချလို့ ရသော ဗုဒ္ဓဝါဒ၏ အခြေခံ အင်အားများကိုသာ ရွေးချယ်၍ ဉာဏ်စွမ်းရှိသလောက် ထုတ်ဖော်ရခြင်း ဖြစ်ပါ၏။

“မောင်ဌေးလှိုင်၊ မေတ္တာနှင့်စပ်လို့ တစ်ကျမ်း ရေးဖို့ကောင်းတယ်၊ ဒီခေတ်မှာ အလွန်လိုအပ်တယ်ကွ၊ မေတ္တာအကြောင်းရေးကြတဲ့ စာအုပ်တွေ ရှိသင့်သလောက် ရှိနေပေမယ့် ဘုရားရှင်၏ အာဘော်မိအောင် အရသာရှိရှိ အင်အားသတ္တိ ပေါ်အောင်ရေးတဲ့ စာအုပ် မရှိသေးဘူး၊ အချိန်ရလို့ မင်း

ရေးရင် ကောင်းမယ်"

ကျွန်ုပ်အား ပဋိပတ် အသိဉာဏ်လည်းပေး၊ (ပလိဗောဓဖြစ်၍) စာရေးသည့်ကိုလည်း မကြိုက်သော ကျေးဖူးရှင် ဆရာတော်ဘုရားကြီးတစ်ပါးက လွန်ခဲ့သောငါးနှစ်ကျော်ကပင် အထက်ပါအတိုင်း အမိန့်ရှိခဲ့ဖူးပါသည်။

ကျွန်ုပ်လည်း မေတ္တာအကြောင်း ရေးလိုပါ၏။ တန့်သလောက် ပရိယတ္တိဗဟုသုတလည်း ရှိထားပါသည်။ သို့ရာတွင် ဆရာတော်အမိန့်ရှိသော မေတ္တာစာမျိုးကိုမူ ရေးရန်မဝံ့ပါ။ ကျွန်ုပ်ကိုယ်တိုင်ကလည်း "ယမ်းတမ်း သမ်းတံ ပဒံအဘိသမေစ္စ"နှင့် "အဝေယော ဟောတု" မေတ္တာမျိုးလောက်သာ ရှိနေခဲ့သဖြင့်မရေးဖြစ်ပါ။

ယခုလည်း 'ဟုတ်လှပြီ' အနေဖြင့် တင်ပြရခြင်း မဟုတ်။ 'ရှေးကနှင့်စာလျှင် သင့်တန်လောက်ရဲ့' ဟု ယူဆကာ တင်ပြရပါသည်။ အထူးသဖြင့်ကံကောင်းထောက်မ,၍ ဤစာအုပ်ရေးနေချိန်တွင် ကျေးဖူးရှင် မဟာစည်ဆရာတော်ဘုရားကြီးက သမီး သီလရှင် များမှတစ်ဆင့် စာအုပ် ၅-အုပ် ချီးမြှင့်လိုက်ရာတိုက်တိုက်ဆိုင်ဆိုင် ဆရာတော်၏ 'ဗြဟ္မဝိဟာရ တရားတော်' စာအုပ်တစ်အုပ်ပါလာပါသည်။ ဆရာတော်ဘုရားကြီး၏ ဉာဏ်တော်နှင့် မေတ္တာတော်ကို မှီခိုခွင့်ရပါသဖြင့် ဤကျမ်းစာကို ပို၍ အချိန်စောစွာ တင်ပြလာနိုင်ခြင်း ဖြစ်ပါသည်။

**ကျမ်းစာ အစီအစဉ်**

ရေးသားရာ၌ အခန်းကဏ္ဍ ရှစ်ခန်းထား၍ ရေးသားထားပါသည်။ အခန်းလေးခန်းမှာ ကိုယ်တွေ့ဝတ္ထုများဖြင့် ဖွဲ့စည်းထားရာ-

၁။ ဗုဒ္ဓကိုယ်တွေ့ မေတ္တာအောင်ပွဲများ၊

၂။ ဗုဒ္ဓခေတ် မေတ္တာစံပြ ပုဂ္ဂိုလ်ကြီးများ၊

၃။ သီဟိုဠ်ခေတ်နှင့် မြန်မာနိုင်ငံ မေတ္တာစံပြ ပုဂ္ဂိုလ်ကြီးများ၊

၄။ တိရစ္ဆာန်တို့၏ မေတ္တာ ဟူ၍-

မေတ္တာသည် အချိန်အခါ နေရာဒေသမရွေး၊ ပုဂ္ဂိုလ်ရေး မျက်နှာမလိုက်၊ သဒ္ဓါဝီရိယ အရင်းစိုက်လျှင် စိုက်နိုင်သလောက် ခရီးပေါက် အောင်မြင်သည့်သဘောကို ညွှန်ပြထားပါသည်။ ထိုမှတစ်ပါး -

၅။ လောကအမြင် (သိပ္ပံနှင့် စိတ်ပညာရှုထောင့်)၊

၆။ ဗြဟ္မဝိဟာရ အဖွင့်၊

၇။ ကိုယ်တွေ့ မေတ္တာပွားနည်း၊

၈။ နိကာယ်ကဏ္ဍ (နိကာယ်ငါးရပ်လာ မေတ္တာဒေသနာများ) အားဖြင့်

အခန်းပေါင်း ရှစ်ခန်းခွဲဝေကာ ဉာဏ်စွမ်းရှိပါသမျှ ရေးသားပြုစုထားရာ အထိုက်အလျောက် ကျေနပ်မှုရကြလိမ့်မည်ဟု မျှော်လင့်ပါသည်။

**ကျေးဇူးတင်ဖွယ် အသွယ်သွယ်**

ဤကျမ်းကို ပြုစုနေစဉ် တစ်လအတွင်း၌ပင် ဆေးရုံသုံးရုံ ပြောင်းရွှေ့တက်ရသည့်အပြင် လေးငါးလ အနားယူနေရလောက်အောင် ကျန်းမာရေး အားနည်းသွားခဲ့ပါသဖြင့် အတန်ငယ်ကြန့်ကြာသွားရပါသည်။ ဤကျမ်းစာ အပြီးသတ်နိုင်အောင် အဘက်ဘက်က ကူညီအားပေးခဲ့ကြသော အောက်ပါ ဓမ္မမိတ်ဆွေများအား အထူးသတိရ ကျေးဇူးတင်ကြောင်း ဖော်ပြရပါသည်။

၁။ ဦးချစ်အောင်–ဒေါ်အေးအေးသန့် (နှလုံးလှ မိသားစု)၊

၂။ ဆေးရုံအုပ် အထူးကု ဆရာဝန်ကြီး ဦးမောင်မောင်အေး၊ အထူးကု ဆရာဝန်ကြီး ဒေါ်သိန်းသိန်းဝင်း (အင်းစိန်ဆေးရုံကြီး)၊ ဒေါက်တာ စောဝင်းကျော်၊ (ရန်ကုန်ဆေးရုံကြီး)၊ ဒေါက်တာ ဒေါ်မာ (သမိုင်းဒေသန္တရ) နှင့် ဒေါက်တာ ဒေါ်မြင့်မြင့်နွယ်။

၃။ ပိဋကတ် မြန်မာပြန် အယ်ဒီတာ ဆရာကြီး ဦးမျိုးမြင့်၊ ညီဖြစ်သူ ဘိအေ မွှားစရိယ ဦးထွန်းရွှေ နှင့် အင်္ဂလိပ်စာ အယ်ဒီတာ ဦးချစ်တင်၊

၄။ ဓွေတာရိမဂ္ဂဇင်း တာဝန်ခံ အယ်ဒီတာ ဦးလေးမြိုင် နှင့် ရွှေဘိုစောလွင်၊

၅။ ကမ္ဘာအေး ဦးမြင့်အုန်း၊ ဦးစိန်လှအောင် နှင့် ကမာရွတ် ဦးချစ်ရှိန်၊

၆။ မန်နေဂျာ ဦးလှဝင်းစိန်၊ စာမူပြင်ဆင်ဖတ်ရှုပေးသော ဆရာ ဦးသိန်းနိုင်၊ ဖိုမင်၊ စာစီလုပ်သားများနှင့် စက်ဆရာ ဆရာအေးတို့က ပုံနှိပ်ဖြန့်ဖြူးသည့် အပိုင်းကို အသီးသီး တာဝန်ယူ ကူညီအားဖြည့်ပေးကြသဖြင့် အထူးကျေးဇူးတင်ရပါသည်။

အထူးသဖြင့် ကျွန်ုပ်၏ တိုင်းပြုပြည်ပြု သာသနာပြု လုပ်ငန်းများတွင် နောက်ပိုင်းမှ လိုလေသေးမရှိ ချမ်းချမ်းသာသာ သာသနာပြုနိုင်အောင် ကူညီ၍ ပါရမီဖြည့်ပေးသူ ဇနီး ဒေါ်ကြင်မြင့် (ဗုဒ္ဓအသံ စာပေ) အား ပို၍ပင် ကျေးဇူးတင်ရပါသည်။

**ကမ္ဘာ့ငြိမ်းချမ်းရေးသို့**

ဤစာအုပ်ပါ မေတ္တာဝါဒ ကျင့်စဉ်များအရ ဖြစ်စေ၊ မိမိတို့ လေ့လာပွမ်းတီး ပြီးကျင့်စဉ်အရဖြစ်စေ (မှန်ဘီလူးဖြင့် နေရောင်ကိုခံ၍ မီးညှိသည့်အလား)

ထိုထိုဤဤ အစီအစဉ် မရှိ၊ ပျံ့လွင့်၍ ကစဉ့်ကလျား တပ်ပျက်နေသော ဥဒ္ဓစ္စစိတ်များကို သမာဓိဖြင့် စုစည်းကာ သတ္တဝါအများစုအတွက် ကျင့်သုံးနိုင်ကြပါစေရန် အထူးမျှော်လင့်ပါသည်။

တာဝန်လည်း သိ၊ အသိဉာဏ်လည်း ရှိသော ဘုရား သားတော်၊ သမီးတော်များပီပီ မြို့ရွာရပ်ကွက်တိုင်းရှိ ဓမ္မာရုံတိုင်း၌ **အသံတိတ် မေတ္တာပွားပို့ပွဲကြီးများ** ပြုလုပ်၍ "ကမ္ဘာ့ငြိမ်းချမ်းရေးကို ငါတို့ ရယူပေးမည်" ဟု တစ်ခဲနက် ယူဆကြပါမှကား ဤကျမ်းစာ၏ မျှော်လင့်ချက်ကို အပြည့်အဝ ဖြည့်စွမ်းလိုက်သည့် ပုဂ္ဂိုလ်များဟု အတိုင်းမသိ ဝမ်းမြောက်ရပါမည်။

အတုမဲ့ ကျေးဇူးတင်ရမည့်သူများ ဖြစ်ပါတော့သည်။

ကံကောင်းထောက်မ၍ ဗုဒ္ဓသာသနာခေတ် မေတ္တာဝါဒကြီးကို အပြည့်အစုံ အကြွင်းမဲ့ သိမြင်နားလည်ထားပြီးသော ယောဂီများ၊ အထူးသဖြင့်အရိယာ သူတော်ကောင်း ကြီးများ၏ (သီလ, သမာဓိ, ပညာ တို့ဖြင့် အရောင်တင် အထွတ်တပ်ထားသော) မေတ္တာအင်အားများနှင့်အတူ ဤကျမ်းစာသည် ကမ္ဘာသူ ကမ္ဘာသား သတ္တဝါအများစုအတွက် ဖြစ်ပါစေသတည်း။

အသိမှန်ရ၍ ချမ်းသာကြပါစေ။

* သူတော်ကောင်းစာတတ်
တရားမြတ်
လွှမ်းပတ်ကမ္ဘာ တည်ရမည်။

ရွှေလှိုင်

၁၃၄၀-ပြည့်နှစ်၊ တပေါင်းလ၊ (၃-၃-၁၉၇၉)



# အခန်း (၁)

ဗုဒ္ဓ၏

# မေတ္တာကိုယ်တွေ့ဝတ္ထုများ

[illegible]

## သာသနာအပြင်ဘက်မှာ ပြည့်စုံစွာ မရှိ

"ရဟန်းတို့၊ ဖြဟ္မဝိဟာရတရားသည် အညတိတ္ထိယ (ဘာသာခြား) တို့၏ အရာမဟုတ်။ ငါဘုရားကို ဖြစ်စေ၊ ငါ၏ တပည့်သား သာဝကကိုဖြစ်စေ၊ ဤသာသနာတော်မှ တစ်ဆင့် ကြားနာရဖူးသည်ကို ဖြစ်စေ ဖယ်ထား၍ ဤ ဗြဟ္မဝိဟာရ ပြဿနာတို့ကို စိတ်ကျေနပ် လောက်အောင် ဖြေဆိုနိုင်မည့်သူ တစ်ဦးတလေမျှ နတ်နှင့်တကွ သုံးလောက၌ မရှိချေ။"

ဗုဒ္ဓအသိစာပေ

ဗုဒ္ဓကိုယ်တွေ့ မေတ္တာအောင်ပွဲများ

- အရှင်အာနန္ဒာ၏ သူငယ်ချင်း 'ရောဇ'
- နာဠာဂိရိနှင့် အာဠဝက
- ပဋ္ဌဝဂ္ဂိငါးပါးနှင့် ဘုရားရှင့်မေတ္တာ
- လိစ္ဆဝီ ဆိုးသွမ်းလူငယ်များနှင့် ဗုဒ္ဓ
- ကောသမ္ဗီ အဓိကရုဏ်းကြီး
- မစလလွှတ်တော်

**ဗုဒ္ဓကိုယ်တွေ့ မေတ္တာအောင်ပွဲများ**

တစ်ချိန်သောအခါက ဗုဒ္ဓရှင်တော်မြတ်သည် နောက်ပါသံဃာ တစ်ထောင့် နှစ်ရာ ငါးကျိပ်တို့နှင့်အတူ အာပဏရွာမှ ကုသိနာရုံပြည်သို့ ဒေသစာရီ ကြွချီ တော်မူ၏။

ဘုရားရှင် ကုသိနာရုံပြည်သို့ ကြွချီတော်မူရာ၌ အကြောင်းအားလျော်စွာ ဘုရားရှင်၏ ဩဝိသ မေတ္တာအင်အားကိုပါ သိရှိကြည်ညိုခွင့် သာခဲ့လေသည်။ ထိုကုသိနာရုံ ခရီးသွားမှတ်တမ်း မေတ္တာဓာတ်လမ်းကို 'ဝိနည်းပိဋက မဟာဝဂ္ဂ ပါဠိတော်' (၃၄၅) ၌ 'ရောဇမလ္လဝတ္ထု'ဟူ၍ သင်္ဂါယနာတွင် မှတ်တမ်းတင်တော် မူခဲ့ကြသည်။

ကုသိနာရုံပြည် မလ္လမင်းသားတို့သည် လိစ္ဆဝီ မင်းများကဲ့သို့ ဦးသျှောင်အဖွဲ့ ဖွဲ့စည်းကာ လွှတ်တော်ဖြင့် အုပ်ချုပ်သော မင်းများဖြစ်၏။ (မဟာပရိနိဗ္ဗာနသုတ်။) မြတ်စွာဘုရား ကြွတော်မူမည် ရှိသောအခါ တစ်ပြည်လုံးသို့ပင် အမိန့်ပြန်တမ်းများ ထုတ်ဆင့်ထားရာ တစ်ပြည်ထောင်လုံး အုတ်အုတ်ကျက်ကျက် တစ်ခဲနက် ကြိုဆို ပူဇော်ကြသည်။

**၁။ အရှင်အာနန္ဒာ၏ သူငယ်ချင်း 'ရောဇ'**

ဘုရားအမှူးရှိသော သံဃာတော်များကြွအလာ ထိပ်ပိုင်းက ကြိုဆိုသူ များတွင် တိုင်းပြည်၏ မျက်နှာဖုံးအသွင် ထင်ပေါ်ကျော်ကြားသူ 'ရောဇ'

ခေါ်သော မလ္လမင်းသား တစ်ဦးလည်း ပါဝင်၏။ အရှင်အာနန္ဒာ၏ သူငယ်ချင်းလည်းဖြစ်သည်။ သို့ရာတွင် ရောဇသည် ရတနာသုံးပါးအား လေးစားကြည်ညိုသူ မဟုတ်။ လောကစည်းစိမ်၌သာ နစ်မြုပ်နေသူဖြစ်၏။

အရှင်အာနန္ဒာ သာဝတ္ထိ၌ သီတင်းသုံးစဉ် တစ်ချိန်သောအခါ သူငယ်ချင်း ရောဇ၏ ပင့်လျှောက်ချက်အရ အရှင်အာနန္ဒာ တစ်ပါးတည်း ကုသိနာရုံသို့ ကြွလာဖူးသေး၏။ ထိုစဉ် ရောဇသည် အရှင်အာနန္ဒာအား .....

"မိတ်ဆွေ အာနန္ဒာ၊ အကျွန်ုပ်မှာ စည်းစိမ်ဥစ္စာ ရတနာတွေများစွာရှိပါ၏။ သင့်အား စည်းစိမ်ထက်ဝက်ခွဲပေးပါမည်။ အကျွန်ုပ်တို့ သူငယ်ချင်းနှစ်ဦး ပျော်ပျော်ပါးပါးနေကြစို့."ဟု လူထွက်ရန် ကာမဂုဏ်ဖြင့် ဖိတ်မန်၍ အရှင်အာနန္ဒာက ကာမဂုဏ်၏ အပြစ်များကို ဟောပြောပြသကာ သာဝတ္ထိသို့ ပြန်ကြွသွား၏။

"အာနန္ဒာ၊ ရောဇသည် ယခုသာလျှင် မဟုတ်၊ ရှေးအခါကလည်း ရသေ့ရဟန်းတို့ကို ကာမဂုဏ်ဖြင့် ဖိတ်မန်ဖူးလေပြီ" ဟု ဘုရားရှင်က အရှင် အာနန္ဒာအား အတိတ်ဆောင်ကာ 'ဝစ္ဆနခဇာတ်တော်'ကို ဟောတော်မူခဲ့ဖူး၏။
(ဒုကနိပါတ်၊ ဇာ၊ ဋ၊ ၂။ ၂၁၂။)

သူငယ်ချင်းဟု ဆိုသော်လည်း အရှင်အာနန္ဒာနှင့် ရောဇသည် လုံးဝခြားနားလျက်ရှိခဲ့သည်။

ကုသိနာရုံ ပြည်သားတို့သည် ဘုရားအမှူးရှိသော သံဃာတော်များအား ကြိုဆိုဖူးမြော် ပူဇော်သက္ကာရပြုပြီး အသီးအသီးပြန်သွားကြရာ ရောဇကမူ မပြန်နိုင်သေးဘဲ အရှင်အာနန္ဒာအား သွားရောက်တွေ့ဆုံနေခဲ့သည်။ ရောဇကို တွေ့ရလျှင် အရှင် အာနန္ဒာသည် လွန်စွာဝမ်းသာအားရဖြစ်ကာ .....

"အဆွေ ရောဇ၊ သင် ယခုကဲ့သို့ ဘုရားရှင်အား ခရီးဦးကြိုပြုခြင်းသည် ကောင်းမြတ်လှပေ၏" ဟု ချီးကျူးစကားဖြင့် နှုတ်ဆက်ပြောဆိုရာ ရောဇ၏ စကားကြောင့် အရှင်အာနန္ဒာ စိတ်မကောင်းဖြစ်ရပြန်လေသည်။

"အရှင်အာနန္ဒာ၊ အကျွန်ုပ်သည် ဘုရား–တရား–သံဃာကို ကြည်ညို၍ မဟုတ်ပါ။ ဘုရားရှင်အား ခရီးဦးကြိုဆိုခြင်း မပြုသူ ဒဏ်ငွေ ငါးရာ ဆောင်ရမည်ဟု အားလုံး ကတိကဝတ် ရှိထား၍သာ လာရခြင်းဖြစ်ပါသည်"

အရှင်အာနန္ဒာသည် သူငယ်ချင်း ရောဇအတွက် စိတ်မကောင်းလှသဖြင့် စကားပင် မပြောနိုင်ဘဲ 'ဖြစ်မှဖြစ်ရလေ ရောဇရယ်' ဟုသာ ညည်းတွားရင်း ရောဇအား ထားကာ ချက်ချင်း ဘုရားရှင်အား သွားရောက်လျှောက်ထားသည်။ ရောဇလည်း အိမ်ပြန်သွားလေ၏။

"ဘုန်းတော်ကြီးသော မြတ်စွာဘုရား၊ ရောဇ ခေါ်သော မလ္လမင်းသား

သည် အလွန်ထင်ရှား ကျော်ကြားသူဖြစ်ပါသည်။ ဤကဲ့သို့သောသူများ ဘုရား အဆုံးအမ,တော်၌ ကြည်ကြည်လင်လင် ရှုမြင်တတ်ပါမူကား (သာသနာတော်၌ ကြည်ညိုသွားပါမူ) အလွန်အကျိုးများဖွယ် ရှိပါသည်ဘုရား၊ ရောဇ တစ်ယောက် သာသနာတော်၌ သက်ဝင်ကြည်ညိုလာအောင် ဆောင်ရွက်ပေးတော်မူပါဘုရား"

"ချစ်သား အာနန္ဒာ၊ ရောဇ သာသနာတော်၌ သက်ဝင်ကြည်ညိုလာစေရန် ငါဘုရားအတွက် မည်သို့မျှ အခက်အခဲ မရှိချေ" ဟု မိန့်တော်မူကာ ဩဝိသမေတ္တာ ပွားများလျက် ထိုနေရာမှထ၍ ဂန္ဓကုဋိကျောင်းတော်သို့ ကြွလှမ်းစံဝင်တော်မူ၏။ အရှင်အာနန္ဒာလည်း ထိုနေရာမှ ပြန်လာရသည်။

## မေတ္တာကွန်ရက်ထဲက ရောဇ

ရောဇကား ကျောင်းတော်အပြင်သို့ မရောက်မီမှာပင် စိတ်တွေပြောင်းလဲတော့၏။ ချက်ချင်းပင် ဘုရားရှင်အား သီးသန့်သွားရောက်ဖူးတွေ့လိုစိတ်များ မျိုသိပ်မရအောင် ဖြစ်ပေါ်လာ၏။ အိမ်ပြန်ရောက်ရန်ကိုပင် သတိမရ။ ကျောင်းဝင်းထဲ၌ တဝဲလည်လည် ဖြစ်နေ၏။

"အရှင်ဘုရားတို့၊ ဘုန်းတော်ကြီးသော မြတ်စွာဘုရား၊ ယခု အဘယ် ကျောင်း၌ သီတင်းသုံးတော်မူပါသလဲ၊ ဖူးမြော်ပါရစေဘုရား၊ ဖူးမြော်ပါရစေဘုရား"

တွေ့မြင်သမျှ ရဟန်းတော်များအား အားကိုတကြီး မေးလျှောက်နေ၏။ အကူအညီ တောင်း၏။ တစ်ကျောင်းဝင် တစ်ကျောင်းထွက် ယောက်ယက်ခတ်နေ၏။ အဘယ်မျှ ယောက်ယက်ခတ်နေသနည်းဆိုသော် မိခင်ကြီးနှင့် ကွဲကွာနေသော နို့စို့နွားသူငယ်လေး သည် တဘာဘာ အော်မြည်ကာ တောင်မြောက်လေးပါး ပြေးလွှားရှာဖွေနေရသကဲ့သို့ ဖြစ်နေတော့သည်။

ရောဇလည်း နို့စို့နွားသူငယ်ပမာ ဘုရားရှင် သီတင်းသုံးရာ ကျောင်းနှင့် စပ်၍ ရဟန်းတော်များအား တစ်ပါးပြီးတစ်ပါး အမောတကော မေး၍မေး၍ လာရာ နောက်ဆုံး ရဟန်းတော်တစ်ပါးက အတိအကျ ညွှန်ပြပေးလိုက်သည်။

"ဒါယကာ၊ ဘုရားရှင် သီတင်းသုံးရာ ဂန္ဓကုဋိ ကျောင်းတော်ကား တံခါး ပိတ်ထားသော အဲဒီကျောင်းပင်ဖြစ်သည်။ တိုးတိုးသက်သာ (ညီညာသော သဲခင်း လမ်းများ မပျက်ပြားစေရန်) ဖြည်းညင်းစွာ သွားပါလေ၊ သဲလမ်း ဆုံးသောအခါ စောင်းတန်းမုခ်ဦးထဲ ဝင်သွားပြီးလျှင် ချောင်းဆိုးသံပြုလျက် ကျောင်းတံခါးကို အသာအယာ ခေါက်လိုက်၊ သင့်အား မြတ်စွာဘုရား တံခါး ဖွင့်ပေးတော်မူလိမ့်မည်"

ရောဇသည် ထိုအခါမှပင် အတန်ငယ် အမောပြေသွားသည်။ ထိုရဟန်းတော် အား လက်အုပ်ချီ နှုတ်ဆက်၍ ချက်ချင်းလှည့်ထွက်လာ၏။ ညီညာပြန့်ပြူးစွာ

ခင်းထားသော သဲလမ်းကို ဖြတ်ကျော်သွားနေရာ တယက်ကန်ကန်ဖြင့် စိတ်ထဲတွင် ရောက်ခဲ့နေတော့၏။ သဲလမ်းဆုံးလျှင် ဓောင်းတန်းထဲ ဝင်ပြီးနောက် ဘုရားရှင် သီတင်းသုံးရာ ဂန္ဓကုဋီ ကျောင်းတော်သို့ ဆိုက်ဆိုက်မြိုက်မြိုက် ရောက်ရှိသွားသည်။

## ဓေဒနာကွန်ရက်ထဲက ရောဇ

ရောဇသည် ဘုရားရှင်ထံမှောက်သို့ မဝံ့မရဲ ရောက်သွားကာ ရိုသေစွာ ရှိခိုးကန်တော့၏။ ပထမတွင် တဒိတ်ဒိတ် ရင်ခုန်၍ လှုပ်ရှားနေသော စိတ်ဓာတ်များကြောင့် ငြိမ်သက်စွာ ထိုင်၍ မရ။ ဘုရားရှင် ရွှေမျက်နှာတော်ကိုသာ မော်၍ ငေးစိုက်ကြည့်၍နေမိ၏၊ ကြည့်၍ကား မဝချေ။

ရွှေမျက်နှာတော်ကို ကြည့်ရင်းကြည့်ရင်းက ရင်ထဲတွင် လှိုင်းဂယက်ထနေသော စိတ်များ ငြိမ်သက်မှန်းမသိ တဖြည်းဖြည်း ငြိမ်သက်လာ၏။ "ချစ်သား ရောဇ" ဟူသော ကြည်လင်အေးမြသည့် ဘုရားရှင်၏ နှုတ်ခွန်းဆက်သံသည် ရီးတွင်းခြင်ဆိုစိုက်မှု ငေးစိုက်၍ ကျသွားအောင် ရောဇ တစ်ကိုယ်လုံး အအေးဓာတ်များ ဖုံးလွှမ်းသွားတော့၏။

ဘုရားရှင်လည်း ဦးစွာ ရောဇနှင့်တန်ရုံ ဒါနကထာ, သီလကထာ ကစ၍ ဟောကြားတော်မူရာ လောကီအာရုံ ကာမဂုဏ်၌ ခင်မင်တွယ်တာ၍ တငါငါ ထောင်လွှားနေသော ရောဇ သန္တာန်မှ တဏှာ, မာန, ဒိဋ္ဌိများ တစ်စတစ်စ ကွာရှဲလာ၏။ ရောဇ ခေါင်းငုံ့လာကာ တရားအာရုံ၌သာ စူးစိုက်ကျသွားသည်။ တစ်ချိန်ထက်တစ်ချိန် ဣန္ဒြေရလာ၏။ ပို၍ပို၍ နူးညံ့လာ၏။ သိမ်မွေ့လာ၏။ နောက်ဆုံး ရောဇသန္တာန်၌ သို့လောသို့လော တွေးတောပူပန်မှု၊ အကြည်ညိုလွန်မှုစသော လှိုင်းဂယက်များ ငြိမ်သက်သွားသောအခါ ဘုရားရှင်သည် သတိပဋ္ဌာန်လမ်းစဉ် မဂ္ဂင်ရှစ်ဖြာ (မဂ္ဂကထာ)ကို ဟောပြောတော်မူသည်။

စင်စစ် မဂ္ဂင်ကျင့်စဉ်သည် ကိုယ့်ကိုကိုယ် ဝေဖန်ဆန်းစစ်ခြင်း ပညာဖြစ်၏။ မိမိခန္ဓာကိုယ်နှင့် မိမိစိတ်ကိုသာ လေ့လာရသော အလုပ်ဖြစ်သည်။

– ခန္ဓာကိုယ် လှုပ်ရှားရပ်တည်ခြင်း၊

– မြင်, ကြား, နံ, လျက်, ထိခြင်း၊

– ကြံစည်စိတ်ကူးခြင်းများကို ဖြစ်ခိုက်ဖြစ်ခိုက်မှာ လိုက်၍လိုက်၍ သူဖြစ်သည့်အတိုင်းသာ စောင့်ကြည့် သိမှတ်နေရသော အလုပ်မျှသာဖြစ်၍ ကိရိယာ တန်ဆာပလာလည်း မလိုချေ။ စာကြီးပေကြီးများ လှန်လှောကျက်မှတ်နေဖို့လည်း မလိုချေ။ လွယ်လွန်းလှပေ၏။

ထို့ကြောင့်လည်း ရောဇသည် ထိုနေရာ၌ပင် တရားနာယူရင်း မိမိခန္ဓာကိုယ်

ရုပ်နာမ်အစဉ်ကို စိတ်စိုက်၍ ရှုမှတ်ပွားများလိုက်ရာ သောတာပန် ဖြစ်သွားတော့လေသည်။

ရောဇ၏ သဒ္ဓါတရားသည် မြူအလိမ်းလိမ်း ကပ်နေသော ကြေးမုံမှန်ပြင်ကို သုတ်သင်ပွတ်တိုက်လိုက်သကဲ့သို့ ပို၍ကြည်လင်လာ၏။ အသိဉာဏ်လည်း ပို၍ တောက်ပလာ၏။ စူးရှလာ၏။ အမြင်သန်လာ၏။

ရောဇ အမြင် ရှင်းလေပြီ။

ရောဇ ဆွမ်းကျွေးပွဲမှ ဥပဒေ

"မြတ်စွာဘုရား၊ အရှင်ဘုရားများသည် ဘုရားတပည့်တော်၏ ပစ္စည်းလေးပါးကိုသာလျှင် အလှူခံယူတော်မူကြပါဘုရား၊ တစ်ပါးသူတို့၏ အလှူကို ခံယူတော်မမူကြပါလင့်" ဟုပင် အလွန်အကျွံ လျှောက်ထားမိလေသည်။

"ရောဇ၊ သေက္ခအရိယာပုဂ္ဂိုလ်တို့၏ ဉာဏ်အမြင်ဖြင့် တရားမှန်ကို သိမြင်သူတိုင်း သင်ကဲ့သို့ပင် ငါ၏ ပစ္စည်းလေးပါးကိုသာ အလှူခံတော်မူ၍ တစ်ပါးသူတို့၏ ပစ္စည်းကို မခံယူသော် ကောင်းလေစွာဟု ဖြစ်တတ်ကြသည်မှာ ဓမ္မတာပင်၊ သင့်ထံမှလည်း အလှူခံကြမည်။ တစ်ပါးသူတို့ထံမှလည်း အလှူခံ ကြရပေလိမ့်မည်" ဟု နှစ်သိမ့်တော်မူရ၏။

ဘုရားအမှူးရှိသော သံဃာတော်အရှင်မြတ်များအား ကုသိနာရုံ ပြည်သားတို့ အလှည့်ကျ ဆွမ်းဝတ်ပြုကြရာ ရောဇသည် မိမိအလှည့် မကျမီ ဆွမ်းဘုဉ်းပေးရာသို့ နေ့စဉ်သွားရောက် အကဲခတ်၏။ သူတစ်ပါးတို့ မကပ်လှူသော အာဟာရမျိုးကိုမှ ရွေးချယ်၍ အကောင်းဆုံး ကပ်လှူရန် စဉ်းစားထားသည်။

ကပ်လှူသမျှတွင် ဟင်းရွက်ကြော် (အစိမ်းကြော်)နှင့် မုန့်ခဲဖွယ်နှစ်မျိုးကို မတွေ့ရသဖြင့် မိမိအလှည့်တွင် ကပ်လှူရန် စဉ်းစားမိ၍ ထိုသို့ ကပ်လှူသော် ဘုရားရှင် လက်ခံတော်မူမည်၊ မမူမည်ကို သိလိုသဖြင့် အရှင်အာနန္ဒာမှတစ်ဆင့် ဘုရားရှင်အား လျှောက်ထားရာ ခွင့်ပြုချက် ရသည်နှင့် ထိုနှစ်မျိုးအတွက် ငွေတစ်သိန်း အကုန်အကျခံကာ ဆွမ်းအလှူပြုလုပ်သည်။

သို့ရာတွင် ထိုအစိမ်းကြော်နှင့် မုန့်ခဲဖွယ်ရာမှာ ရဟန်းတော်များ သုံးဆောင်ဖူးသေးခြင်း မရှိသဖြင့် ဝိနည်းတော်နှင့် အပ်၊ မအပ် သံသယဝင်ကာ မဘုဉ်းပေးဝံ့ဘဲ ရှိနေကြလေသည်။ ရောဇဆွမ်းကျွေးပွဲမှစ၍ ထိုအာဟာရနှစ်မျိုး ဘုဉ်းပေးသုံးဆောင်ရန် အပ်စပ်ကြောင်း ဝိနည်း ပညတ်ချက်တစ်ရပ် ဖြစ်ပေါ်လာခဲ့၏။

## တန်ခိုးတော်လော၊ မေတ္တာလော

ရာဇမာန်, ခနမာန်ယစ်ကာ သာသနာတော်ကို မကြည်ညိုရုံမျှမက အရှင်အာနန္ဒာကဲ့သို့သော ပုဂ္ဂိုလ်မျိုးကိုပင် ကာမဂုဏ်ဖြင့် ဖြားယောင်းသူ ရောဇမလ္လမင်းသားတစ်ဦး ရုတ်တရက် အရိယာ သာဝက (အမာခံ တပည့်တော်) တစ်ယောက် ဖြစ်လာရအောင် ဆွဲဆောင်သိမ်းသွင်းရာ၌ သာမန်အားဖြင့် ဘုရားရှင်၏ တန်ခိုးတော်ကြောင့်ဟု ဆိုနိုင်၏။ သို့ရာတွင် မတိကျလှချေ။

အမှန်အားဖြင့် ဘုရားရှင်၏ မေတ္တာတော်ကြောင့်သာလျှင် အံ့ဩလောက်အောင် ပြောင်းလဲသွားခြင်း ဖြစ်၏။ ခက်ထန် မာန်ယစ်သော ရောဇသည် စပါးကြီးမြွေ ညှို့မိသော ယုန်သူငယ်ကဲ့သို့ ချာချာလည်ကာ ဘုရားရှင်၏ မေတ္တာတော်ကွန်ရက်မှ မရုန်းထွက်နိုင်ဘဲ ယောက်ယက်ခတ်သွားပုံမှာ မေတ္တာအင်အားကို လေ့လာသူတိုင်းအတွက် အထူးမှတ်တင်ရန် သင်ခန်းစာကြီးပင်တည်း။ အခြားမည်သည့်တန်ခိုးဣဒ္ဓိပါဒ်ကိုမျှ အသုံးပြုတော်မမူချေ။ ထို့ကြောင့် ပါဠိတော်၌-

"အထ ခေါ ဘဂဝါ ရောဇံ မလ္လံ မေတ္တေန စိတ္တေ ဖရိတွာ ဥဋ္ဌာယာသနာ ဝိဟာရံ ပါဝိသိ-ထိုအခါ မြတ်စွာဘုရားသည် ရောဇမလ္လမင်းသားကို မေတ္တာစိတ်ဓာတ် ဖွားများဖြန့်လွှမ်းတော်မူလျက် နေရာမှ ထကာ ဂန္ဓကုဋီသို့ ကြွဝင်တော်မူလေ၏"ဟု တိုက်ရိုက်ဟောတော်မူခဲ့၏။

## ၂။ နာဠာဂိရိ နှင့် အာဠဝက

ဗုဒ္ဓရှင်တော်မြတ်၏ မေတ္တာဓာတ်ကား ထိုမျှလောက်ဖြင့် အံ့ဖွယ်မရှိသေး။ အရက်သေစာ မူးယစ်ကာ ထိုးသတ်ရန်လာသော နာဠာဂိရိ ဆင်ရိုင်းကြီးကိုပင် မုန်ယစ်ပြေကာ ခြေတော်ရင်း၌ ဝပ်စင်းဦးခိုက် ညွှတ်လာစေတော်မူ၏။ (နာဠာ ဂိရိအား မေတ္တာဖြင့် ညှို့ပုံကို နောက်မှပြမည်။)

ထို့ထက် အလွန်ကြမ်းကြုတ်ခက်ထန် ဒေါသမာန်ကြီးလှသော အာဠဝကဘီလူးရိုင်းကြီးကိုပင်သော်မျှ ဘုရားရှင်၏ မေတ္တာသည် အောင်ပွဲရတော်မူခဲ့၏။

အာဠဝကသည် သတ္တဝါ တစ်ဦးတစ်ယောက်အား ခြေနှစ်ချောင်းကိုင်ပေါက်ကာ စကြဝဠာအပြင်သို့ လွှတ်ပစ်နိုင်၏။ သူ၏ ကြွေးဝါးသံမှာ ဇမ္ဗူဒီပါ တစ်ကျွန်းလုံး ထစ်ချုန်းရိုက်ခတ် ပဲ့တင်ထပ်မျှ လန့်ဖျပ်သွားစေနိုင်၏။ မိုင်သုံးဆယ်နီးပါး တောင်ထွတ်များကိုပင် ကွဲအက်လွင့်စင်စေ၍ သစ်ပင် အိုးအိမ်အားလုံးကို ကျွတ်ထွက်လွင့်စင်ကာ မြေပြင်တစ်ခုလုံး ရှန်းရှင်းဆန်ခတ် ရပ်တည်၍ မရအောင် လေမုန်တိုင်းကြီးများကိုလည်း ပြုလုပ်နိုင်၏။

ထိုမှတစ်ပါး မြေတစ်ပြင်လုံး လွှမ်းဖုံးသွားအောင် မိုးကြီးရွာချခြင်း၊ ကျောက်ခဲမိုး၊

လက်နက်မိုး၊ မီးကျီးမိုး၊ ပြာပူမိုး၊ သဲပူမိုး၊ နွံ့နွံ့မိုးကြီးများကိုလည်း တစ်ခဲနက် ရွာသွန်းချနိုင်၏။ မြေတစ်ပြင်လုံး မှောင်အတိကျအောင်လည်း လုပ်နိုင်၏။

## အဏုမြူထက်စွမ်းသော ဘွဲ့ဖြူလက်နက်

အထူးသဖြင့် အာဠဝကာ၏ ဘွဲ့ဖြူ (အဝတ်) လက်နက်မှာ အဏုမြူထက် အဆပေါင်းများစွာ ပို၍ ကြောက်မက်ဖွယ်ကောင်း၏။ ထိုဘွဲ့ဖြူလက်နက်ကို ကောင်းကင်၌ပစ်လျှင် မိုးတစ်ဆယ့်နှစ်နှစ် မရွာ။ မြေမှာပစ်လျှင် သစ်ပင်များ ခြောက်သွေ့ကာ တစ်ဆယ့်နှစ်နှစ်အတွင်း မည်သည့်အပင်မျိုးမှ မပေါက်နိုင်။ သမုဒ္ဒရာ၌ ပစ်ချလျှင်မူ သမုဒ္ဒရာရေ ခန်းခြောက်၍ မြင်းမိုရ်တောင်ကြီးကို ပစ်ပေါက်လျှင်လည်း မှုန့်မှုန့်ညက်ညက် ဖြစ်သွားစေနိုင်၏။

မြတ်စွာဘုရားရှင်သည် ယင်းဘီလူးရိုင်းကြီးကိုချွတ်ရန် အာဠဝိပြည်အနီး ၄င်းဗိမာန်၌ ဝင်ရောက်သီတင်းသုံးတော်မူရာ ဘီလူးရိုင်းကြီးသည် ဒေါသအမျက် ခြောင်းခြောင်းထွက်ကာ လေမုန်တိုင်းကြီးဆင်၍ တိုက်ခတ်ဖေ့၏။ ဘုရားရှင်၏ သင်္ကန်းတော်မျှပင် မလှုပ်။ အမျိုးမျိုးသော လက်နက်မိုးများ တစ်ခဲနက် ရွာသွန်းချသည်။ ဘုရားရှင် ခြေတော်ရင်းသို့ရောက်လျှင် ပန်းပေါက်ပေါက် ဖြစ်သွားကြ၏။ မှောင်ကြီးချ၍လည်း မရ။ အလွန်အစွမ်းထက်လှသော နောက်ဆုံး ဘွဲ့ဖြူလက်နက် လည်း ဘုရားရှင်၏ ခြေတော်ရင်း၌ ခြေသုတ်ပုဆိုး ဖြစ်သွားလေတော့သည်။

အာဠဝကသည် ယင်းလက်နက်ကြီးများနှင့် မရသည့်အဆုံး မာရ်နတ် စစ်တပ်ကြီးမျိုးဖြင့်လည်း ဘုရားရှင်အား ရန်ပြုရာ ထိုစစ်တပ်ကြီးလည်း ဘုရားရှင် အနီးသို့ မကပ်နိုင်။ အဝေးကသာ "ဝိုင်းဟော့–ထိုးသတ်ဟော့" ဟု အော်ဟစ်ကာ နောက်ဆုံး ဘုရားရှင်၏ မေတ္တာတပ်ကြီးကို အနီးမျှပင် မသီရဲ။ ပြိုကွဲထွက်ပြေး ကြရလေ၏။

## ဘွဲ့ဖြူထက် စွမ်းသောမေတ္တာ

ဘီလူးရိုင်းကြီးသည် ထင်တိုင်းမပေါက်၊ စိတ်နောက်အားငယ်ကာ လက်မှိုင်ချရ ရှာလေ၏။ ထိုအခါ အာဠဝကသည် ဘုရားရှင် မေတ္တာအင်အားကို အသုံးပြုတော် မူကြောင်း ရိပ်မိသဖြင့် .....

> 'မေတ္တာဝိဟာရယုတ္တော သမဏော၊ ဟန္ဒ နံ ရောသေတွာ မေတ္တာယ ဝိယောဇေမိ = ဤရဟန်းကြီးသည် မေတ္တာဖြင့်နေ၏။ယခု သူ့ကို ကြိမ်းမောင်းချုပ်ချယ်၍ မေတ္တာပျက်ပြားအောင် လုပ်မှ တော်လိမ့်မည်' ဟု အကြံရကာ .....

"ရဟန်းကြီး၊ ငါ့ဖိမာန်က ထွက်သွားပါ" ဟု ကြိမ်းမောင်း၏။
"မနေစေချင်လဲ ထွက်ရတာပေါ့"ဟု ချိုသာစွာ မိန့်တော်မူလျက် ထွက်ခွာပေး၏။ သို့သော်လည်း မေတ္တာစာတ်ပျက် ဒေါသထွက်အောင် တမင်ရန်စ၊ နေခြင်းဖြစ်၍ ထွက်ခွာပေးသော်လည်း မကျေနပ်။
"ရဟန်းကြီး၊ ပြန်ဝင်ပါ" ဟု အမိန့်ပေးပြန်သည်။
ဘုရားရှင်ကလည်း "အက္ကောဓေန ဇိနေ ကောဓံ – အမျက်ထွက်သူကို ပြန်၍ အမျက် မထွက်ခြင်းဖြင့် အနိုင်ယူရာ၏" ဟု ဟောတော်မူလေ့ရှိသည့်အတိုင်း–
"သင်က ဝင်စေလိုလျှင်လဲ ဝင်ပါ့မယ်" ဟု ဆိုကာ ဝင်တော်မူလိုက်သည်။
ဘီလူးရိုင်းကြီးမှာလည်း ကြံရာမရ၊ ဒေါသမထွက် ထွက်အောင် သုံးကြိမ်တိုင်တိုင် ဝင်စေ၊ ထွက်စေ အမိန့်ပေးလေ၏။ ဘုရားရှင်ကလည်း သူ့အမိန့်အတိုင်း မငြင်းမဆန် လိုက်လျောပြုမူကာ မာန်ချတော်မူရာ နောက်ဆုံး ပြဿနာမေး၍ ကျေအေးဖြေရှင်းကာ ဘီလူးရိုင်းကြီး သောတာပတ္တိဉာဏ်အလင်း ရသွားလေတော့သည်။ (သဂါထာဝဂ္ဂ သံယုတ်၊ အာဠဝကသုတ်၊ အဖွင့် သံ။ ဋ္ဌ၊ ၁၊ ၂၈၉ – ၃၀၈ ။ အခြား အဋ္ဌကထာများ၌လည်း ပါရှိ၏။)

## ၃။ ပဉ္စဝဂ္ဂီငါးပါးနှင့် ဘုရားရှင့်မေတ္တာ

ဗုဒ္ဓရှင်တော်မြတ်၏ မေတ္တာအင်အားကို ဘုရားဖြစ်တော်မူဦးစကပင် တွေ့မြင်နိုင်၏။
ဘုရားဖြစ်တော်မူစ သပိတ်မှောက်ပြီး ထွက်ခွာသွားကြသော ပဉ္စဝဂ္ဂီ ငါးဦးတို့အား တရားဦးဟောရန် ဘုရားရှင်ကပင် ပဉ္စဝဂ္ဂီတို့ထံ ကြွတော်မူရ၏။
ဘုရားအလောင်းတော်ဘဝ အစာရေစာများဖြတ်၍ အငတ်ခံပြီး ပြင်းထန်စွာကျင့်မှ တရားထူးရမည် အထင်ဖြင့် ခြောက်နှစ်လုံးလုံး ဒုက္ကရစရိယာ မသေကောင်း မပျောက်ကောင်း အကျင့်များကြီးကို ကျင့်ရာမှ ပုံမှန်စားသောက်၍ မဇ္ဈိမပဋိပဒါလမ်းစဉ်သို့ ကူးပြောင်းလိုက်သည်ကို မကျေနပ်ကြသဖြင့် ပဉ္စဝဂ္ဂီတို့ အလောင်းတော်အား သပိတ်မှောက်ပြီး ထွက်သွားကြခြင်းဖြစ်သည်။

> [ယခုအခါ၌လည်း အစားခြိုးခြံမှုကို ရောမ အကျင့်ကြီးတစ်ခုအဖြစ် နားထောင်နေကြသူများ သက်သတ်လွတ်၊ မီးလွတ်မှ ဒုက္ကရ စရိယာ, အတ္တကိလမထထဲ ဝင်သွားတတ်သည်ကို သတိပြုကြကုန်။]

"ရှင်ဂေါတမသည် ပစ္စည်းပေါများရန် ကမ္ဘဋ္ဌာန်း အလုပ်ခွင်က ထွက်၍

ခရီးလှည့်လည်နေပြီ။ သူလာလျှင် ရှိမခိုးကြစတမ်း၊ ခရီးဦး မကြို ဆိုကြစတမ်း၊ သပိတ်သင်္ကန်း လှမ်းမယူကြစတမ်း၊ (ဓာတ်မြင့်သူဖြစ်၍) နေရာထိုင်ခင်းကိုမူ ထိုင်လိုက ထိုင်ရန် ခင်းပေးထားမည်" ဟု ပဥ္စဝဂ္ဂီတို့ အချင်းချင်း ကတိကဝတ်ထား၍ နေကြသည်ကိုလည်း ဘုရားရှင် သိမြင်တော်မူလေသည်။

ထိုအခါ ဘုရားရှင် ၎င်းတို့အနီးသို့ ကြွရောက်လျှင်ပင် အချင်းချင်း ထားသော ကတိကဝတ်များ ပျက်ကာ ရှိခိုးခြင်း၊ ခရီးဦးကြိုဆိုခြင်း ပြုကြ၏။ သပိတ်သင်္ကန်း လှမ်းယူသူကယူ၍ ခြေဆေးရေတည်ခင်းသူက တည်ခင်းကာ ရုတ်တရက် စိတ်ပြောင်းသွားကြသည်။

ပဥ္စဝဂ္ဂီတို့သည် ကိုယ့်စိတ်နှင့်ကိုယ်ပင် မယုံနိုင်လောက်အောင် ရှေ့နောက် မညီ ဖြစ်ကြရလေ၏။

ယင်းသို့ဖြစ်ရသည်မှာ အကြောင်းမဲ့ မဟုတ်ချေ။ (မူလပဏ္ဏာသပါဠ ရာသိသုတ် အဖွင့်နှင့် သာရတ္ထဒီပနီကာတို့၌) 'ဘုရားရှင်၏ တန်ခိုးတော်ကြောင့်' ဟု ဖွင့်ဆိုကြရာ ယခုအခါ လူအများကပင် ထူးဆန်းအံ့ဖွယ်ရာ တစ်စုံတစ်ခု ဖြစ်တိုင်း 'တန်ခိုး' ဟူသော လွယ်လွယ်ပင် ပြောဆိုတတ်ကြလေသည်။

'တန်ခိုး' ဟု ဆိုလိုက်သဖြင့် 'တန်ခိုးရှင်တို့သာ ပြုလုပ်နိုင်စွမ်းသော ကိစ္စ၊ ငါတို့အရာ မဟုတ်' ဟု ထပ်ဆင့်၍ မြင့်တွက်လာကြ၏။ 'ဘုန်းတန်ခိုး အာနုဘော်ကြီးသော ဘုရားရှင်မို့သာ ယခုလိုဖြစ်သည်' ဟု တစ်ထစ်ချ မှတ်ဖွဲ့ကာ လူတိုင်းပင် ရယူနိုင် သော ဗုဒ္ဓဝါဒ၏ အခြေခံပင်မ တရားများသည် လူအများစုနှင့် အလှမ်းကွာခဲ့ရလေပြီ။

### လူတိုင်း ရယူနိုင်သော အရိုးခံ အင်အားကြီး

ဤနေရာ၌ ဘုရားရှင်၏ တန်ခိုးတော်ဟူသည် အခြားမဟုတ်၊ ဗုဒ္ဓဘာသာ ဝင်တိုင်း နားလည်ထားပြီးဖြစ်သော မေတ္တာပင်တည်း။

ယင်းသို့ဆိုသော် ယင်းမေတ္တာ ဟူသော အဒေါသ စေတသိက်၊ ပရမတ္ထ တရားကြီးကို ဘုရားရှင်သာလျှင် သုံးစွဲခွင့်ရှိသည်ဟု ကန့်သတ်၍ ရပါမည်လော။ သို့မဟုတ် 'ဘုန်းတော်ကြီးသော အတုမရှိ ဘုရားရှင်မို့ ငါ အစွမ်းကုန် အကျိုးပေးလိုက်မည်' ဟုလည်း ပရမတ္ထတရားက မျက်နှာလိုက်၍ အကျိုးပြု ပါချေမည်လော။ ထို့ကြောင့် အရာရာ၌ 'တန်ခိုး တန်ခိုး' ဟု ဆိုကာ မိုးပေါ်ကို ချည်း လက်ညှိုး မထိုးသင့်ကြပေ။

ဗုဒ္ဓ၏ တရားတော်များသည် လူသားအားလုံးပင် အလွယ်တကူ နာယူ ကျင့်သုံးနိုင်သော ဘက်မလိုက် ကျင့်စဉ်များချည်းသာဖြစ်ပေ၏။

### စတုတ္ထအကြိမ်

အမျိုးမဆုံးအောင် ရှုပ်ထွေးလှသော လူမှုပြဿနာများနှင့် နေ့စဉ်ရင်ဆိုင်နေကြရရာ ထိုပြဿနာများ အလွယ်တကူ ပြေလည်သွားစေရန် နေ့စဉ်ပင် လိုက်နာကျင့်သုံးရမည့် တရားများလည်း ဖြစ်ပေသည်။ အသက်ကြီးမှ ကျောင်းကန်တွင်းရောက်မှ လိုက်နာရမည့် လူသားတို့၏ အထက်က တရားမဟုတ်။ လူထဲက လူများအတွက် အလွယ်တကူ လိုက်နာ၍ရသော ကြီးငယ်မဟူ၊ လူမျိုးဘာသာမရွေး ကြီးပွားချမ်းသာရေး တရားများ ပင်တည်း။

ကျွန်ုပ်တို့လည်း အခါအခွင့်သင့်သလို ဗုဒ္ဓဝါဒ၏ (သီလ၊ မေတ္တာစသော) ထိုအရိုးခံ အင်အားသတ္တိများကို ဉာဏ်စွမ်းရှိပါသမျှ ရေးသားဖော်ထုတ်လျက်ရှိရာ 'တန်ခိုးတွေကို ရေးနေသည်'ဟုပင် ထပ်ဆင့် ထင်မှားကြလေသည်။

**မေတ္တာဇာတ်ရိုက်ပုံ၊ ဇာတ်ခိုက်ပုံ**

ထိုအရိုးခံအင်အားများကို 'ငါဘုရားရှင့်သာလျှင် ရရှိနိုင်သည်' ဟုလည်း မိန့်ဆိုတော်မူခြင်း မရှိသည့်အပြင် မေတ္တာရှုပွားနည်းကို အကျိုးများနှင့်တကွ နေရာများစွာ၌ နည်းပေးတော်မူထားခဲ့၏။

အနုသာသနီပါဋိဟာရိယ = သီလ၊ သမာဓိ၊ ပညာ တန်ခိုးသာလျှင် မြင့်မြတ် ခိုင်မာကြောင်း (ကေဝဋ္ဋသုတ်၊ သီလက္ခန္ဓဝဂ်-၌) အတိအလင်း ထုတ်ဖော်တော်မူခဲ့လေပြီ။

ယခု ပဉ္စဝဂ္ဂီ ငါးဦးတို့ကိစ္စ၌ မြတ်စွာဘုရားရှင် မေတ္တာသုံးနည်းကို ကျမ်းဂန်လာအတိုင်း ဖော်ပြပါဦးအံ့။ ပဉ္စဝဂ္ဂီတို့ထံ မြတ်စွာဘုရား ကြွလာတော်မူစဉ် ဘုရားရှင်သည် မေတ္တာအင်အားကိုလည်း မည်ကဲ့သို့ အသုံးပြုကြောင်း (ဇာတ်အဋ္ဌကထာ နိဒါန်း၊ အပဒါန် အဋ္ဌကထာ၊ ပ၊ ၉၆-နှင့် ဗုဒ္ဓဝံသ အဋ္ဌကထာ ၃၄၃-တို့၌ သဘောအားဖြင့် တညီတညွတ်တည်း) ပြဆိုချက်များရှိရာ ဗုဒ္ဓဝံသ အဋ္ဌကထာကိုသာ ထုတ်ပြပါမည်။

> "ဘဂဝါ တေသံစိတ္တာစာရံ ဉတွာ သဗ္ဗသတ္တေသု အနောဓိသကဝသေန ဖရဏသမတ္ထံ မေတ္တစိတ္တံ သံခိပိတွာ ဩဓိသကဝသေန မေတ္တစိတ္တေန ဖရိ။ တေ ဘဂဝတော မေတ္တစိတ္တေန ဖုဋ္ဌာ တထာဂတော ဥပသင်္ကမန္တေ သကာယ ကတိကာယ သဏ္ဌာတုံ အသက္ကောန္တာ အဘိဝါဒနာဒီနိ သဗ္ဗကိစ္စာနိ အကံသု။"

မြန်မာပြန်။ ။ "မြတ်စွာဘုရားရှင်သည် ထိုပဉ္စဝဂ္ဂီငါးဦးတို့၏ စိတ်ထားကို သိမြင် တော်မူလေလျှင် အလုံးစုံသော သတ္တဝါတို့၏အပေါ်၌ 'မည်သည့် သတ္တဝါအတွက်' ဟု ရည်မှတ်ပိုင်းခြားမှု မထားသော

အားဖြင့် သိမ်းကျုံး ဖြန့်လွှမ်းထားနိုင်သော မေတ္တာစိတ်ဓာတ်တော်ကို အကျဉ်းချုံး ရုံးစု၍ သီးသန့်ပိုင်းခြား သတ်မှတ်သောအားဖြင့် ပဉ္စဝဂ္ဂီငါးဦးတို့ အပေါ်၌သာလျှင် မေတ္တာဖြန့်ပို့တော်မူ၏။

ဘုရားရှင်၏ မေတ္တာဓာတ်ဖြင့် ထိခိုက်ခြင်းကြောင့် ပဉ္စဝဂ္ဂီတို့သည် ဘုရားရှင် ကြွလာတော်မူလျှင်ပင် မိမိတို့ ကတိအတိုင်း မရပ်တည်နိုင်ကြဘဲ ရှိခိုးခြင်းစသော အမှုကိစ္စ အားလုံးကို ပြုမိကြလေပြီ"။

အလွန်အင်အားကောင်းသော မီးဆလိုက်ကြီး၏ အရောင်များကို နေရာများစွာ ဖြန့်၍ထိုးထားရာမှ အလင်းရောင်များကို စုလျက် တစ်နေရာတည်း၌သာ ကွက်၍ ဖိတင်ထိုးထားလျှင် အင်အားများအားလုံး စုပြုံတည်ရှိနေသဖြင့် အဆပေါင်းများစွာ အားကောင်းလာသကဲ့သို့ ရှိပေသည်။ (မှန်ဘီလူးဖြင့် နေရောင်အပူဓာတ် စုယူပုံကိုလည်း ထောက်ပါ။)

ဤကား ပဉ္စဝဂ္ဂီငါးဦးတို့အပေါ်၌ ဘုရားရှင် မေတ္တာဓာတ်ရိုက်ပုံ၊ ဓာတ်ခိုက်ပုံတည်း။ ရောဇမလ္လမင်းသား စသူတို့အပေါ်၌ ဘုရားရှင်၏ မေတ္တာ အသုံးပြုတော်မူပုံကိုလည်း ပေါ်လွင်စေတော့သည်။

နာဠာဂီရိ အောင်မြင်တော်မူပုံကို ပြဆိုထားရာ (အပဒါနအဋ္ဌကထာ-၁၊ ၁၃၇-၈) ၌လည်း ပို၍ပင် ပြတ်သားလှပေသည်။

"ဘဂဝါ အပရိမာဏေသု စက္ကဝါဠေသု အနန္တသတ္တေသု ဖရဏာရဟံ မေတ္တံ ကောသိဳယေဝ နာဠာဂီရိမှိ ဖရိ၊ သော ဘဂဝတော မေတ္တာယ ဖုဋ္ဌော နိဗ္ဘယော ဟုတွာ ဘဂဝတော ပါဒမူလေ နိပတိ"။

**မြန်မာပြန်။** ။"မြတ်စွာဘုရားရှင်သည် စကြဝဠာ အနန္တတို့၌ရှိသော သတ္တဝါ အနန္တတို့၏ အပေါ်၌ပင် ဖြန့်လွှမ်းပွားပို့နိုင်သော မေတ္တာစိတ်တော်ကို နာဠာဂီရိ ဆင်တစ်ကောင်တည်းအပေါ်၌သာ စုပြုံဖြန့်လွှမ်းတော်မူ၏။ နာဠာဂီရိ ဆင်သည် ဘုရားရှင်၏ မေတ္တာဓာတ် ထိခိုက်နေပြီဖြစ်၍ ဘေးရန်ကင်းစွာ ဘုရားရှင်၏ ခြေတော်အစုံ၌ ခိုလှုံတုပ်ပျပ်လေပြီ။"

## ပွားများ၊ ပို့သ၊ ဖြန့်လွှမ်းဟူသည်

ဤ၌ "မေတ္တာပွားများသည်၊ မေတ္တာပို့သသည်၊ မေတ္တာဖြန့်လွှမ်းသည်၊ မေတ္တာဖြင့်ညို့သည်၊ မေတ္တာဓာတ်ရိုက်သည်" စသည်ဖြင့် သုံးနှုန်းပြောဆိုကြရာ မေတ္တာလက်တွေ့ မရှိသူများအတွက် နားယောင်ကောင်း ယောင်ပေလိမ့်မည်။

မေတ္တာအလုပ်သည် နှုတ်ဖြင့်၊ လက်ဖြင့် လုပ်ရသော အလုပ်မဟုတ်၊

စိတ်ဖြင့်သာ လုပ်ရ၏။ ထို့ကြောင့် 'မေတ္တာဘာဝနာ' ဟုခေါ်ရသည်။ ကမ္မဋ္ဌာန်းလေးဆယ်တွင် တစ်ခုအပါအဝင်ဖြစ်၏။ သူတစ်ဖက်သား ကောင်းစား ချမ်းသာစေလိုသည့်စိတ်ကို များစွာဖြစ်ပွားနေအောင် ကြိမ်ဖန်များစွာ အထပ်ထပ်ပြုလုပ်ပေးရ၏။ စိတ်ကူးပေးရ၏။

ချမ်းသာစေချင်သည့် စိတ်ကိုပွားအောင်၊ များအောင်လုပ်ပေးရသည်ကို 'မေတ္တာပွားများသည်' ဟုခေါ်သည်။ ပါဠိတော်တို့၌ 'ဘာဝနာ, ဘာဝိတ = ဖြစ်စေခြင်း=ပွားများစေခြင်း' ဟု ဟောတော်မူ၏။ ဤကား ပါဠိတော်လာ မူလအဓိပ္ပာယ် ဖြစ်သည်။

အရပ်သုံးအားဖြင့် 'မေတ္တာပို့သသည်' ဆိုခြင်းမှာ မောင်ဖြူက မောင်နီထံ ပစ္စည်းဝတ္ထု တစ်စုံတစ်ရာကို ပို့ဆောင်ပေးအပ်သကဲ့သို့ မောင်ဖြူ၏ မောင်နီ ချမ်းသာစေလိုသော စိတ်ကို မောင်နီ၏ထံသို့ ပို့သခြင်းဖြစ်သည်။ ပို့သည် ဆိုသော်လည်း မောင်ဖြူ၏စိတ်သည် မောင်နီထံသို့ ရောက်သွားခြင်းကား မဟုတ်ပေ။ စိတ်၏ သတ္တိအင်အားသာလျှင် ရောက်ရှိသွားခြင်းဖြစ်သည်။ (ဓမ္မပဒ အဋ္ဌကထာ–၁၊ ၁၉၃–သံဃရက္ခိတ ဘာဂိနေယျဝတ္ထုဩ) 'ဒူရင်္ဂမံ = အဝေးသို့သွားသော စိတ်' ဆိုသော ဝေါဟာရကို ဖွင့်ဆိုရာ၌ 'စိတ်သည် ပိုးချည်တစ်မျှင်ခန့်မျှ ရွေ့လျားသွားခြင်း မရှိ။ မည်မျှခရီးကွာသော အာရုံကိုပင် ဖြစ်စေ၊ ယူနိုင် သိနိုင်ကြောင်း ဆိုလိုရင်း ဖြစ်သည်' ဟု ဖွင့်ဆိုထားလေသည်။

တစ်ဖန် ဝိဘင်းပါဠိတော် စသည်တို့၌ .....

"မေတ္တာသဟဂတေန စေတသာ ဧကံ ဒိသံ ဖရိတွာ ဝိဟရတိ = မေတ္တာစိတ်ဖြင့် အရပ်ဒေသတစ်ခု၌ ရှိနေသည်ကို ဖြန့်၍နေရသည်"

ဟု သုံးနှုန်းလေ့လည်းရှိ၏။ ဖြန့်ဖြူးသည်မှာ ပေးပို့ခြင်းနှင့် မြန်မာမှုအားဖြင့် လည်း နီးနွယ်ပေသည်။ ထို့ကြောင့် ပါဠိအဋ္ဌကထာဝေါဟာရအလိုက် 'မေတ္တာ ဖြန့်လွှမ်းသည်၊ ဖြန့်ဖြူးသည်' ဟု သုံးနှုန်းထိုက်၏။

### မေတ္တာပွားပုံ အရှင်းဆုံး ဖွင့်ဆိုချက်များ

ပဉ္စဝဂ္ဂီငါးဦး အကြီးအမှူးဖြစ်သူ အရှင်ကောဏ္ဍည တရားရှုမှတ်မှုကို ပြရာ ထိုထို အဋ္ဌကထာတို့၌ .....

"အရှင် ကောဏ္ဍညသည် မိမိဉာဏ် မိမိ၏ ခန္ဓာကိုယ်အပေါ်၌ စေလွှတ်ပို့တင်လျက်" ရှုပွားကြောင်းလာရှိ၏။

ထို့အတူ မေတ္တာစိတ်ဓာတ်ကို မိမိပို့လိုသူထံ စေလွှတ်ရ၊ ပို့သ,ရသည်။ ဥဂ္ဂဟနိမိတ်ခေါ် မိမိပို့လိုသူ၏ ပုံပန်းသဏ္ဌာန်ကို မြင်မြင်အောင် ရှုးစိုက် စေလွှတ် နေရသည်ဖြစ်ရာ မေတ္တာဈာန်ဝင်စားရာတွင် ဝိတက်၏ အလုပ်ပင်တည်း။

ဝိတက်သည် 'အာရမ္မဏေ အဘိနိရောပန လက္ခဏော =အာရုံပေါ်သို့ တင်ပို့ခြင်း သဘော' ရှိသည့် ကိုလည်း ထောက်ဆသော် 'မေတ္တာပို့သည်'ဆိုသော ဝေါဟာရလည်း သင့်မြတ်ပေ၏။

ပါဠိ, အဋ္ဌကထာ, ဋီကာတို့၌ကား 'ဖရိတွာ = ဖြန့်သည်'ဟူသော ဝေါဟာရကိုသာ အသုံးများလေသည်။ ပါဠိရော မြန်မာ၌ပါ ဝေါဟာရ ခြားနား လျက်ရှိသော်လည်း ဆိုလိုရင်းအဓိပ္ပာယ် ကွဲပြားမှုမရှိချေ။

လက်တွေ့ တရားရှုပွားသူ၊ အထူးသဖြင့် သမထ လုပ်နေသူများအဖို့ ဝေါဟာရ မည်သို့ပင်ရှိစေ၊ နှလုံးသွင်းရမည့် သဘောကိုမူ တိတိကျကျ သိရှိထား ပြီးဖြစ်ကြပေသည်။ သို့ရာတွင် ဝေါဟာရကိုသာ လေ့လာစိစစ်သူများ အတွက် ပို၍ ရှင်းလင်းစေရန် ဝိသုဒ္ဓိမဂ် စသော အဋ္ဌကထာ, ဋီကာတို့၏ အဆိုအမိန့်ကို ထပ်၍ ပြပါဦးအံ့။

ဖရိတွာတိ ဖုသိတွာ အာရမ္မဏံ ကတွာ။

(ဝိသုဒ္ဓိမဂ်-၁။ ၃၀၁။)

**အဓိပ္ပာယ်**–"မေတ္တာဖြန့်ခြင်း ဆိုသည်မှာ မေတ္တာခံပုဂ္ဂိုလ် တည်းဟူသော အာရုံကို ထိထိတွေ့တွေ့ အာရုံပြု၍ သိ၍နေရခြင်းပင်တည်း"။

ဖရဏဉ္စ သာရမ္မဏဿ စေတသောအတ္တနော အာရမ္မဏဿ ဖဿနာ ပစ္စက္ခတော ဒဿနံ ဂဟဏံ အာရမ္မဏကရဏမေဝ။

(ဝိသုဒ္ဓိမဂ် မဟာဋီကာ-၁၊ ၃၆၃။)

**အဓိပ္ပာယ်**–"ဖြန့်ခြင်းဟူသည် အာရုံကို သိတတ်သော အဒေါသ စေတသိက် မေတ္တာစိတ်သည် မိမိ၏ သိစရာ (သိနေရမည့်) မေတ္တာခံ ပုဂ္ဂိုလ် တည်းဟူသော အာရုံကို ထိတွေ့ခြင်း၊ မိမိမျက်စိရှေ့ (နှစ်တောင့်ထွာ–ဟတ္ထပါသ်အတွင်း)၌ ကြည့်မြင်နေသကဲ့သို့ ပစ္စက္ခအားဖြင့် ထင်မြင်နေအောင် သိမ်းပိုက်ယူဆောင်၍ အာရုံပြုနေရခြင်း၊ သိမြင်အောင် လုပ်နေရခြင်းပင်တည်း" (ခါတ်ပုံရိုက်သည့် သဘောကိုလည်း နှလုံးသွင်း ၍ ချဲ့ထွင်သိပါ။)

တစ်ဖန် မူလပဏ္ဏာသပါဠိတော်၊ ကကစူပမသုတ် အဋ္ဌကထာ, ဋီကာ စကားများကိုလည်း ဆက်လက်မှတ်သားသင့်လေသည်။ ဦးစွာ ထိုပါဠိတော် (မ၊ ၁၊ ၁၇၈ )၌ .....

"ဦးစွာ မိမိအား ဆန့်ကျင်ဘက် ပြောလာသူကိုလည်း မေတ္တာစိတ် ဖြန့်ပြီးနေရမည်။ ထိုမေတ္တာစိတ်ကို အခြားသတ္တလောက တစ်ခုလုံးကိုလည်း ဖြန့်ပြီးနေရမည်" ဟု ဟောတော်မူရာ၌ 'ဖရိတွာ ဝိဟရိဿာမ၊ တဒါရမ္မဏံ'

ပါဠိတော်ကို ဖွင့်ဆိုရာ၌ အဋ္ဌကထာက .....

"ဖရိတွာတိ အဓိမုစ္စိတွာ – ထိုမေတ္တာခံသူကို မလွတ်ဘဲ စွဲစွဲမြဲမြဲ စွပ်ထားရမည်။အာရုံပြုနေရမည်၊ သိမြင်နေရမည်" ဟု ဖွင့်ပြ၏။

ယင်းကို ဋီကာဆရာက .....

"အဓိမုစ္စိတွာတိ အဘိရတိဝသေန တသ္မိံ ပုဂ္ဂလေ ဘာဝနာစိတ္တံ မုဉ္စိတွာ ဝိဿဇ္ဇေတွာ = ထိုမေတ္တာခံ ပုဂ္ဂိုလ်အပေါ် အလွန်အကဲ အကျိုးလိုလားနှစ်သက်စွာ မေတ္တာစိတ်ကို ပို့လွှတ်ခြင်းပင်တည်း" ဟု ဖွင့်ဆိုလေသည်။

အဋ္ဌကထာ ဆရာက – "ဆန့်ကျင်ဘက်ဆိုလာသူကို ဦးစွာ အာရုံပြု မေတ္တာပို့လွှတ် ဆွဲယူပြီးနောက် တဒါရမ္မဏ = ထိုမေတ္တာစိတ်ကို တစ်လောကလုံးကိုလည်း အာရုံပြု ပို့လွှတ်ဆွဲယူရမည်" ဟု မိန့်ဆိုလေသည်။

(အဋ္ဌကထာ၊ ၂၊ ၆။ ဋီကာ ၂၊ ၈၀။)

အချုပ်အားဖြင့် အာရုံပြုရခြင်း၊ သိမြင်စွဲမြဲနေအောင် လုပ်ရခြင်းပင်ဖြစ်သည်။ အဋ္ဌကထာ, ဋီကာများအားလုံး စကားအသုံးအနှုန်း သိုးကာသိကာ ကွာဟသည် ထင်ရစေကာမူ အဓိပ္ပာယ်မှာ တစ်ထပ်တည်းပင်တည်း။

ဤကား မေတ္တာစိတ်ထားပုံ အဋ္ဌကထာ ဋီကာ အဆိုအမိန့်များ အမြွက်မျှ ဖြစ်ပေ သည်။

## ကျောင်းကြီးကျောင်းကြား ဝါဒမှတစ်ဆင့်

ဖော်ပြပြီးအများသိ ဝတ္ထုသာဓကနှင့် သဘာဝဖွင့်ဆိုချက်များကို ထောက်ဆလျှင် ဘုရားရှင်သည် အခြားမည်သည့် တန်ခိုးဣဒ္ဓိပါဒ်ကိုမျှ မသုံးဘဲ မေတ္တာသက်သက်ဖြင့်သာ အောင်ပွဲရတော်မူခဲ့သည်ကို စံနမူနာ ယူသင့်ကြကုန်၏။ အခြား မရေမတွက်နိုင်သော ဗုဒ္ဓ၏အောင်ပွဲများနှင့် ဗုဒ္ဓသာသနာတော် အရှည်တည်တံ့နေသည်မှာ မေတ္တာတွန်းအားကြောင့်ဟု ဆိုရပေမည်။

ယခုအခါ အာဋ္ဌဝက၏ လုပ်ဆောင်ချက် အပုံတစ်သိန်း ပုံလျှင် တစ်ပုံခန့်မျှ မရှိသော ငလျင်၊ တော်လည်း၊ ရေကြီး၊ တောင်ပြိုခြင်း၊ မုန်တိုင်းတိုက်ခတ်ခြင်းများနှင့် မကြာခဏ ရင်ဆိုင်နေကြရရာ သေချာပေါက် အောင်ပွဲရလက်နက်ကောင်းကြီးများ ရှိနေပါလျက် အသုံးချရကောင်းမှန်း မသိဘဲ 'သဘာဝ အန္တရာယ် (Natural disaster) 'ဟု သံယောင်လိုက်ကာ ခေါင်းငုံ့၍ ခံနေကြရလေသည်။

'မေတ္တာသည် အဆိပ်မျိုးစုံကို အောင်နိုင်၏"ဟု ကြားသိကြသော်လည်း ယနေ့ကမ္ဘာ၌ အဆိပ်မျိုးစုံ မွှန်၍နေချေပြီ။ လူလုပ်သော အဆိပ်လက်နက်နှင့် လူလုပ်သော စစ်ပွဲကြီးများ ဖြစ်ပေါ်ရင်ဆိုင်ကြရာတွင်လည်း ဓမ္မဗလ = တရားအင်အားလက်နက်များ ရှိပါလျက် အသုံးမပြုမိတတ်ကြချေ။ အသုံးပြုသည့်

တိုင်အောင်လည်း အလေ့အလာနည်း၍ ထိမှန်အောင် မပစ်နိုင်ကြတော့ချေ။

ယင်းသို့ တရားအင်အားကို ရိပ်စားမိရုံကလေးလောက်ကိုပင် လေ့လာစမ်းသပ်ရ ကောင်းမှန်း မသိကြတော့ဘဲ နောက်ဆုံး သမိုင်းဝင် ဗုဒ္ဓ၏ အောင်ပွဲများနှင့် ဗုဒ္ဓ သာဝကကြီးများ၏ အောင်ပွဲကြီးများကိုပင် ဒဏ္ဍာရီဟု ထင်မှတ်လာကြတော့၏။ ထိုမျှမက ဟုတ်မှန်သည်ဟု ယုံကြည်သူများပင်လျှင် အကြောင်းရင်း အမှန်ကို မဆင်ခြင် မသုံးသပ်နိုင်ကြတော့ဘဲ ဘာပဲဖြစ်ဖြစ် တန်ခိုးတော်ထဲသို့ ထိုးသွင်းမိကြလေတော့သည်။

ထိုအခါမှစ၍ ဗုဒ္ဓဘာသာဝင်အများစုအတွက် လွယ်ကူပေါ့ပါး၍ အလွန်အားကိုးဖွယ်ကောင်းလှသော ဗုဒ္ဓဝါဒသည် 'ခြေရာလည်းပျောက်၊ ရေလည်းနောက်' ဖြစ်ရလေ၏။ 'ဗမာအို ကျောင်းကြိုကျောင်းကြား' ဟူသော စကားပုံနှင့်အတူ လုံ့လ ဝီရိယရှိရှိနှင့် လက်တွေ့စမ်းသပ်နိုင်စွမ်း မရှိတော့သော လူအိုများကသာ လူမှုရေးအရပ်ရပ်ကို ထွန်းဆောင်နိုင်သော ဗုဒ္ဓဝါဒကို ကျောင်းကြိုကျောင်းကြားသို့ ယူဆောင်သွားကြ လေတော့သည်။

ဗုဒ္ဓဝါဒသည် ကျောင်းကြိုကျောင်းကြားဝါဒအဖြစ်သို့ ရောက်ရှိသွားသောအခါမှစ၍ –

"ငါသိသလို သိစေမည်၊ ငါလွတ်သလို လွတ်စေမည်" ဟူသော အလောင်းတော်ဘဝက ရည်ရွယ်ချက်သည်လည်းကောင်း၊

"ဘုရား၊ တရား၊ သံဃာ ရတနာမြတ်သုံးပါးသည် လူနတ်ဗြဟ္မာ သတ္တဝါအားလုံး၏ အကျိုးစီးပွားချမ်းသာ အလို့ငှာ ဖြစ်ပေါ်လာပေသည်" ဟူသော ထုတ်ဖော်ဟောပြောချက်သည်လည်းကောင်း စာအုပ်ထဲတွင်သာ တွေ့ရှိရ တော့၍ ဗုဒ္ဓဘာသာဝင် မြန်မာလူမျိုးတို့သည် ဘုရားရှင် မဟာကရုဏာတော် ဖြင့် ရည်ရွယ်ညွှန်ပြတော်မူသည့်အတိုင်း သိအောင်၊ လွတ်အောင်၊ အကျိုးစီးပွား ချမ်းသာရအောင် မစွမ်းဆောင်နိုင်ကြတော့ဘဲ ရတနာမြတ်သုံးပါးကို ကိုးကွယ်ရာ အဖြစ်မှ ပူဇော်ကန်တော့ရရုံအဖြစ်သို့ လျှော့ချမှန်းမသိ လျှော့ချ၍ လာခဲ့ကြသည်။ လက်တွေ့ကိုမှ ယုံကြည်သော ခေတ်လူတို့ကား စာများကို လက်တွေ့အဖြစ်သို့ အကောင်အထည်ဖော်နေကြလေပြီ။



## ၄။ လိစ္ဆဝီ ဆိုးသွမ်းလူငယ်များအတွက် ဗုဒ္ဓ၏ ကြီးမြားချမ်းသာရေးလမ်းစဉ်

မြတ်စွာဘုရားရှင် ဝေသာလီပြည် မဟာဝုန်တော ပြာသာဒ်ကျောင်းကြီး၌ သီတင်းသုံးတော်မူစဉ်ဖြစ်၏။ တစ်ခုသောနံနက် ဝေသာလီပြည်မှ ဆွမ်းခံထွက် ဆွမ်းဘုဉ်း ပေးတော်မူပြီးလျှင် မဟာဝုန်တောသို့ ကြွတော်မူ၍ သစ်တစ်ပင်ရင်း၌ နေ့သန့်စင်တော်မူသည်။

ထိုအခိုက် လိစ္ဆဝီမင်းသားငယ်များသည် ခွေးများခြံရံကာ လက်နက်လေးမြားကိုယ်စီ ကိုင်ဆောင်လျက် မဟာဝုန်တောတွင်းသို့ တောလိုက် ထွက်လာကြကုန်၏။ သစ်တစ်ပင် ရင်း၌ မြတ်စွာဘုရားရှင် တစ်ပါးတည်း ထက်ဝယ်ဖွဲ့ခွေ သီတင်းသုံးနေသည်ကို အဝေးကပင် မြင်ကြရသဖြင့် အချင်းချင်း မျက်ရိပ်ပြကာ လက်နက်လေးမြားတို့ကို မမြင်ကွယ်ရာ၌ ထိုးသွင်းသိုဝှက်လိုက်ကြ၏။ တောလိုက်ခွေးများကိုလည်း လက်ဟန်ပြ၍ အဝေးသို့ မောင်းနှင်ထုတ်ကြသည်။

### လူဆိုးကလေးများနှင့် ဗုဒ္ဓ

မင်းသားငယ်များအားလုံး ဘုရားရှင်ထံ လာရောက်ဦးချကာ ငြိမ်သက်စွာ ရှိခိုးနေကြကုန်၏။ ထိုအခြင်းအရာကို အညောင်းပြေ လမ်းလျှောက်ထွက်လာသော မဟာနာမ် လိစ္ဆဝီ မင်းသားကြီးတစ်ဦးက တွေ့မြင်သွားသည်။ မဟာနာမ်သည် လိစ္ဆဝီ မင်းသားတို့တွင် ထင်ရှားကျော်ကြားသော တိုင်းပြည်ခေါင်းဆောင် အရိယာ

သာဝက ကြီးတစ်ဦးဖြစ်၏။

မဟာနာမ်သည် ဘုရားရှင်ရှေ့တော်၌ ယဉ်ကျေးသိမ်မွေ့စွာထိုင်၍ ရှိခိုးနေကြသော မင်းသားငယ်များကိုကြည့်ပြီး ပီတိဖြစ်ကာ ဘုရားရှင်ထံ အပြေးအလွှား လာရောက်ဦးချ၍ .....

"ဝဇ္ဇီမင်းမျိုးတွေတော့ ချမ်းသာကြီးပွားကြဦးတော့မှာပဲအရှင်ဘုရား၊ ဝဇ္ဇီမင်းမျိုးတွေတော့ ချမ်းသာကြီးပွားကြဦးတော့မှာပဲ အရှင်ဘုရား"ဟု ဝမ်းသာအားရ ရွှင်ပျကြည်နူးစွာ ရင့်ကျူးကြွေးကြော်နေလေသည်။

ဗုဒ္ဓ– မဟာနာမ်၊ အဘယ်ကြောင့် ဤမျှလောက် ရင့်ကျူးကြွေးကြော်နေဘိသနည်း။

မဟာနာမ်– မှန်လှပါ မြတ်စွာဘုရား၊ ဤလိစ္ဆဝီမင်းသားငယ်များမှာ လွန်စွာ ခက်ထန် ရိုင်းစိုင်းပြီး အလွန်မာနကြီးကြပါသည်။ တစ်ဦးကတစ်ဦး လက်ဆောင် ပေးရန် ယူဆောင်သွားသော မုန့်ပဲသွားရည်စာများကိုပင် လမ်းမှ လုယူစားသောက်ကြပါသည်။ မာတုဂါမ ကြီးငယ်များကိုလည်း နောက်မှလိုက်၍ ကန်ကျောက်နှောင့်ယှက် နှိပ်စက်လေ့ ရှိကြပါသည်။ ယခု ထိုလိစ္ဆဝီ ဆိုးသွမ်း လူငယ်များ မြတ်စွာဘုရား ရှေ့တော်၌ လိမ္မာယဉ်ကျေး အေးချမ်းစွာ လက်အုပ်ချီပြီး ချဉ်းကပ်နေသည်ကို တွေ့မြင်ရသောကြောင့် ဖြစ်ပါသည်ဘုရား။

### ခေါင်းဆောင်ကောင်း အရည်အချင်း

ဗုဒ္ဓ– မဟာနာမ်၊ ရေမြေကို အစိုးရသည့် ဦးထိပ်၌ အဘိသိက်သွန်း ခံရသော မင်းဖြစ်စေ၊ အဖက ပေးသည့် မြို့ရွာကို စားရသော မြို့စား ရွာစားဖြစ်စေ၊ စစ်တပ်ဦးစီး စစ်သူကြီးဖြစ်စေ၊ ရွာသူကြီးဖြစ်စေ၊ အသင်းအဖွဲ့ အကြီး အမှူးဖြစ်စေ၊ အမျိုး အသီးသီး၌ အကြီးအမှူး အစိုးရသူဖြစ်စေ တရားငါးမျိုး ရှိသော မည်သည့်အမျိုးကောင်းသား မဆို ကြီးပွားတိုးတက်ခြင်းကိုသာလျှင် မုချရပေလိမ့်မည်၊ ဆုတ်ယုတ် ပျက်စီးခြင်း မရှိနိုင်။

တရားငါးမျိုးကား အဘယ်နည်းဆိုသော် .....

၁။ မဟာနာမ်၊ ဤလောက၌ အမျိုးကောင်းသားသည် လုံ့လ ဝီရိယရှိရှိ လက်ရုံးအားကိုးပြု၍ ချွေးဒီးဒီးကျအောင် တရားသဖြင့် ရှာဖွေရရှိသော ဥစ္စာတို့ဖြင့် မိဘလူကြီးသူမတို့ကိုလည်းကောင်း၊

၂။ သားမယား၊ အခိုင်းအစေတို့ကိုလည်းကောင်း၊

၃။ လယ်နီးချင်း၊ ယာနီးချင်း၊ လုပ်ဖော်ကိုင်ဖက်၊ ရောင်းဖော်ဝယ်ဖက် တို့ကိုလည်းကောင်း၊

၄။ မိဘရိုးရာ ပ,သမြန်ုတ်တို့ကိုလည်းကောင်း၊

၅။ ရဟန်းသံဃာ သူတော်သူမြတ် (သမဏ၊ ဗြာဟ္မဏ) တို့ကို လည်းကောင်း အရိုအသေပြု၍၊ အလေးအမြတ်ပြု၍၊ မြတ်နိုး၍၊ ပူဇော်၍။

ထိုသို့အရိုအသေအလေးအမြတ် အပူဇော်ခံရသူတို့က ထိုအမျိုးကောင်း သားအား "ကျန်းမာသက်ရှည်ပါစေ"ဟု မေတ္တာစိတ်နှလုံးကောင်းဖြင့် စောင့်ရှောက်ကြကုန်၏။

မဟာနာမ်၊ မိဘ (စသူ)တို့စောင့်ရှောက်ခံရသော အမျိုးကောင်း သားသည် ကြီးပွားတိုးတက်ခြင်းကိုသာလျှင် မုချရပေလိမ့်မည်။ ဆုတ်ယုတ်ပျက်စီးခြင်း မရှိနိုင်။

[အင်္ဂုတ္တိုရ်ပဉ္စက၊ လိစ္ဆဝိကုမာရကသုတ်။ အဋ္ဌကထာ၌ 'သဗျောဟာရ'ကို 'မြေတိုင်းစာရေး' ဟု ဖွင့်ဆိုသည်ကို သဘောမပေါက်။ ထို့ကြောင့် 'လုပ်ဖော်ကိုင်ဖက် ရောင်းဖော်ဝယ်ဖက်' ဟု ပြန်ဆိုလိုက်သည်။ သ + ဝေါဟာရ။]

ဤသို့ မြတ်စွာဘုရားရှင်က လိစ္ဆဝီမင်းသား ဆိုးသွမ်းလူငယ်များနှင့်စပ်၍ ဟောကြားတော်မူသော တရားမှာ 'ခေါင်းဆောင်လမ်းညွှန်' တရား ဖြစ်၏။ နောင်တစ်ချိန်၌ ဝဇ္ဇီနိုင်ငံတွင် အကြီးအကဲဖြစ်လာကြမည့် လိစ္ဆဝီမင်းသားငယ်များ အတွက် ရာသက်ပန် အသုံးဝင်သည့် 'ကြီးပွားရေးတရား'လည်း ဖြစ်သည်။ သာမန်လူသား တစ်ဦးအနေဖြင့်လည်း ကျင့်သုံးသင့်၏။ အထွတ်အထိပ်အထိ အဆင့်ဆင့် အကြီးအကဲ လုပ်ရရာ၌မူ ပို၍ ကျင့်သုံးလိုက်ရန် အရေးကြီးသော ကျင့်ဝတ်လည်းဖြစ်ကြောင်း ညွှန်ပြတော်မူလိုပေသည်။

မှန်လှပေ၏။ အိမ်တစ်အိမ် ဦးဆောင်ဦးရွက် လုပ်သူသည် ဟိမဝန္တာ တောင်လောက် မြင့်မားလျှင် သူ့ကို မှီခိုနေရသော သားမယားတို့သည် ဟိမဝန္တာ တောင်ကို မှီ၍ ပေါက်ရောက်ရသော သစ်ပင်များကဲ့သို့ အလိုလို မြင့်မားလာမြဲဖြစ်၏။ သက်မဲ့ဖြစ်သော သစ်ပင်တို့ပင်လျှင် အမျိုးဇာတ် တူသော်လည်း တောင်ဝှမ်း၌ ပေါက်သော (တောရိပ် တောင်ရိပ်ကို မှီခိုရသော) သစ်ပင်နှင့် မြေပြန့်၌ပေါက်သော သစ်ပင်များ အနိမ့်အမြင့် အခေါက်အပွေး မတူညီကြပေ။

## အရေးအကြီးဆုံး လူ့ပတ်ဝန်းကျင်

ဤသုတ်၌ မြတ်စွာဘုရား ဟောတော်မူလိုသည်မှာ လူသည် မိဘစသော ပတ်ဝန်းကျင်နှင့် အတူတကွ နေထိုင်သူဖြစ်၍ မိမိနှင့် အမြဲတမ်း တွေ့မြင်ဆက်ဆံနေရသူနှင့် ပထမဆုံး သင့်မြတ်ရန်လို၏။ တရားသဖြင့် ကူညီစောင်မရန်လို၏။ မိဘစသော အနီးကပ်ပတ်ဝန်းကျင်၏ ချစ်ခင်မြတ်နိုးမှု(မေတ္တာ)ကို ပထမဆုံး ခံယူရရှိရန် အရေးကြီးလေသည်။

ဦးစွာ မိမိက မနှောက်၊ ဝစီကံ မေတ္တာမျှသာမက ကိုယ်ထိလက်ရောက် စောင့်ရှောက်ကူညီမှု (ကာယကံမေတ္တာ)ကို ပြရန်လိုပေသည်။

ဆန့်ကျင်ဘက်ရန်သူဟူသည် အဝေးက လာခဲ၏။ ကျေးဇူးခံ ၊ ကျေးဇူးစားရှိသူ အချင်းချင်းထဲကသာ ထွက်ပေါ်လာလေ့ရှိသည်။ ထို့ကြောင့် မိမိနှင့် အနီးကပ်ဆုံး ပတ်ဝန်းကျင်၏ မေတ္တာတုံ့ ချစ်ခင်မြတ်နိုးမှုကို ဦးစွာ အရယူရန် ဟောတော်မူလိုရင်းဖြစ်သည်။

* မိဘ သားမယား၊ ဆွေမျိုးများနှင့်၊
စေပါး လုပ်ဖော်၊ နတ်, သူတော်၊
သင့်ပေါ် ချစ်ပါစေ။

ဤ၌ လူသားတစ်ဦး၏ အနီးကပ် ပတ်ဝန်းကျင်တွင် ရိုးရာနတ်များနှင့် သူတော်ကောင်းများပါ ပါဝင်နေသည်ကို သတိပြုရပေလိမ့်မည်။

ထိုပုဂ္ဂိုလ်များသည် သာမန်လူသားတစ်ဦးနှင့် မည်သို့မျှ မစပ်ဆိုင်ဟု ထင်ရသော်လည်း မိမိ၏ အကောင်းအဆိုး အပြုအမူကိုလိုက်၍ အကျိုးအပြစ်ကို ဖြစ်စေနိုင်သဖြင့် အနီးကပ် ထိတွေ့နေရသော ပတ်ဝန်းကျင်အဖြစ် အသိအမှတ်ပြုထားရန် ဟောတော်မူခြင်းဖြစ်သည်။

'ရိုးရာနတ်' နှင့်စပ်၍ စာပေကျမ်းဂန် တတ်သူများပင် (မြတ်စွာဘုရား၏ ဆန္ဒတော်နှင့် သယ်တီ၊ သေက္ခတောင်၊ စံကျောင်း စသော ဆရာတော်ကြီးများ၏ အဆုံးအဖြတ်များကို တော်လှန်ကာ)ပစ်ပစ်ခါခါ ပြောဆိုရေးသားမိတတ်ကြရာ သတိမူသင့်ကြပေသည်။

ယခုအခါ လုပ်နေကြသော နတ်ကနားပွဲမျိုး မလုပ်ကောင်းသည်ကိုလည်း ထပ်ဆင့်၍ သတိပြုကြရာ၏။



၅။ ငြိမ်းချမ်းစွာ အတူတကွနေထိုင်ရေး

**ကောသမ္ဗိ အဓိကရုဏ်းကြီးမှ ရလဒ်**

မေတ္တာဖြင့် ညီညွတ်ငြိမ်းအေးမှုကို အစဉ်လိုလားတော်မူသော မြတ်စွာဘုရား၊ ထိုမြတ်စွာဘုရား၏ ရှေ့တော်မှောက်၌ ထိုမြတ်စွာဘုရားရှင်၏ တပည့်သားတို့ကပင် မြတ်စွာဘုရားရှင်အား ဆန့်ကျင်ခဲ့ကြဖူး၏။

မြတ်စွာဘုရားရှင် ကိုး၀ါမြောက် ကောသမ္ဗိ၌ ၀ါကပ်၍ သာသနာ ပြုစဉ်က ဖြစ်၏။ ကောသမ္ဗိ၌ ဗုဒ္ဓသာသနာသည် ထူးထူးခြားခြား ပြန့်ပွားခဲ့သည်။ ဃောသက စသော သူဌေးကြီးသုံးဦးတို့က ဦးဆောင်၍ ကျောင်းတိုက်ကြီး သုံးတိုက် ဆောက်လှူကာ အပြိုင်အဆိုင် သာသနာ အားပေးကြစဉ် ဆန့်ကျင်ဘက် အမွှေဓာတ်များကလည်း ထိုးနက်လာကြ၏။

မာဂဏ္ဍီမိဖုရားကြီးက လူမိုက်များကို အသပြာငွေပေး၍ ဘုရားရှင် ဆွမ်းခံကြွစဉ် ဆဲရေးရှုတ်ချကာ ရန်ပြုလာစေခဲ့၏။ ဗုဒ္ဓရှင်တော်မြတ်၏ ခန္တီနှင့် မေတ္တာ၀ါဒသည် ပို၍ တောက်ပြောင်လာစေသကဲ့သို့သာဖြစ်သည်။

တစ်ဖန် ဘုရားရှင်၏ အတွင်းနေဖြစ်သူ တပည့်ရဟန်းအချို့ကပင် ဘုရားရှင်၏ သာသနာ (အဆုံးအမ)ကို နွမ်းညှိုးစေခဲ့ကြပြန်သည်။ အနှစ်အသားမပြည့်သေးသော သာ၀ကများကြောင့် ဗုဒ္ဓသာသနာတော်သည် အခိုက်အတန့်အားဖြင့် ညှိုးနွမ်းသယောင် ဖြစ်ခဲ့ရသော်လည်း ထိုဆန့်ကျင်ဘက် အမွှေဓာတ်များကြောင့်ပင် ဗုဒ္ဓသာသနာ မေတ္တာ၀ါဒသည် ပို၍ပင် တောက်ပြောင်လာခဲ့ပေသည်။

### အမှိုက်ကစ ပြဿနာဒ်မီးလောင်

ဃောသကသူဌေး ဆောက်လှူသော ဃောသိတာရုံကျောင်း၌ မြတ်စွာဘုရား သီတင်းသုံးတော်မူစဉ် ဝိနည်းဆောင်ရဟန်းနှင့် သုတ္တန်ဆောင်ရဟန်း နှစ်ပါးသည် တပည့်အခြံအရံများနှင့် အသီးသီးနေထိုင်ကြ၏။

တစ်နေ့သောအခါ သုတ္တန်ဆောင်ရဟန်းသည် ဝစ္စကုဋီ (အိမ်သာ)သို့ ဝင်ပြီးနောက် သန့်သက်ရေခွက်၌ ရေကြွင်းရေကျန်ထားပြီး အမှတ်တမဲ့ ထွက်လာခဲ့၏။ ထိုအခိုက် ဝိနည်းဆောင်ရဟန်း ဝင်သွားသောအခါ ရေခွက်ကို တွေ့သဖြင့် ပြန်ထွက်လာပြီးနောက်–

"ငါ့ရှင်၊ သန့်သက်ရေကြွင်းကို သင် ချန်ထားခဲ့သလား၊ ဤသို့ထားလျှင် အာပတ်သင့်သည်ကို မသိဘူးလား" ဟု ဝိနည်းဆောင်ရဟန်းက မေးလျှင် မသိ၍ ထားခဲ့မိကြောင်း ရိုးသားစွာ ဝန်ခံလျှောက်၏။ "အာပတ်သင့်လျှင်လည်း ဒေသနာကြား ကုစားပါမည်" ဟု ဝန်ခံချက်ပေးလေ၏။

"မေ့လျော့ပြီး ထားခဲ့မိလျှင် စေတနာ မပါ၍ အပြစ်မရှိ" ဟုပင် ဝိနည်းဆောင် ရဟန်းက ဆုံးဖြတ်ပြောဆိုသဖြင့် သုတ္တန်ဆောင်ရဟန်းမှာ အပြစ်မရှိဟုပင် ယူဆပြီး နေလိုက်၏။ စင်စစ် ဝိနည်းတော်အရကား မည်သို့ပြစ်စေ ဒုက္ကဋ်အာပတ် သင့်သည်သာ ဖြစ်၏။ ဝိနည်းဆောင်ရဟန်းကား ရိုးသားစွာ ဝန်ခံလျှောက်ထား၍ အာပတ်မသင့်ဟု ရိုးသားစွာ မှတ်ထင်နေသော သုတ္တန်ဆောင်ရဟန်းအား" အာပတ်သင့်လျက် သင့်မှန်းမသိ" ဟု မိမိ တပည့်များအား ပြောရာမှ တပည့် အချင်းချင်း ရှုတ်ချပြောဆိုနေကြ၏။ သုတ္တန်ဆောင်ရဟန်း ကြားလေလျှင်–

"ဤဝိနည်းဆောင်ရဟန်းမှာ အစက အာပတ်မသင့်ဟု ပြောပြီးမှ ယခု အာပတ်သင့်သည်ဟု ပြောပြန်သည်။ ဝိနည်းဆောင်ရဟန်းသည် မုသားစကား ပြောကြား၏" ဟု မိမိတပည့်များအား ချေပပြောဆိုရာမှ တပည့်အချင်းချင်း အငြင်းပွားကာ ဝိနည်းသံဃာစုက သုတ္တန်သံဃာစုအား နှင်ထုတ်သော ဝိနည်းကံပွဲ (ဥက္ခေပနီယကံ)ကို ပြုလုပ်ကြ၏။

ကျေးလက်တောရွာအထိ အသီးအသီး သဘောတူရာ သံဃာများကို စည်းရုံးကာ အငြင်းပွားကုန်ကြ၏။

ထိုအခါ မြတ်စွာဘုရား ကြားသိတော်မူ၍ နှစ်ပက္ခစလုံးအား သံဃာ မကွဲပြားအောင် နေထိုင်နည်းများ၊ သံဃာညီညွတ်ရေး တရားများကို ဟောကြား တော်မူရလေသည်။ သို့ရာတွင် ဘက်လိုက်သည်ဟု ထင်လျှင် ထင်သူမှာ နစ်နာမည် စိုးတော်မူသဖြင့် တတ်ယောင်မာန်မူသော ဝိနည်းရဟန်း, ငါတို့ဆရာ အမှန်ဟု ဘက်လိုက်သော နောက်လိုက်များ မည်သူ့အားမျှ အပြစ်တင်တော်မမူဘဲ

ညီညွတ်အောင်သာ ဆုံးမတော်မူ၏။ သို့သော် ရတော်မမူလေ။

မြို့ရွာအတွင်း ဆွမ်းစားဖရပ်၌ပင် ကိုယ်ထိလက်ရောက် ငြင်းခုံခိုက်ရန် ဖြစ်ကြကုန်၏။ ထိုအခါ 'ဒီဃာဝုဇာတ်တော်'ကို ဟောတော်မူရပြန်လေသည်။

## ဒီဃိတိကောသလမင်းကြီး၏ သေတမ်းစာ

ရှေးအခါက ဗာရာဏသီပြည် ဗြဟ္မဒတ်ခေါ်သော ကာသိမင်းသည် အင်အားကြီးနိုင်ငံဖြစ်၍ ဒီဃိတိခေါ်သော ကောသလမင်းမှာ အားနည်းသော နိုင်ငံငယ်ရှင် ဖြစ်သည်။

တစ်နေ့သောအခါ ကာသိမင်းသည် ကောသလနိုင်ငံကို တိုက်ခိုက်သိမ်းယူ၏။ ကောသလမင်းမှာ ကြိုတင်သိရှိ၍ မိဖုရားကြီးနှင့်အတူ ထွက်ပြေးကာ ဗာရာဏသီပြည် အစွန်အဖျား အိုးဖုတ်တဲ၌ ရုပ်ဖျက်၍ ပရိဗိုဇ်ရဟန်းလုပ် နေကြသည်။ ထိုသို့နေစဉ် ဒီဃာဝုခေါ် သားတစ်ယောက် ဖွားမြင်ရာ သားတော်အား မင်းဘေးမှ ကင်းဝေးစေရန် မိမိတို့နှင့် ခွဲခွာ၍ မြို့အပြင်၌ထားကာ ပညာသင်စေ၏။

ပညာသင်ယူတတ်မြောက်သော အရွယ်သို့ ရောက်သောအခါ မိဘများထံ ကန်တော့ရန်သွားရာ ရန်သူ ကာသိမင်းက သတင်းအရ မိဘနှစ်ပါးကို ဖမ်းဆီး၍ ကွပ်မျက်ရန် မြို့တွင်း လေးပြင်လေးရပ် လှည့်လည်ခေါ်ဆောင်၍ ညှဉ်းဆဲနေချိန် ဖြစ်၏။

မိဘနှစ်ပါးအား လက်ပြန်ကြိုးတုတ်နှောင်ထား၍ ဦးခေါင်းများကိုလည်း ရိတ်ကာ လမ်းဆုံတစ်ခုမှတစ်ခုသို့ ရိုက်ပုတ်ခေါ်ဆောင်သည်ကို မြင်တွေ့ရ၏။ ရတ်တရက် စိတ်သောကကို အောင့်အည်း၍ အများပြည်သူတို့နှင့် ရောယောင်ကာ တိုးဝှေ့ကြည့်ရှုနေစဉ် ဒီဃိတိကောသလမင်းကြီးသည် သားတော်ကို မြင်လျှင် သေခါနီး နောက်ဆုံး ဆုံးမစကား လေးခွန်းကို ရေရွတ်ပြောဆိုနေတော့၏။

၁။ ချစ်သား ဒီဃာဝု၊ သင်သည် အရှည်ကိုလည်း မကြည့်လင့်၊

၂။ အတိုကိုလည်း မကြည့်လင့်၊

၃။ ချစ်သား ဒီဃာဝု၊ ရန်တုံ့မူသဖြင့် ရန်တို့သည် မငြိမ်းနိုင်ကုန်၊

၄။ ချစ်သား ဒီဃာဝု၊ ရန်တုံ့မမူမှသာ ရန်တို့သည် ငြိမ်းကုန်၏။

မင်းကြီး ရေရွတ်မြည်တမ်းနေသည်ကို ကြားရသောအခါ မင်းချင်း များက– "ဘယ်မှာလဲ သင့်သား ဒီဃာဝု၊ သင့်ရှုးများ နေသလား" ဟုမေးမြန်းကြရာ .....

"ငါ မရူးဘူး၊ ပညာရှိတဲ့လူ သိလိမ့်မယ်" ဟု ပြောဆိုကာ သုံးကြိမ်သုံးခါ ရေရွတ်နေတော့၏။

နောက်ဆုံး မြို့တောင်ဘက်၌ မင်းနှင့်မိဖုရားကြီး နှစ်ဦးစလုံးအား ခုတ်ထစ်ပိုင်းဖြတ်ကာ အစောင့်လူချထား၍ မင်းချင်းများ ပြန်သွားကြ၏။ သားတော် ဒီဃာဝုလည်း အစောင့်လူများအား အရက်သေစာ တိုက်ကျွေး၍ မိဘနှစ်ပါးကို ကောင်းစွာ မီးသဂြိုဟ်လျက် ဦးချကန်တော့နေစဉ် ကာသိမင်းကြီးလည်း နန်းတော်တံခါးမှ အမှတ်မထင် မြင်လေရာ 'ငါ့ရန် မအေးသေး' ဟူ၍ ထိတ်လန့်နေတော့သည်။

တစ်နေ့သောအခါ ကာသိမင်းကြီး နံနက်မိုးသောက်ယံ စောစောထခိုက် မင်းဆင်တင်းကုပ်မှ သာယာသော သီချင်းဆိုသံနှင့် စောင်းသံကို ကြားတော်မူ၍ နှစ်သက်တော်မူသဖြင့် ရှေ့တော်သို့ ခေါ်စေ၏။ ဆင်ထိန်းကြီးထံ မကြာမီကမှ ပညာသင်ရောက်လာသော လုလင်ပျိုတစ်ဦးဖြစ်နေသည်။ ထိုလုလင်ပျိုမှာ ဒီဃာဝု မင်းသားပင်တည်း။ သို့သော် မင်းကြီးကား မသိ။ မင်းသားလည်း မင်းလိုမင်းကြိုက် အလိုက်သင့် ခစားနေ၏။ နောက်မှ အိပ်ခြင်း၊ ဦးစွာ အိပ်ရာမှထခြင်း စသော ကျင့်ဝတ်ကောင်းများကြောင့် သက်တော်စောင့် ရာထူးအထိ တိုးတက်ချီးမြှင့်ခံရသည်။ လက်စားချေရန် အခွင့်ကောင်းပင်ဖြစ်၏။

မင်းသားကား စိတ်ကူးမျှ မထည့်ချေ။

တစ်နေ့တွင် စစ်တပ်များခြံရံ၍ တောကစား ထွက်တော်မူရာ မင်းကြီးစီးသော ရထားကို ဒီဃာဝုမင်းသားက မောင်းနှင်ရ၏။ တဖြည်းဖြည်း စစ်တပ်နှင့်ဝေးကွာ သွားအောင် မောင်းနှင်ရာ မင်းကြီးက ရထားကိုရပ်၍ နားနေဆိုင်းငံ့ရန် အမိန့်တော်ရှိသဖြင့် သစ်တစ်ပင်ရင်း၌ ရထားချွတ်ကာ ရပ်နားလိုက်သည်။

မင်းကြီးလည်း ခရီးပန်းသဖြင့် တင်ပျဉ်ခွေထိုင်သော မင်းသား၏ ပေါင်ပေါ်၌ပင် ချက်ချင်း အိပ်ပျော်သွား၏။

ထိုအခိုက် မင်းသားသည် ရုတ်တရက် (ခမည်းတော်၊ မယ်တော်တို့၏ မျက်နှာကို မြင်ယောင်လာက) စိတ်ရိုင်းဝင်လာသဖြင့် သန်လျက်အိမ်မှ သန်လျက်ချွတ်ကာ ကာသိမင်းကြီးအား သတ်ရန်ကြံစည်မိလေ၏။ ချက်ချင်းပင်–

"ချစ်သား ဒီဃာဝု၊ သင်သည် အရှည်ကိုလည်း မကြည့်လင့်" စသော ခမည်းတော် သေခါနီးက ဆုံးမ,စကားလေးခွန်းကို ကြားယောင်လာသဖြင့် သက်ပြင်းချကာ သန်လျက်ကို ပြန်သွင်းထားလိုက်သည်။ ဤနည်းဖြင့် သုံးကြိမ်တိုင်တိုင် ချီတုံချတုံ ဖြစ်နေရှာသည်။

ကာသိမင်းလည်း တဖျပ်ဖျပ် လန့်ထိတ်ကာ စိတ်မသန့်ကြောက်ရွံ့ပြီး အိပ်ရာမှ လူးလွန့်ထသဖြင့် မင်းသားက အကျိုးအကြောင်း လျှောက်တင်လျှင်–

"ဒီဃိတိ ကောသလမင်းရဲ့ သားတော်က ငါ့ကို သန်လျက်နှင့် လိုက်လို့ပြေးလွှားနေရတယ်" ဟု အမှန်အတိုင်း မိန့်တော်မူ၏။

မင်းသားလည်း "ဒီဃာဝု ဆိုတာ ငါပဲ" ဟု ကြိမ်းဝါးကာ မင်းကြီး၏ ဆံပင်ကို လက်တစ်ဘက်ဖြင့် ဆွဲကိုင်၍ သန်လျက်ဖြင့် ချိန်ရွယ်လျက် .....

"သင်သည် ကောသလနိုင်ငံကို သိမ်းပိုက်ပြီး ငါ၏ခမည်းတော် မယ်တော်တို့ကိုလည်း သတ်ဖြတ်ခဲ့ပြီ။ ယခု ငါလက်စားချေရမည့် အလှည့် ဖြစ်သည်" ဟုပြောလျှင် မင်းကြီးမှာ အလွန်ကြောက်ရွံ့သွား၏။ မင်းသား၏ ခြေရင်း၌ ဝပ်စင်းကာ အသက်ချမ်းသာပေးပါရန် တောင်းပန်ရှာ၏။ မင်းသားလည်း ရုတ်တရက် သတိရကာ.....

"အရှင်မင်းကြီးကသာ ကျွန်ုပ်၏ အသက်ကို ချမ်းသာပေးနိုင်ပါသည်" ဟု ပြောဆိုရာ .....

"ချစ်သား ဒီဃာဝု၊ ထိုသို့ဖြစ်လျှင် သင်ကလည်း ငါ့အသက်ကို ချမ်းသာပေးပါ၊ ငါကလည်း သင့်အသက်ကို ချမ်းသာပေးပါမည်" ဟု တစ်ဦးနှင့်တစ်ဦး မေတ္တာချင်းယှက် ဖက်လဲတကင်း တရင်းတနှီး လက်ဆွဲ နှုတ်ဆက်ကာ မနိုပ်စက် မပြစ်မှားရေး ကတိသစ္စာကို ကျိန်ဆိုကြလေသည်။ နေပြည်တော်ရောက်၍ နောက်တစ်ရက် ညီလာခံ၌ မင်းကြီးက–

"အချင်းတို့၊ ယခုအခါ ဒီဃိတိကောသလမင်း၏သားတော် ဒီဃာဝု မင်းသားကို တွေ့ခဲ့လျှင် အသို့ပြုလုပ်ကြမည်နည်း" ဟု မေးတော်မူရာ မှူးမတ် သေနာပတိတို့သည် လက်သီးလက်ရုံးတန်းကာ မည်သို့မည်ပုံ နှိပ်စက်သတ်ဖြတ် မည့်အကြောင်း မျက်နှာလိုအားရ အသီးသီး သံတော်ဦး တင်ကြ၏။

## မေတ္တာကြောင့် နန်းတက်ရသော ဒီဃာဝု

ထိုအခါ မင်းကြီးက ဒီဃာဝုအား လက်ညှိုးညွှန်ပြ၍ "ဒီဃာဝု မင်းသားဟူသည် သူပင် ဖြစ်ကြောင်း၊ ငါတို့အချင်းချင်း အသက်ပေးအပ် မြတ်နိုးကြပြီ ဖြစ်သည့် အကြောင်း" ညီလာခံ၌ ကြေညာလိုက်ရာ အားလုံး အံ့အားသင့်ကုန်ကြလေသည်။ ထို့နောက် မင်းကြီးက ဆက်၍ ဒီဃာဝုအား သူ့ဖခင် သေခါနီးက မှာထားခဲ့သည့် ဆုံးမ,စကား လေးခွန်းအကြောင်းကို အဓိပ္ပာယ်အကျယ်ရှင်းပြရန် မိန့်တော်မူ၏။

ညီလာခံသဘင်၌ ဒီဃာဝု မင်းသားသည် အောက်ပါအတိုင်း ရှင်းပြ သံတော်ဦး တင်လေသည်။

၁။ အသက်နှင့်ထပ်တူ မြတ်နိုးအပ်ပါသော အရှင်မင်းကြီး၊ 'အရှည် ကိုလည်း မကြည့်လင့်' ဆိုသည်မှာ ရှည်မြင့်စွာ ရန်ကိုမပြုလင့်၊ (ရန်စကို မရှည် စေလင့်) ဟု ဆိုလိုပါသည်။

၂။ 'အတိုကိုလည်း မကြည့်လင့်' ဆိုသည်မှာ အဆွေခင်ပွန်းတို့နှင့် အချိန်တိုတောင်းစွာ မိတ်မပျက်စေလင့် ၊(မိတ်စကို မတိုစေလင့်) ဟု ဆိုလိုပါသည်။

၃၊၄။ 'ရန်တုံ့မှုသဖြင့် ရန်တို့သည် မငြိမ်းနိုင်ကုန်၊ ရန်တုံ့မမူမှသာ ရန်တို့ သည် ငြိမ်းကုန်၏' ဆိုသည်မှာ အရှင်မင်းကြီးသည် အကျွန်ုပ်တို့၏ ပြည်စည်းစိမ်နှင့် တကွ ခမည်းတော်၊ မယ်တော်များအား ညှဉ်းပန်းသတ်ဖြတ်ခဲ့သူဖြစ်သည်ဟု ရန်ငြိုးသိုကာ အခွင့်ကိုချောင်း၍ ကျွန်ုပ်က လုပ်ကြံခဲ့ပါလျှင် ရနိုင်သည်ပင် ဖြစ်ပါသည်။ သို့သော် အရှင်မင်းကြီးကို လိုလားသူများက ကျွန်ုပ်ကို အခွင့်ရှာ၍ နှိပ်စက်သတ်ဖြတ်ကြမည်သာ ဖြစ်ပါသည်။ တစ်ဖန် ကျွန်ုပ်၏ အကျိုးကို လိုလားသူများကလည်း ထိုသူတို့ကို ထပ်မံနှိပ်စက် သတ်ဖြတ်ကြမည်သာ ဖြစ်ပါသည်။

"ယခုမူကား အရှင်မင်းကြီးကလည်း ကျွန်ုပ်အား အသက်ချမ်းသာပေးအပ်ခဲ့ပါပြီ။ အကျွန်ုပ်ကလည်း အရှင်မင်းကြီးအား အသက်ချမ်းသာပေးအပ်ခဲ့ပါပြီ၊ နှစ်ပြည်ထောင် ရန်စ,သည် ဤနေရာ၌ အကြွင်းမဲ့ဓာတ်သိမ်း၍ ငြိမ်းအေးကြရပါပြီ။ ထို့ကြောင့် ကျွန်ုပ်၏ ခမည်းတော် သေခါနီးကာလ (ရန်မလိုမှ ရန်ပြီသည်၊ ရန်လိုလျှင် ရန်ပိုသည်) အမျက်မသို ရန်မလိုမှ ငြိမ်းအေးချမ်းသာမည်ကို ရည်ရွယ်၍ မှာထားခဲ့ခြင်း ဖြစ်ပါသည်" ဟု သံတော်ဦး တင်လိုက်ရာ ကြားရသူအားလုံး ဝမ်းမြောက်ကြလေ၏။

ကာသိမင်းကြီးလည်း ဒီဃာဝုမင်းသားလေးအား ခမည်းတော်အရိုက်အရာ ကောသလနိုင်ငံတော်ကို အပ်နှင်း၍ မင်းပြုစေခဲ့လေသည်။ မိဘ၏ စကားကို လိုက်နာကာ ပညာရှိသူဖြစ်၍ သမီးတော်နှင့် ထိမ်းမြားပေးလေသည်။

ဤကား ဒီဃာဝု မင်းသားအကြောင်း ဖြစ်၏။ (ဝိနည်း မဟာဝဂ္ဂပါဠိတော် ကောသမ္ဗကက္ခန္ဓက၊ ပဉ္စကနိပါတ် ဒီဃိတိကောသလဇာတ်၊ နဝကနိပါတ် ကောသမ္ဗိက ဇာတ်တို့၌ လာရှိ၏။)

မြတ်စွာဘုရားရှင်သည် ငြင်းခုန်ခိုက်ရန်ဖြစ်သော ရဟန်းများအား ဤဒီဃာဝု ဇာတ်ကြောင်းကို သာဓက တင်တော်မူ၍–

"ရဟန်းတို့ လက်နက်ဆွဲကိုင်သော ထိုမင်းများသော်မှလည်း ဤသို့ ခွင့်လွှတ်သည်းခံကာ နှစ်သိမ့်ကျေအေးမှု ရရှိကြပေသေးသည်။ သင်တို့ကား ကောင်းခြင်းသုံးဖြာနှင့် ပြည့်စုံစွာ ဟောကြားအပ်သော ငါဘုရား သာသနာတော်၌ ရဟန်းအဖြစ် ဝင်ရောက်လာကြသူများ ဖြစ်ပါလျက် ခွင့်လွှတ်သည်းခံကာ နှစ်သိမ့်ကျေအေးမှု မရှိကြလျှင် ထိုသည်းမခံနိုင်ခြင်း၊ မကျေအေးနိုင်ခြင်းသည် ဤသာသနာတော်၌ တင့်တယ်ပါတော့မည်လော၊

(သာသနာ့ကျက်သရေ ညှိုးနွမ်းတော့မည်သာ ဖြစ်ချေသည်)" ဟု ငြိမ်းချမ်းစွာ နေထိုင်နည်းများကို ထပ်ချည်တလဲလဲ ဟောပြောဆုံးမတော်မူ၏။

ထိုအခါ ရဟန်းတစ်ပါးက ထ၍ ရှိခိုးပြီးလျှင်–

"တရားရှင် ဖြစ်တော်မူသော ဘုန်းတော်ကြီးသော မြတ်စွာဘုရား၊ ဆိုင်းငံ့တော်မူပါ။ (ဖလသမာပတ်ဖြင့်) ချမ်းသာကြောင်းကြမဲ့ နေတော်မူပါဘုရား၊ တပည့်တော်တို့သည် ငြင်းခုံခိုက်ရန်ပြုခြင်းဖြင့် ထင်ရှားကြပါလိမ့်မည်" ဟု (ဘုရားရှင် ပင်ပန်းတော်မူမည်ကို စိုးရိမ် မိ၍) လျှောက်ထားလိုက်၏။ မကြာမီ ကိုယ်လုပ်တာ ကိုယ်ခံစားကြရတော့မည် ဖြစ်သဖြင့် အကျိုးအပြစ် မြင်တွေ့ကြပါလိမ့်မည်ဟု ဆိုလိုပေသည်။

## နောက်ဆုံးဩဝါဒ

မြတ်စွာဘုရားရှင်လည်း အသိပေးဆုံးမ၍ ရတော့မည် မဟုတ်သည်ကို မြင်တော်မူ၍ နေရာမှ ထ,ကာ ဖဲခွာကြွသွားတော်မူ၏။ ထို့နောက် နံနက်ကာလ ကောသမ္ဗီမြို့တွင်းသို့ ဆွမ်းခံကြွ၍ ဆွမ်းကိစ္စပြီးလျှင် ဃောသိတာရုံကျောင်းတော်ရှိ မိမိအိပ်ရာ နေရာတော်များကို ကိုယ်တော်တိုင် သိုမှီးသိမ်းဆည်းကာ သပိတ်တစ်လုံး သုံးထည်သော သင်္ကန်းမျှဖြင့် တစ်ကိုယ်တည်း ကြွသွားတော်မူရန် စိစဉ်တော်မူ၏။ မည်သူ့အားမျှ အသိမပေး၊ မည်သည့်အဖော်မျှ ခေါ်တော်မမူ။

မကြွမီ ဂန္ဓကုဋိကျောင်းတော်မှဆင်း၍ သံဃာ့ပရိသတ်ရှိရာ ကြွတော်မူပြီးလျှင် မတ်တတ်ရပ်တော်မူလျက် နောက်ဆုံး ဆုံးမခြင်းအားဖြင့် ဂါထာဆယ်ပုဒ်ကို နိဂုံးချုပ် ဟောပြတော်မူလေသည်။

"ဤရဟန်းအပေါင်းသည် အော်ကြီးဟစ်ကျယ် မဖွယ်မရာ တစ်သဘောတည်းပင်ဖြစ်၍ မည်သူတစ်ဦးတစ်ယောက်ကမျှ 'ငါ့ကြောင့် သံဃာ ကွဲပြားရ၏။ ငါ မိုက်လေခြင်း'' ဟု မထင်မှတ်ကြ။

"ကိုယ်နှုတ်သရမ်း ကမ္ဘဒ္ဒာန်းလက်လွှတ်ကာ ပညာရှိ ဟန်ဆောင်လျက် တဖောင်ဖောင် ရန်စကား ပြောကြား၍သာ နေကြဘိ၏။ အပြစ်ရှိ၏ဟု မထင်ကြ၊ ရန်ငြိုးဖွဲ့နေကြသမျှ၊ ရန်တုံ့မူနေကြသမျှ အချိန်ရှိတိုင်း သေမင်း ထံပါး သွားနေရသည်ဟု မသိကြသမျှ ရန်မငြိမ်း။

"ကြမ်းကြုတ်ခက်ထန် ရန်သူအချင်းချင်း မင်းတို့ပင်လျှင် ချစ်ခင် ညီညွတ်စွာ ငြိမ်းချမ်းစေ့စပ် သင့်မြတ်ကြပေသေး၏။ ဘုရား သားတော် ဖြစ်သော သင်တို့ကား အဘယ်ကြောင့်လျှင် ချစ်ခင်ညီညွတ်စွာ ငြိမ်းချမ်းစေ့စပ် သင့်မြတ်မှုမဖြစ်ဘဲ ရှိကြရအံ့နည်း။

"သတိရှိသော သူသည် သီလ၊ သမာဓိ၊ ပညာ ရှိသော တရားကျင့်ဖော်ကို ရနိုင်လျှင် ထိုသူနှင့် အတူတကွ ရွှင်ပျဝမ်းမြောက်စွာ ကိလေသာ ဘေးရန် ကို တွန်းလှန်နိုင်အောင် နေထိုင် ကျင့်ကြံရာ၏။ ထိုတရားကျင့်ဖော်မျိုး မရနိုင်လျှင်ကား တိုင်းပြည်ကို စွန့်ခွာသော မင်း၊ အသင်းအပင်းမှ ရှောင်ခွာသော ဆင်ပြောင်ကြီးကဲ့သို့ တစ်ကိုယ်တည်း တောမှာ နေထိုင် ကျင့်ကြံရာ၏။

"ဧကဿ စရိတံ သေယျော
နတ္ထိ ဗာလေ သဟာယတာ =

အဖော်မမှီး တစ်ကိုယ်တည်း နေထိုင် ကျင့်ကြံရခြင်းက မြတ်သေး၏။သူမိုက်၌ အဖော်ပြုသင့်သော သီလ၊ သမာဓိ၊ ပညာ (သဟာယ်ချင်း အရည်အချင်းများ) မရှိချေ။ (လူမိုက်နှင့် အတူနေ၍ အကျိုးမရှိ)။"

## ငြိမ်းချမ်းရေး စရိုးသည်ကြီး

မတ်တတ်ရပ်လျက် နောက်ဆုံးစကား ဟောကြားပြီးသည်နှင့် တပြိုင်နက် ကျောင်းတော်မှ ထွက်ခွာ၍ ဗာလကလောဏက (ဆားချက်)ရွာသို့ တစ်ပါးတည်း ကြွတော်မူလေတော့၏။

ဆားချက်ရွာကား ဗုဒ္ဓဘာသာဝင်တွင် ထင်ရှားသော ဥပါသကာ တစ်ဦးဖြစ်သူ ဥပါလိ သူကြွယ် အပိုင်စားရသောရွာဖြစ်သည်။ ထိုရွာသို့ ကြွတော်မူခြင်း၏ အကြောင်းရင်းကား တစ်ဦးတည်းနေရသော ချမ်းသာ (ဧကစာရသုခ)ကို သားစဉ် မြေးဆက် သင်ခန်းစာပေးရန် ရည်ရွယ်တော်မူလေသည်။

မှန်ပေ၏။ ထိုဆားချက်ရွာကို အမှီပြု၍ အရှင်ဘဂုမထေရ်သည် ထိုရွာအနီး တောတွင်းတစ်နေရာ၌ ဧကစာတောရ ဆောက်တည်နေခဲ့၏။ မြတ်စွာဘုရားရှင်သည် အရှင်ဘဂုထံ ကြွရောက်၍ နေမှု၊ စားမှု စသော သပ္ပာယ မျှ၊ မမျှ မေးတော်မူ၍ တစ်ဦးတည်း နေထိုင်ခြင်း၏ ကျေးဇူးဂုဏ်များကို အကျယ်တဝင့် ချီးမြှင့်ဟောကြား အားပေးတော်မူလေသည်။ (ဧကစာ နေရခြင်း၏ ချမ်းသာကို ခဂ္ဂဝိသာဏသုတ် စသည်၌ အကျယ်ဟောထားပြီးရှိ၍ ဤ၌ မပြတော့ပြီ။)

မြတ်စွာဘုရားရှင်သည် ဆားချက်ရွာ တောရကျောင်း၌ တစ်ညနေနှင့် တစ်ညပတ်လုံး သီတင်းသုံးလျက် အရှင်ဘဂုအား တရားချီးမြှင့်တော်မူ၏။ နောက်တစ်နေ့နံနက် အရှင်ဘဂုအား နောက်ပါခေါ်၍ ဆားချက်ရွာ၌ ဆွမ်းခံ ဝင်တော်မူသည်။ ဆွမ်းခံ ဆွမ်းစားပြီးလျှင် ပါစီနဝံသခေါ် အရှေ့ဝါးတောအရပ်သို့ တစ်ပါးတည်း ကြွတော်မူ၏။

ထိုဝါးတော၌ အရှင်အနုရုဒ္ဓါ၊ အရှင်နန္ဒိယနှင့် အရှင်ကိမိလ ရဟန္တာ မထေရ်မြတ်ကြီးသုံးပါး သီတင်းသုံးတော်မူနေကြ၏။

မြတ်စွာဘုရားရှင် ထိုမထေရ်မြတ်သုံးပါးထံသို့ ကြွရောက်တော်မူခြင်းအားဖြင့် ဘုရားရှင်၏ မူရင်းဆန္ဒတော်ကို ဖော်ထုတ်ရာကျသဖြင့် ဗုဒ္ဓဘာသာဝင်တို့အတွက် ထာဝစဉ် အလေးအမြတ်ပြုရမည့် မှတ်တမ်းသာဓကတစ်ရပ် ဖြစ်နေပေတော့သည်။ အဘယ်ကြောင့်ဆိုသော် သတ္တဝါအားလုံးအား ကိုယ်တော်နှင့်ထပ်တူငြိမ်းအေးချမ်းမြေ့စေတော်မူလိုသော ဘုရားရှင်၏ ငြိမ်းချမ်းရေး ခရီးသည် မှတ်တမ်းကြီး ဖြစ်နေသောကြောင့်ပင်တည်း။

မြတ်စွာဘုရား ဝါးတောနယ်နိမိတ်သို့ ဝင်လာလျှင်ပင် တောစောင့်တာဝန်ကျသော ဒကာတစ်ဦးမှာ စိတ်ထင့်သွား၏။ မြတ်စွာဘုရားရှင်မှာ (တန်ခိုးတော်ဖြင့် ကိုယ်ရောင်ကိုယ်ဝါများကို ဖုံးလွှမ်းသိုဝှက်၍) မထင်မရှား ရဟန်းတစ်ပါးအသွင်ဖြင့် ကြွတော်မူလေရာ သာမန်ရဟန်းတစ်ပါးဟုသာ တောစောင့်စိတ်၌ ထင်၏။ တောအုပ်အတွင်း ညီညွတ်ချမ်းမြေ့စွာနေကြသော ရဟန်းတော်သုံးပါးထံ သွားမည်ဟုလည်း အကဲခတ်ရသဖြင့် အာဂန္တုရဟန်းတစ်ပါး ကြွလာ၍ ရဟန်းတော်သုံးပါးအား တစ်နည်းမဟုတ်တစ်နည်း အနှောင့်အယှက်ဖြစ်မည်ကို စိုးရိမ်နေမိ၏။

မှန်လှပေ၏။ လူအချို့သည် နွားသိုးရိုင်းကြီးပမာ ရောက်လေရာ ရန်လိုဇော့ရမ်းတတ်သဖြင့် ချမ်းမြေ့မှု ပျက်ပြားကာ ရန်ပွားတတ်လေသည်။ လူတို့မည်သည် အကြိုက်ကိုယ်စီ ရှိတတ်ကြရာ ခရီးတစ်ကြောင်းတည်းပင် နှစ်ယောက်ပေါင်း၍ မသွားနိုင်အောင် သဘောကွဲလွဲကာ ရန်ပွဲရန်စ ဖြစ်တတ်ကြ၏။ လိုက်လျောညီထွေ ဆက်ဆံတတ်စေဦး၊ နေမှု၊ စားမှု စသည် တာဝန် ပိုတက်လာမည်ဖြစ်သဖြင့် ရဟန်းတော်သုံးပါး၏ ညီညွတ်ချမ်းမြေ့မှုကို ထိခိုက်စေနိုင်သဖြင့် တောစောင့်က–

"ရဟန်းကြီး၊ ဤတောထဲသို့ မဝင်ပါနှင့်၊ ဤတောထဲ၌ သူတော်ကောင်းအမျိုးသားသုံးဦးတို့သည် မိမိအကျိုးစီးပွား (တရားချမ်းသာ) ဖြင့် နေကြပါသည်။ သူတို့၏ မချမ်းသာမှုကို မပြုပါနှင့်"ဟု အနီးသို့ရောက်လာသော ဘုရားရှင်အား ဆီး၍ ဟန့်တားလိုက်၏။

## သုံးကိုယ်တစ်စိတ်

အရှင်အနုရုဒ္ဓါစသော ရဟန်းတော်သုံးပါးလည်း ဆွမ်းစားအပြီး အသီးသီး နေရာယူကာ ရဟန်းချမ်းသာ ဖလသမာပတ်ဖြင့် နေ့သန့်တော်မူနေကြရာ (တရားနှလုံးသွင်းနေကြရာ) အကြီးအမှူးဖြစ်သူ အရှင်အနုရုဒ္ဓါသည် တောစောင့်၏ ရဟန်း တစ်ပါးပါးနှင့် ပြောသံလိုလို ကြားရ၍ နေရာမှထကာ 'ဘယ်သူများပါလိမ့်'ဟု

လမ်းဘက်သို့ လှမ်းမျှော်ကြည့်လိုက်မိလျှင် ဘုရားရှင် ကြွလာတော်မူကြောင်း မြင်တွေ့ရလေ၏။

မြတ်စွာဘုရားရှင်လည်း ထိုဓဏပင် အရှင်အနုရုဒ္ဓါထံ ကိုယ်တော်ရောင် လွှတ်ပို့တော်မူလိုက်သည်။ တောစောင့်၏ မချေမင် ပြောဆိုဟန်ကြောင့် ရတ်တရက် အံ့အားသင့်ကာ–

"ဒါယကာ တောစောင့်၊ မြတ်စွာဘုရားကို မတားမြစ်လင့်၊ ငါတို့၏ ဆရာ မြတ်စွာဘုရားရှင် ကိုယ်တော်မြတ်ကြီး ကြွလာတော်မူပြီ" ဟု ဟန့်တား လိုက်ရသည်။

အရှင်အနုရုဒ္ဓါသည် တစ်လောကလုံး၏ ထိပ်ခေါင်တင် ဘုရားရှင် ကိုယ်တော် မြတ်ကြီး ကြွလာတော်မူသည်ကို တွေ့ရလျှင်ပင် ဝမ်းသာအားရ ခရီးဦး ကြိုဆိုချင်လှ သော်လည်း (ညီညွတ်မှု စံပြပုဂ္ဂိုလ်များ ဖြစ်သည့်အတိုင်း အခွင့်အရေး ယူရာ ကျမည်စိုး၍) မကြိုဆိုအားသေးဘဲ သီတင်းသုံးဖော်များရှိရာ ခပ်သုတ်သုတ် ကြွသွား၍–

"ငါ့ရှင်တို့ လာကြပါ၊ ဘုရားရှင် ဒီကို ကြွလာနေပြီ"ဟု အကြောင်း ကြား၏။ ပြီးမှ သုံးပါးအတူ ဘုရားရှင်အား ကြိုဆိုကြသည်။ တစ်ပါးက သပိတ်သင်္ကန်း လှမ်းယူ၏။ တစ်ပါးက နေရာတော်ခင်း၍ တစ်ပါးက ခြေဆေးရေ တည်ခင်းဝတ်ပြုကြသည်။

**ဘုရားရှင်–** ချစ်သားအနုရုဒ္ဓါတို့၊ အသို့နည်း၊ သင်တို့သည် ခံ့ကျန်းကြ၏လော၊ ဣရိယာပထ မျှတကြ၏လော၊ ဆွမ်းပစ္စည်းဖြင့် မပင်မပန်း ရှိကြရ၏လော။

**အနုရုဒ္ဓါ–** မှန်လှပါမြတ်စွာဘုရား၊ တပည့်တော်တို့ သုံးပါးလုံး ခံ့ကျန်း ကြပါ၏။ ဣရိယပထ မျှတကြပါ၏။ ဆွမ်းပစ္စည်းဖြင့် မပင်ပန်း ကြပါ။ (အားလုံးကိုယ်စား လျှောက်ထားသည်။)

**ဘုရားရှင်–** ချစ်သားအနုရုဒ္ဓါတို့၊ သင်တို့သည် ညီညီညွတ်ညွတ် ဝမ်းပမ်းတသာ ငြင်းခုန်ခြင်း မရှိ၊ နို့နှင့်ရေ ရောဘိသို့ တစ်ဦးနှင့်တစ်ဦး ချစ်ကြည် သော မျက်စိတို့ဖြင့် ကောင်းစွာကြည့်ရှု၍ နေနိုင်ကြ၏လော။

**အနုရုဒ္ဓါ–** မှန်လှပါ မြတ်စွာဘုရား၊ (ထိုသို့) နေနိုင်ကြပါသည်ဘုရား။

**ဘုရားရှင်–** ချစ်သားအနုရုဒ္ဓါတို့၊ အဘယ်ကဲ့သို့ နေကြပါသနည်း။

**အနုရုဒ္ဓါ–** မှန်လှပါ မြတ်စွာဘုရား"ဤတော၌ ဤသို့သဘောရှိသော သီတင်း သုံးဖော်တို့နှင့် အတူတကွ နေရခြင်းသည် ငါ့မှာ အရတော်ပေစွ၊ ကောင်းသောရခြင်း ဖြစ်ပေစွ" ဟု အကြံဖြစ်ပါသည်။

ဤသီတင်းသုံးဖော်နှစ်ပါးတို့အပေါ်၌ မေတ္တာနှင့်ယှဉ်သော ကာယကံ၊ မေတ္တာနှင့်ယှဉ်သော ဝစီကံ၊ မေတ္တာနှင့်ယှဉ်သော မနောကံကို မျက်မှောက်ရော မျက်ကွယ်ပါ ထားရှိကျင့်သုံးပါသည်ဘုရား။

## ရှေ့တွင်ရော ကွယ်ရာပါ မေတ္တာထားနည်း

ဤ၌ မေတ္တာကံသုံးမျိုးကို မျက်မှောက်မျက်ကွယ် ထားရှိပုံ အမြွက်မျှ ကြားဖြတ်၍ ပြဆိုဦးအံ့.-

(၁) အတူတကွ နေထိုင်ကြသောအခါ ပစ္စည်းအသုံးအဆောင်စသည် မသင့်မတော် ပစ်ထားလျှင်၊ ဖြစ်နေလျှင် ပြုလုပ်သူကို အပြစ်မဖို့ဘဲ မိမိပြုလုပ်ထားသကဲ့သို့ သိုမှီး သိမ်းဆည်းခြင်း၊ ရှင်လင်းသုတ်သင်သင့်သည်ကို ရှင်းလင်းသုတ်သင်ခြင်းသည် **မျက်မှောက်မေတ္တာကာယကံ** မည်၏။

အတူနေရာမှ တစ်စုံတစ်ဦးက ခွဲခွာသွားစဉ် မသင့်မတော် ကျန်ရှိရစ်သည်များကို မရှုတ်ချဘဲ မိမိအမှုကဲ့သို့ သိုမှီးရှင်းလင်းခြင်းသည် **မျက်ကွယ် မေတ္တာကာယကံ** မည်၏။

(၂) အတူနေထိုင်စဉ် တစ်ဦးအပေါ်တစ်ဦး သာယာချေင်စွာ ပြောဆိုဆုံးမ ညွှန်ပြဆွေးနွေးခြင်းသည် **မျက်မှောက်မေတ္တာ ဝစီကံ**၊ ခွဲခွာနေကြရသော "ငါ၏ မိတ်ဆွေသည် ဤသို့ သီလ၊ သမာဓိ၊ ပညာဂုဏ်နှင့် ပြည့်စုံသူဖြစ်သည်" စသည်ဖြင့် မျက်ကွယ်ရှိမိတ်ဆွေ၏ ကျေးဇူးဂုဏ်ကို ပြောဆိုခြင်း၊ တစ်စုံတစ်ဦးက အပြစ်တင် အထင်လွဲမှားနေလျှင်လည်း အမှန်အတိုင်း ကာကွယ်ပြောဆိုခြင်းသည် **မျက်ကွယ်မေတ္တာ ဝစီကံ**၊ (မျက်ကွယ်ရှိ လူတစ်ဦး၏ ကျေးဇူးမဲ့ 'အတင်း' ပြောခြင်းသည် ပိသုဏာဝါစာ ဖြစ်တတ်သည်။)

(၃) 'ငါ၏ မိတ်ဆွေ ချမ်းသာပါစေ' စသည်ဖြင့် အကျိုးလိုလားသော စိတ်ထားခြင်း **မေတ္တာမနောကံကား** မျက်မှောက်မျက်ကွယ် မထူးခြား တစ်သဘောတည်းပင် ဖြစ်၏။

အရှင်အနုရုဒ္ဓါသည် ယင်းမေတ္တာသုံးမျိုးဖြင့် အလိုလိုက်အကြိုက်ဆောင်ကာ နေထိုင်ကြပုံကို အောက်ပါအတိုင်း ဆက်လက်လျှောက်ထားပြန်၏။

"ဘုန်းတော်ကြီးသော မြတ်စွာဘုရား၊ 'ငါသည် မိမိ၏ စိတ်အလို (ကိုယ်ကြိုက်)ကို ဖယ်ထား၍ ဤအရှင်မြတ်နှစ်ပါး၏ စိတ်အလိုအတိုင်း နေထိုင်ကျင့်သုံးရမူ ကောင်းလေစွ' ဟု စိတ်အကြံဖြစ်သည့်အတိုင်း မိမိစိတ်အလိုကို ဖယ်ထားကာ ဤအရှင်မြတ်နှစ်ပါး၏ စိတ်အလိုအတိုင်း နေထိုင်ကျင့်သုံးပါသည်။

"နာနာ ဟိ ခေါ နော ဘန္တေ ကာယာ၊ ဧကဉ္စ ပန မညေ စိတ္တံ =

"မြတ်စွာဘုရား၊ တပည့်တော်တို့ သုံးဦးမှာ ကိုယ်ကသာ သုံးကိုယ် ကွဲပြားလျက် စိတ်သည်ကား မကွဲမပြား၊ နို့နှင့်ရေ ရောသကဲ့သို့ တစ်သား တည်း တစ်ခုတည်းကဲ့သို့ ဖြစ်ပါသည်ဘုရား" (ကျန်နှစ်ပါးတို့ကလည်း အလားတူ လျှောက်ထားကြ၏။)

ဘုရားရှင်–ချစ်သား အနုရုဒ္ဓါတို့၊ ကောင်းပေစွ သာဓု..... သာဓု.....သာဓု။

### ဆရာဒကာ သတိပြုဖွယ်

မြတ်စွာဘုရားရှင်သည် "ကျန်းမာပါသည်၊ မျှတ,ပါသည်၊ ဆွမ်းကွမ်း လုံလောက် ပါသည်' ဟု ဝန်ခံလျှောက်ထားသောအခါ ဆိတ်ဆိတ်သာ နေတော်မူ၏။ ကောင်းချီးသာဓု ပေးတော်မမူ၊ မိမိကိုယ်ကြိုက်ကို ဖယ်၍ တစ်ပါးသူအကြိုက်အတိုင်း လိုက်နာကျင့်သုံးကာ နို့နှင့်ရေ ရောသကဲ့သို့ တစ်သဘောတည်း ညီညွတ်သင့်မြတ်ကြ ပါသည်ဟု လျှောက်ထားသောအခါမှသာလျှင် သာဓု ခေါ်တော်မူလေသည်။

မှန်လှပေ၏။ စားသောက်နေထိုင်ရေး ကျန်းမာရေးကိစ္စမျိုးကား အသိဉာဏ် ရှိသူများကို မဆိုထားဘိ၊ အဟိတ်တိရစ္ဆာန်တို့ပင်လျှင် ကျန်းမာမျှတ၍ တစ်ဝမ်း တစ်ခါး ဝရုံကိုမူ အလွယ်တကူ ပြုလုပ်နိုင်ကြပေသေး၏။

သို့ရာတွင် သတ္တဝါတို့မည်သည် တစ်ယောက်တည်းကိုပင် (ကိုယ့်စိတ်နှင့် ကိုယ်) တည့်အောင် မနေနိုင်ကြ။ ဆန္ဒလည်း အမျိုးမျိုးရှိနေကြသဖြင့် လူများလေ ကွဲပြားလေဖြစ်ကာ လူ့လောက၊ နတ်လောက၊ တိရစ္ဆာန်လောက တစ်လောကလုံး၌ပင် ခိုက်ရန်ငြင်းခုံရင်း တစ်သက်တာ ကုန်နေကြရရှာ၏။

ဤလောကကြီးအတွင်း၌ မေတ္တာသက်ဝင် ချစ်ခင်ညီညွတ်စွာ နေထိုင် ကြရသူ၊ ညီညွတ်သူ၊ ညီညွတ်သောဒေသကား တစ်ရံတစ်ခါမျှသာရှိ၍ အလွန်တရာ ရခဲဖြစ်ခဲ လှပေ၏။ ညီညွတ်သမျှ ချမ်းသာမှု မရနိုင်ချေ။ ထို့ကြောင့် မြတ်စွာဘုရား သာဓု ခေါ်တော်မူလေသည်။

ညီညွတ်မှုနှင့်စပ်၍ 'သံဃ=အဖွဲ့အစည်း' ဆိုသည့်အတိုင်း အစဉ်သဖြင့် ညီညွတ်နေရမည့် သံဃာတော်တို့၏ မညီမညွတ်ကွဲပြားမှုသည် အထူးသဖြင့် မဖြစ်ပေါ် စေအပ်။ အကျည်းတန်ဆုံးဖြစ်၏။ တစ်လောကလုံးအတွက် နစ်နာစေ၏။

အဘယ်ကြောင့်ဆိုသော် သံဃာတော်ဟူသည် 'အနုတ္တရံ ပုညက္ခေတ္တံ လောကဿ' ဂုဏ်တော်သခင် တစ်လောကလုံး၏ ငြိမ်းချမ်းမှု စံပြရှေ့ဆောင်ပုဂ္ဂိုလ် များ ဖြစ်သောကြောင့်ပေတည်း။

ကောသမ္ဗီပြည်၌ ရဟန်းတော်များ ဘာမဟုတ်သည့် ကိစ္စလေးအတွက် ကွဲပြားကြသောအခါ လူဒကာများပါ နှစ်ပက္ခဖြစ်သွားကြ၏။ ထိုမျှမက ကျောင်းစောင့်

နတ်၊ မြို့စောင့်နတ်၊ စတုမဟာရာဇ်နတ်များမှအစ နတ်ပြည်ခြောက်ထပ်၊ ဗြဟ္မာ နှစ်ဆယ်တိုင်အောင် (အရိယာများမှအပ) တစ်လောကလုံးကြီး နှစ်ပကွ ကွဲပြားလေတော့သည်။ ထို့ကြောင့်လည်း အမြဲတမ်း ညီညွတ်ရမည့် သံဃာတော်များကို ကွဲပြားအောင် လုပ်ခြင်း (သံဃဘေဒကကံ)သည် ဘုရားရှင်အား သွေးစိမ်းတည်အောင် လုပ်ကြံသော ကံကြီးနှင့် တစ်တန်းတည်း ထားလောက်အောင် အပြစ်ကြီးမားလေးလံလှ၏။

ဘုန်းကြီးရဟန်းများနှင့် ဆက်ဆံရသူတိုင်း သတိပြုဖွယ်။

## တစ်ချိန်တည်းမှာ အလုပ်နှစ်မျိုးပြီးအောင်

မြတ်စွာဘုရားရှင်သည် သာမဂ္ဂီရသ (ညီညွတ်မှုအရသာ) ရှိသည်ကို သိတော်မူလျှင်ပင် သာဓုခေါ်တော်မူ၍ ပဓာနအလုပ် (လိုရင်းအလုပ်–ကမ္မဋ္ဌာန်းအလုပ်) နှင့်စပ်၍ ဆက်လက်မေးမြန်းတော်မူ၏။

အနောက်ဘက်၌ နေကွယ်စပြုကာ အရှေ့လောကဓာတ်မှ လဝန်းလည်း ထွက်ပြူစ ပြုနေ၏။

**ဘုရားရှင်–** အနုရုဒ္ဓါတို့၊ အသို့နည်း၊ သင်တို့သည် မမေ့မလျော့ဘဲ ပြင်းထန်သော လုံ့လ ဝီရိယရှိကြလျက် နိဗ္ဗာန်သို့ စေလွှတ်အပ်သောစိတ် ရှိသည်ဖြစ်၍ နေကုန်ကြ၏လော။

**အနုရုဒ္ဓါ–** မှန်လှပါ၏၊ နေကြပါသည် မြတ်စွာဘုရား။

**ဘုရားရှင်–** အဘယ်သို့ နေကြသနည်း။

**အနုရုဒ္ဓါ–** မှန်လှပါ မြတ်စွာဘုရား၊ တောအုပ်၌ နေကြသော တပည့်တော်များ သုံးပါးရှိရာတွင် ဦးစွာ ဆွမ်းခံပြန်လာသော ရဟန်းသည် ခြေဆေးရေ၊ ခြေဆေးအင်းပျဉ်၊ ခြေပွတ်အိုးခြမ်းကို ချထားနှင့်ပါသည်။ (ဆွမ်းများနေလျှင် မစားမီ ခွဲ၍ထည့်ရန်) ဆွမ်းဦးထည့်သောခွက်ကို ချထားနှင့်ပါသည်။ သောက်ရေ၊ သုံးရေ ခပ်ထည့်ထားနှင့်ပါသည် အရှင်ဘုရား။

(သုံးပါးအတူနေသော်လည်း တစ်နေရာစီခွဲ၍ ကိုယ့်တရားကိုယ် နှလုံးသွင်းနေကြ၏။ ဖလသမာပတ် ဝင်စား၍ ကိုယ်ပိုင်အချိန် သတ်မှတ်ကာ တရားရှုမှတ်မှုလည်း မပျက်၊ ဆောင်ရွက်ရမည့် ဝတ္တရားလည်း မချွတ်ယွင်းစေရဘဲ အလိုက်သိ နေထိုင်ကြသည်။ သာမာန်ယောဂီတို့၌ ကမ္မဋ္ဌာန်းသတိ အမှတ် လွတ်တတ်သော ဝေယျာဝစ္စကိစ္စများ လုပ်ရရာ၌ပင် အမှတ်မလွတ်ဘဲ တရားနှလုံး သွင်းနိုင်ကြောင်း လျှောက်ထားခြင်းဖြစ်သည်။ စား၊ ဝတ်၊ နေ အလုပ်က သတ်သတ်၊

ကမ္မဋ္ဌာန်းအလုပ်က တစ်ချိန်သတ်သတ် ခွဲခြားလုပ် ဆောင်ရန် မလို၊ အချိန်တစ်ခုတည်း အလုပ်နှစ်မျိုး ပြီးစီးအောင် လုပ်နိုင်ပုံ၊ လုပ်ရပုံကိုလည်း သင်ခန်းစာ ယူသင့်ကုန်၏။)

"မြတ်စွာဘုရား..... နောက်ဆုံး ဆွမ်းခံပြန်လာသော ရဟန်းသည် (ပထမ, ဒုတိယ နှစ်ပါးတို့) စားပြီး ဆွမ်းကြွင်း ဆွမ်းပိုများကို စားလိုလျှင် စားပါသည်။ မစားလိုလျှင် စိမ်းသော မြက် သစ်ပင် မရှိရာ အရပ်၌ စွန့်ပစ်ရပါသည်။ ပိုးမရှိသော ရေ၌သော်လည်း စွန့်ပစ်ရပါသည်။ ထို နောက်ကျသူကသာလျှင် နေရာကို ခေါက်သိမ်းရပါသည်။ ခြေဆေးရေ၊ အင်းပျဉ်၊ ခြေပွတ်အိုးခြမ်းတို့ကို သိမ်းဆည်း၍ ဆွမ်းထည့်ခွက်ကိုလည်း ဆေးကြောသိမ်းဆည်းရပါသည်။သောက်ရေ၊ သုံးရေကျုန်ကိုလည်း သွန်မှောက် သိမ်းဆည်း၍ ဇရပ်ကိုလည်း တံမြက်လှည်းရပါသည် အရှင်ဘုရား။"

"မြတ်စွာဘုရား.....သောက်ရေ၊ သုံးရေအိုးကို ဖြစ်စေ၊ ဝစ္စကုဋီ၌ သန့်သက် ရေအိုးကိုဖြစ်စေ ရေကုန်နေသည်ကို တွေ့မြင်လျှင် ထိုမြင်သော သူကပင် ရေကို ခပ်ထည့်ထားပါသည်။ အကယ်၍ မနိုင်ဝန်ဖြစ်လျှင် လက်ယပ်၍ အဖော်ခေါ်ပြီးမှ ရေအိုးကို လက်ချင်းယှက် သယ်ဆောင် တည်ထားကြပါသည်။ (အသံထုတ်ခေါ်လျှင် အခြားသီတင်းသုံးဖော်အား သမာဓိ ပျက်မည်စိုးရခြင်း ဝတ္တရား သိထားသူများဖြစ်၍ နှစ်ပါးပြိုင်၍ ထ, လာလျှင် အလုပ်ပျက်မည် စိုးရခြင်းကြောင့် အဖော်ရှိရာသို့ ခြေသံ မကြား အောင်သွားပြီး ထိုအဖော် မြင်လောက်သောအခါမှ လက်ယပ်ခေါ်ခြင်းဖြစ်၏။) မြတ်စွာဘုရား–ထိုရေ ထည့်ထားရခြင်းကြောင့်လည်း စကား မဆိုမပြော ကြပါအရှင်ဘုရား။

"မြတ်စွာဘုရား ဘုရားတပည့်တော်တို့သည် (ပြုလုပ်နေကျ လဆန်း, လဆုတ် ရှစ်ရက်၊ လပြည့်၊ လကွယ်၊ အဖိတ်နေ့၊ လပြည့်နေ့၊ လကွယ်နေ့ များမှတစ်ပါး) ငါးရက်လျှင် တစ်ကြိမ်ကျ တစ်ညလုံး တရားစကားပြောကြား ဆွေးနွေးကြပါသည်။

"ဤလျှောက်ဆိုခဲ့သည့်အတိုင်း မမေ့မလျော့ ပြင်းထန်သော လုံ့လ ဝီရိယရှိကြလျက် နိဗ္ဗာန်သို့ စေလွှတ်အပ်သော စိတ် ရှိကြကုန်သည်ဖြစ်၍ နေထိုင်ကျင့်သုံးကြပါသည် အရှင်ဘုရား။"

ဘုရားရှင်–ချစ်သား အနုရုဒ္ဓါတို့၊ ကောင်းလေစွာ သာဓု၊ သာဓု။

မြတ်စွာဘုရားရှင်သည် ကောင်းချီးသာဓု ပေးတော်မူ၍ ညီညွတ်မှု အခြေပြု မေတ္တာဝါဒ ဘဝငြိမ်းချမ်းရေး တရားတော်ကို တစ်ညလုံး ဟောတော်မူလေသည်။ (မူလပဏ္ဏာသ စူဠဂေါသိင်္ဂသုတ်၊ ဥဒါန်း နာဂသုတ်အဖွင့်တို့၌လည်း ဆက်လက်

ကြည်ရှုသင့်၏။ ထိုအရှင်မြတ်သုံးပါးတို့ လျှို့ဝှက်အပ်သော တရားကို အရှင်အနုရုဒ္ဓါက ဘုရားရှင်အား လျှောက်ထားမိ၍ မကျေမနပ် ဖြစ်ကြပုံကို **သိဟိုဠ်ခေတ် စံတော်ဝင် အရိယာများ** အခန်း ၈–၌ တွေ့ရလတ္တံ့။)

## ပလလည်းတောမှာ ဧကစာ ဝါကပ်ခြင်း

ဘုရားရှင်သည် တရားဟောအပြီး နေ့အရုဏ်တက်ပြီးနောက် ပါစီနဝံသ တောရကျောင်းမှ ထွက်ခွာတော်မူ၏။ အရှင်အနုရုဒ္ဓါ၊ အရှင်နန္ဒိယ၊ အရှင်ကိမိလတို့လည်း သပိတ်သင်္ကန်းကို ယူဆောင်ကာ နောက်တော်မှ လိုက်ပါပို့ဆောင်ကြရာ တောနယ်နိမိတ်အဆုံးသို့ရောက်လျှင် “အနုရုဒ္ဓါတို့၊ နေခဲ့ကြလော့” ဟု မိန့်တော်မူသဖြင့် သပိတ်သင်္ကန်း ဆက်ကပ်ကာ ကျန်ရစ်ခဲ့ကြလေ၏။ ဘုရားရှင်ကား ပါလိလေယျ ရွာဘက်သို့ တစ်ပါးတည်း ခရီးဆက်တော်မူလေသည်။

ပါလိလေယျက ရွာသားတို့လည်း ဘုရားရှင်အား ခရီးဦးကြိုဆိုပြီးနောက် ရွာနှင့် မလှမ်းမကမ်းရှိ ရက္ခိတခေါ် တောအုပ်အတွင်း ဘဒ္ဒသာလ မည်သော အင်ကြင်းပင်ကြီး အနီး၌ ကျောင်းဆောက်လှူကြ၏။ အင်ကြင်းပင်ကြီးမှာ ပင်လုံးကျွတ် ဖူးပွင့်နေ၏။ ပွင့်ချပ်၊ ဝတ်မှုန်၊ ဝတ်လွှာများ ပင်ခြေသဲပြင် မြေပြန့်၌ ပြန့်ကြနေကြသည်မှာ ကမ္ဗလာခင်းထားသကဲ့သို့ ရှိတော့သည်။

မြတ်စွာဘုရားသည် ဆိုးသွမ်းသောရဟန်းများမှ ကင်းကွာ၍ ဧကစာ တစ်ပါးတည်း သီတင်းသုံးတော်မူရသဖြင့် ကြည်သာရွှင်လန်းချမ်းမြေ့လျက်ရှိ၏။ ထိုအခိုက် အသင်းအုပ်ခေါင်းဆောင် ဆင်ကြီးတစ်ကောင်လည်း ဘုရားရှင်ထံ ရောက်လာ၏။ ထိုဆင်ကြီးမှာလည်း အလိုက်မသိသော အပေါင်းအသင်းများ၌ ငြီးငွေ့ကာ တစ်ကောင်တည်း ဖဲခွာလာသော ဆင်ကြီး ဖြစ်လေသည်။ ပလလည်းဆင်မင်းဟု ခေါ်တွင်၏။

ဘုရားရှင် ဆယ်ဝါမြောက်ဝါကား (ကျွတ်ထိုက်သော သတ္တဝါဝေနေယျလည်း မရှိသဖြင့်) ထိုရက္ခိတတော၌ ထိုပလလည်းဆင်မင်းကြီး၏ဝေယျာဝစ္စကို ခံယူ၍ တစ်ပါးတည်း ဝါကပ်တော်မူလေသည်။

## သူတော်ကောင်းများ အလယ် မျက်နှာငယ်ရသော ရဟန်းဆိုးများ

ကောသမ္ဗီရဟန်းများလည်း ကောသမ္ဗီမြို့သူမြို့သားများ၏ အငြိုအငြင် ခံနေကြရသဖြင့် တစ်ဝါတွင်းလုံး ဆွမ်းကွမ်းအခက်အခဲနှင့် ရင်ဆိုင်နေကြရ၏။ ဘုရားရှင်အား ထွက်ခွာသွားအောင်လုပ်သူများအဖြစ် အမြင်ခံရကာ ဆွမ်းကွမ်း

မှုကို မဆိုထားဘိ၊ လေးစားရိုသေသော အမူအရာမှုကိုပင် မခံယူကြရကုန်။ (ရဟန်းဆိုးများအား ဒါယကာများအနေဖြင့် သာသနာပြုပုံဖြစ်၏။)

"ဒါယကာတို့၊ ငါတို့ ညီညွတ်ကြပါပြီ၊ ငါတို့အပေါ် ရှေးကကဲ့သို့ ဆက်ဆံကြပါ" ဟု ဝန်ခံပြောဆိုကြသော်လည်း ဘုရားရှင်အား သွားရောက်ကန်တော့ရန်သာ ပြောဆိုကြ၏။ ဝါတွင်းကာလဖြစ်နေ၍ မသွားဝံ့ကြကုန်။ တစ်ဝါတွင်းလုံး ဆင်းရဲငြိုငြင်စွာ နေကြရ၏။

သီတင်းဝါလ ကျွတ်သောအခါ အနယ်နယ်အရပ်ရပ်မှ ရဟန်းရှင်လူများက ဘုရားရှင်အား သွားရောက်ပင့်လျှောက်ရန် ရှင်အာနန္ဒာအား တောင်းဆိုကြသဖြင့် ဘုရားရှင် သာဝတ္ထိသို့ ကြွတော်မူလာ၏။ ကောသမ္ဗီရဟန်းများလည်း ဘုရားရှင်အား ကန်တော့ရန် ကောသမ္ဗီမှ သာဝတ္ထိသို့ သွားကြသည်။ အရှင် သာရိပုတ္တရာစသော မထေရ်ကြီးများနှင့် ဂေါတမီထေရီတို့က 'ကောသမ္ဗီ ရဟန်းများ သာဝတ္ထိသို့ လာနေကြပြီ' ဟု ကြားသိရကြောင်းနှင့် ထိုရဟန်းများအား မည်ကဲ့သို့ ဆက်ဆံပြုကျင့်ရမည့်အကြောင်းကို လျှောက်ထားကြရာ တရားလမ်းအတိုင်း ရပ်တည်လိုက်ပါကြရန် မိန့်တော်မူလေသည်။ ဓမ္မဝတ္ထု တစ်ဆယ့်ရှစ်ပါး တို့ကိုလည်း ဟောညွှန်ပြတော်မူ၏။

ကျောင်းဒကာ၊ ကျောင်းအမဖြစ်သူ အနာထပိဏ် ၊ ဝိသာခါတို့ကလည်း လျှောက်ထားကြပြန်သည်။ ထိုအခါ ဘုရားရှင်က.....

"သူဌေးကြီး (ဝိသာခါ)၊ ထိုသို့ဖြစ်လျှင် သင်သည် နှစ်ဘက်သောသံဃာ၌ အလှူကို လှူလော့၊ နှစ်ဘက်သော သံဃာ၌ တရားကို နာယူလော့၊ ဓမ္မဝါဒီရဟန်းတို့၏ အယူဝါဒကိုသာ လက်ခံလော့" ဟု မိန့်တော်မူ၏။ (မဟာဝဂ္ဂအဆို)။

ထိုမှတစ်ပါး ကောသလမင်းကြီးကမူ ကောသမ္ဗီရဟန်းများကို မိမိ နိုင်ငံအတွင်း ဝင်ခွင့်မပြုလိုပါကြောင်း လျှောက်ထားပြန်ရာ .....

"မင်းကြီး၊ သူတို့သည် သီလရှိသူများ ဖြစ်ကြသည်။ အငြင်းပွားကြ၍သာ ငါ၏စကားကို မနာယူနိုင်ကြခြင်းဖြစ်၏။ ယခုမူ ဝန်ချကန်တော့ရန် လာကြသည်ဖြစ်၍ လာကြပါစေ မင်းကြီး"

ဟု နှစ်သိမ့်တော်မူရ၏။ အနာထပိဏ်သူဌေးကလည်း ကျောင်းတွင်းသို့ ဝင်ခွင့် မပေးလိုသဖြင့် လျှောက်ထားပြန်ရာ အထက်ပါအတိုင်း မိန့်တော်မူရပြန်သည်။

ကောသမ္ဗီရဟန်းများ ဇေတဝန်ကျောင်းတော်သို့ ရောက်သောအခါ မြတ်စွာဘုရားရှင်က အစွန်အဖျားကျောင်းများတွင် နေရာချထားပေးစေတော်မူ၏။ အခြားလာသမျှသော အာဂန္တုရဟန်းများက ဘုရားရှင်အား မေးမြန်းလျှောက်ထားကြရာ "အဲဒီ ရဟန်းတွေပဲ" ဟုလည်းကောင်း၊ အချင်းချင်း ပြောဆိုကြရာ၌လည်း

"ဘုရားစကား နားမထောင်ဘဲ ရန်ဖြစ်တဲ့ ရဟန်းတွေဟာ သူတို့ပဲ" စသည်ဖြင့် လည်းကောင်း လက်ညှိုးညွှန် ပြောဆိုကြရာ ကောသမ္ဗီရဟန်းများ ခေါင်းမဖော်ရဲ ရှိနေကြ၏။

ထိုရဟန်းများအားလုံး မြတ်စွာဘုရားထံ ဝန်ချကန်တော့ကြသောအခါ ကောသမ္ဗကဓာတ် (ဒီဃာဝုဝတ္ထု)ကို အကျယ်ဟောပြတော်မူရာ ပရိသတ်များ အားလုံး အရိယာဖြစ်ကြလေသည်။ (ဓမ္မပဒအဆို)။

**ငြိမ်းချမ်းစွာ အတူတကွ နေထိုင်ရေးမူ**

မြတ်စွာဘုရားရှင် သတ္တဝါတို့အပေါ် မျှော်လင့်သည်မှာ ချမ်းသာစေလို ခြင်းပင်ဖြစ်၏။ သတ္တဝါတိုင်းက တူညီသော ထိုလိုလားချက်မှာလည်း တစ်ခုတည်း သော ချမ်းသာရေးသာလျှင်ဖြစ်သည်။ နှစ်မျိုး မရှိ။

ကောသမ္ဗီ အဓိကရုဏ်းကြီး ဖြစ်ပေါ်လာသောအခါ ဘုရားရှင်၏ ဆန္ဒတော်မှာ ပို၍ပင် ပေါ်လွင်လာခဲ့၏။ နေရာဌာနများစွာ၌ အကြောင်းအားလျော်စွာ လိုက်နာ ရှောင်ကြဉ်ရမည့် တရားများကို အမျိုးမျိုး အထွေထွေ ဟောပြတော်မူခဲ့ရပေ၏။ ဟောညွှန်ပြသ,မှုလည်း ဒုက္ခလွတ်ကြောင်း အကောင်းချည်းသာဖြစ်၏။ အကျိုးများ စေသည်ချည်းသာ ဖြစ်၏။ သို့ရာတွင် အခြေအနေ အားလျော်စွာ လိုက်နာကျင့်သုံးရန် အကောင်းထဲက အကောင်းဆုံးသည် အဘယ်အရာနည်းဟု သိရှိရန် အရေးကြီး လေသည်။

ဘုရားရှင်လည်း လိုလားတော်မူ၍ သတ္တဝါတိုင်းကလည်း ရယူလိုသော တူညီသော တစ်ခုတည်းသောအရာမှာ ချမ်းသာခြင်းပင်ဖြစ်ကြောင်း ငြင်းဖွယ် မရှိ။ သို့ရာတွင် ချမ်းသာအောင် လုပ်ဆောင်ရာတွင်ကား လုပ်နည်းလုပ်ဟန် အမျိုးမျိုး ထွက်ပေါ်လာနိုင်၏။ အခြားဘာသာဝါဒနည်းနာများအရ မဆိုထားဘိ၊ ဗုဒ္ဓသာသနာတော်နည်းအရပင်လျှင် ရှုမြင်ပုံခြင်း ကွဲလွဲနိုင်ပေသည်။

ဘုရားရှင်၏ အလိုတော်ကား ရှင်းပေ၏။

၁။ ချမ်းသာလိုလျှင် (အရှင်ဘဂုထေရ်ကဲ့သို့) တစ်ယောက်တည်း ဆိတ်ငြိမ်ရာမှာ သတိပဋ္ဌာန်နှင့်နေ။

၂။ ထိုသို့နေရန် အခြေအနေမပေး၍ အများနှင့် စုဝေးနေရလျှင် (အရှင် အနုရုဒ္ဓါတို့ကဲ့သို့) မေတ္တာသုံးမျိုးနှင့် နေ–ဟု သင်ခန်းစာ ပေးတော်မူလေသည်။

မြတ်စွာဘုရားရှင်ကား မေတ္တာဝါဒ လက်ကိုင်ရှိမှသာလျှင် စည်းရုံးမှု ချစ်ခင်ညီညွတ်မှုရနိုင်၍ ချစ်ခင်ညီညွတ်မှု ရမှသာလျှင် ချမ်းသာနိုင်သည်ကို

မြင်တော်မူသောကြောင့် ဖြစ်ပေသည်။

လူသည် ယေဘုယျအားဖြင့် အုပ်စုအလိုက်၊ အုပ်စုဖွဲ့၍ လောကီနယ်ပယ်၌ နေရသူ၊ အသိုင်းအဝိုင်း၊ အပေါင်းအဖော်၊ မိသားစု၊ မိတ်ဆွေသင်္ဂဟနှင့် နေရသူ ဖြစ်သည်။ လောကုတ္တရာနယ်ပယ်၌ တစ်ကိုယ်တည်း ကမ္မဋ္ဌာန်းနှင့် နေသူပင်လျှင် မေတ္တာကို လက်လွှတ်၍မရ။ အုပ်စုလိုက်နေရသော လောကီနယ်သားတို့ အတွက်ကား ဆိုဖွယ်ရာမရှိ။ မေတ္တာဝါဒ ခံယူကျင့်သုံးမှု မရှိလျှင် ချစ်ခင်ညီညွတ်မှု မရ။ နာနာဆန္ဒ(အကြိုက်အမျိုးမျိုး)ကြောင့် ငြင်းခုံကွဲပြား နေရမည်သာဖြစ်၏။ ချမ်းသာအောင် လုပ်ရင်းက ဒုက္ခဝက်ပါ လည်ကုန်ကြရကုန်၏။

ထို့ကြောင့် ဘုရားရှင်သည် အုပ်စုနှင့်နေရသော လူသားတိုင်းအတွက် ပို၍ ပြည့်စုံသော ငြိမ်းချမ်းစွာ အတူတကွ နေထိုင်ရေး လမ်းညွှန်ကိုလည်း (ဆက္က အင်္ဂုတ္တရ ပါဠိတော်၊ သာရဏီယသုတ် စသည်တို့၌) ညွှန်ပြတော်မူခဲ့လေသည်။

"ရဟန်းတို့၊ သီတင်းသုံးဖော် (အတူတကွ နေရသူ) များ၏ ချစ်ခင်ခြင်း၊ လေးစားခြင်းကို ပြုတတ်ကုန်သော ဤသာရဏီယတရား ခြောက်မျိုးတို့သည် သဂြိုဟ်ထောက်ပံ့ရန် မငြင်းခုံ၊ ညီညွတ်ရန် တစ်ပေါင်းတည်း စည်းလုံးရန် ဖြစ်ကုန်၏။

တရားခြောက်မျိုးကား .....

၁။ မေတ္တာ ကာယကံ ထားခြင်း၊

၂။ မေတ္တာဝစီကံ ထားခြင်း၊

၃။ မေတ္တာ မနောကံ ထားခြင်း၊

၄။ မိမိပိုင်ပစ္စည်းများကို သီလရှိသော သီတင်းသုံးဖော်တို့နှင့် မခွဲခြား မကန့်သတ်ဘဲ အတူတကွ (အများဆိုင်ကဲ့သို့) သုံးစွဲခြင်း၊

၅။ တူညီသော ကိုယ်ကျင့် (သီလ)ရှိခြင်း၊

၆။ တူညီသော အယူဝါဒ (အမြင်)ရှိခြင်းတို့ ဖြစ်ကုန်၏။"

ဤကား ကောသမ္ဗီအဓိကရဏ်းကြီးမှ ထွက်ပေါ်လာခဲ့သည့် ဘုရားရှင်၏ မေတ္တာဝါဒ ပဓာန ညွှန်ကြားအပ်သော ရလဒ်ကြီးပင်တည်း။

[မေတ္တာဝါဒ သာရဏီယကျင့်ဝတ်ကို အပြည့်အစုံ လိုက်နာနိုင်သဖြင့် တိုင်းပြည်ပျက် ဘေးကြီးအတွင်း ဆွမ်းလောင်းမည့်သူ မရှိသော်လည်း သစ်ပင်ရှိလျှင် ဆွမ်းရှိသော ပုဂ္ဂိုလ်ထူးများအကြောင်း 'သီဟိုဠ်ခေတ် စံတော်ဝင် အရိယာများ' စာအုပ် အခန်း ၃–၌ ရေးသားပြီး။]



## ၆။ မေတ္တာဝါဒ မစလ လွတ်တော်

မေတ္တာအင်အားကြီးသည် ကမ္ဘာပေါ်၌ အမြဲထာဝရတည်ရှိနေသော လောကီအငြိမ်းဓာတ်ကြီးဖြစ်၏။ အဏုမြူဓာတ်အားကဲ့သို့ လေ့လာထုတ်ဖော် သုံးစွဲနိုင်သော လူ့အာဇာနည်များ ပေါ်ပေါက်လာသောအခါကျမှသာ လူများစု သုံးစွဲခွင့်ရကြ၏။

သာသနာပ ရှေးအခါက အလောင်းတော်ကြီးများ၊ ရသေ့သူတော်ကောင်းများ၊ မဃကဲ့သို့ အလွန်ရှားပါးလှသော လူ့အာဇာနည်များလောက်သာ တွေ့ရှိခဲ့ကြ၏။ သုံးစွဲခွင့်ရသူမှာ မပြောပလောက်ချေ။ သို့ရာတွင် မေတ္တာအင်အားကြီးကို လောကီ ကိစ္စအတွက်သာ အသုံးပြုနိုင်ခဲ့ကြ၏။ ဟန်ကုန်အောင် ဌာန်ကုန်အောင် မစူးစမ်း မထုတ်ဖော်နိုင်ကြကုန်။ မသုံးစားနိုင်ခဲ့ကြကုန်။ ဗုဒ္ဓပွင့်တော်မူလာမှသာ နည်းကုန် လမ်းကုန် အစွမ်းကုန် ထုတ်ဖော်ပေးတော်မူခဲ့လေသည်။

### မြေကြီးကို မြေဖြင့်ယမ်းရာမှ တွေ့လာရသော မေတ္တာ

ထိုအခါမှစ၍ မေတ္တာအင်အားကို နိဗ္ဗာန်အထိ အသုံးချလို့ရသည့်အပြင် အမျိုးမဆုံးသော လူမှုရေး ကိစ္စအရပ်ရပ်အတွက်ပါ လိုရာ ရေလဲနှင့် သုံးစား၍ မကုန်နိုင်ကြောင်း သိမြင်လာကြ၏။ အရာရာတွင် လိုသလို အသုံးချ၍ရသော အတုမဲ့ သဘာဝအင်အားကြီးတစ်ခုဖြစ်ကြောင်း နားလည်လာကြရ၏။

ထုတ်ဖော်သူရှိ၍ သိရပြန်တော့လည်း ဘာမျှမခက်။ လွယ်လွယ်ကလေး ပင်တည်း။

"မည်သည့်သက်ရှိသတ္တဝါ တစ်စုံတစ်ဦးကိုမဆို ထိခိုက်နစ်နာစေမည့် အရာမှန်သမျှ ရှောင်ရှား၍ သူတစ်ဖက်သား ကောင်းစား ချမ်းသာ စေရေးအတွက် ကိုယ်ထိလက်ရောက် ကူညီပြုလုပ်ခြင်း၊ အကျိုးရှိအောင် နားချမ်းသာအောင်, စိတ်ချမ်းသာအောင် ပြောဆိုညွှန်ပြပေးခြင်းနှင့် မည်သို့မျှ ကူညီရန် အခွင့် မသာသေးလျှင် အနီးဆုံး စိတ်ထဲကမူ ထိုသူတစ်ပါး ကောင်းစားချမ်းသာ စေလိုသောစိတ်ကို အထပ်ထပ် ဖြစ်ပေါ်အောင် မွေးမြူ (စိတ်စော) နေရခြင်းပင်တည်း။

ဤသို့ နည်းကား လွယ်ကူလှပေ၏။ လွယ်လွန်း၍လည်း မျက်စိလျှံနေကြလေသည်။

ကမ္ဘာပေါ်၌ ဗုဒ္ဓဘာသာဝင် မဟုတ်သူများပင်လျှင် ထိုမေတ္တာစိတ်ထားကို အသုံးပြုမိလျက်သား ဖြစ်နေ၍ ကြီးပွားချမ်းသာနေကြရ၏။ ဗုဒ္ဓဘာသာဟု ဆိုသော်လည်း မယုံကြည်၍၊ နားလည်အောင် မလေ့လာ၍ မကျင့်သုံးနိုင်၍ ဆင်းရဲနေကြရသူတွေ များလှပေသည်။

ဗုဒ္ဓမွေက လွဲ၍ အခြားမည်သည့်ဓမ္မတို့တွင်မှ ပြည့်စုံသော မေတ္တာဝါဒ မရှိသည်ကိုလည်း ဗုဒ္ဓကိုယ်တော်တိုင် တိုက်ရိုက်ဟောတော်မူထားရာ ဗုဒ္ဓဘာသာဝင်တို့အဖို့ သိတတ်မြင်တတ်လျှင် လက်ခမောင်းထ၍ ခတ်ချင်လောက်အောင် အားရဖွယ်ကောင်းလှ၏။(နောက်ပိုင်းနိကာယ်ကဏ္ဍ အမှတ်စဉ် ၇၊ မေတ္တာ သဟဂတ သုတ်ရှု။)

ယခုအခါကဲ့သို့ မည်သူမျှ မဟောကြားရဘဲ သာသနာပ,ကာလ သာမန်လူသား အရပ်သားတစ်ဦးအနေဖြင့် မေတ္တာအင်အားကို တွေ့သူမှာ 'မဃ'ဆိုသူက လွဲ၍ မရှိသလောက်ဖြစ်၏။

သိပ္ပံလောက၌ ဆွဲအားနိယာမ, အလေးချိန်နိယာမကို ရှာကြံသူ နယူတန်နှင့် အာခီးမီးဒီးစ် တို့ကဲ့သို့ပင် မဃဆိုသူ မေတ္တာအင်အားကို တွေ့ရှိပုံမှာလည်း အံ့ဩလောက်၏။ 'မြေကြီးကို ခြေထောက်နှင့်စမ်း'ရာမှ တွေ့ရှိသွားခြင်းဖြစ်သည်။

### သုံးဆယ့်သုံးအိမ်စုရွာမှ မဃ

ရှေးအခါက မဂဓတိုင်းတွင် 'မစလ'ခေါ်သော ရွာကလေးတစ်ရွာ ရှိခဲ့ဖူး၏။ အိမ်ခြေ သုံးဆယ့်သုံးအိမ်မျှသာ ရှိသည်။ ထိုရွာ၌ မဃ ဆိုသူလည်း နေ၏။

ရွာသူရွာသားတို့သည် ရပ်ရေးရွာရေး ကိစ္စရှိလျှင် ရွာလယ်ကောင် လမ်းလေးခွ၌ စုဝေးတိုင်ပင်လေ့ရှိကြ၏။ တစ်နေ့သောအခါ မဃသည် လူအများ စုဝေးမည်ရှိစဉ် မိမိရပ်နေသောနေရာ၌ အမှိုက်သရိုက် ခဲသလဲများ ခြေဖျားကလေးနှင့် ဖယ်ယမ်းပြီး

နေ၏။ သူရပ်နေသော နေရာကလေးတွင် ထိုင်မှ မထိုင်ရသေး။ နောက်မှ ရောက်လာသူတစ်ဦးက ပြောင်ရှင်းညီညာနေသော သူ့နေရာကလေး၌ထိုင်ရန် သူ့အား တွန်းဖယ်ရှားပြီး လုစ်ထိုင်၏။

မယကား စိတ်မဆိုးဘဲ သည်းခံပြီး ဖယ်ပေးကာ အခြားတစ်နေရာ၌ ရပ်ပြီး ခြေထောက်ဖြင့် ဖေ့ယမ်းရှင်းလင်းနေစဉ် ထိုင်မှမထိုင်ရသေးခင် အခြားတစ်ယောက်က သူ့အား တွန်းဖယ်ပြီး နေရာလုထိုင်ပြန်၏။

ဤနည်းဖြင့် စိတ်မဆိုးအားဘဲ တစ်နေရာပြီး တစ်နေရာ ရှင်းလင်းကာ နေရာယူရရှာ၏။

မယသည် စိတ်မဆိုးသည့်အပြင်–

"ငါလုပ်တာ သူတို့ချမ်းသာသွားပြီ" ဟု ဝမ်းမြောက်ကာ အများ ချမ်းသာမှုကိုချည်း ပြုရန် စိတ်ထက်သန်လာ၏။ အမှတ်မထင် ခြေထောက်ဖြင့် ခဲသလဲ အမှိုက် သရိုက်များကို ဖယ်ရှားရာမှ သူတစ်ဖက်သား ချမ်းသာစေလိုသော မေတ္တာအင်အားကြီးကို စတင်တွေ့ရှိကာ ထိုကိုယ်ချင်းစာစိတ်ကို အခြေခံ၍ မိမိ သူတစ်ပါး ချမ်းသာရေးအတွက် အခြားကျင့်ဝတ်များနှင့် ကောင်းမှုလုပ်ငန်း များကိုပါ တသီတတန်းကြီး တွေ့မြင်လာ၏။ တွေ့မြင်သည့်အတိုင်းလည်း ဖောက်ချလုပ်ရန် ဆန္ဒဖြစ်ပေါ်လာလေသည်။

မိမိအတွက် သူတစ်ပါး ဒုက္ခမရောက်စေရန် ဦးစွာ ငါးပါးသီလကို ကျင့်သုံးကာ နောက်တစ်ရက် ထိုနေရာသို့ သွား၍ လူသုံးဆယ်ကျော် နေထိုင်လောက်ရုံ မြေနေရာ၌ ပေါက်တူးပေါက်ပြားများဖြင့် မြေဖို့မြေညှိပြီးလျှင် သဲများပင် ခင်းပေး ထားလိုက်သေးသည်။ လူများမှာ ချမ်းချမ်းသာသာနေရ၍ ဝမ်းသာနေကြ၏။

နောက်ရက်၊ နောက်လများ၌ မဏ္ဍပ်တဲကလေးထိုးကာ သောက်ရေအိုးပင် တည်ထားပေးရာ လူအများပို၍ ဝမ်းသာကြ၏။

ရပ်ရေး၊ ရွာရေး ဆွေးနွေးလာသူများသာမက ရွာထဲမှ အဘိုးအို၊ အဘွားအိုနှင့် ကလေးများပင် အချိန်မရွေး လာရောက်စုဝေးကြရာ မယသည် ပို၍ပင် ဝမ်းသာကာ ဆောင်းအခါတွင် မီးလှုံရန် ထင်းများကိုပင် တောထဲမှ သယ်ယူထမ်းပို့ထားလေသည်။ မယ၏ ကာယကံမေတ္တာသည် မွန်မြတ်လှပါပေ၏။

## ကောင်းတာဆိုလျှင် လူတိုင်းကြိုက်သကိုး

ထို့နောက် ယာယီကနားဖျင်း (မဏ္ဍပ်)ကို ဖျက်ကာ အခိုင်အမာ ရွာလယ်ဇရပ် ဆောက်လှူလိုက်၏။ အိပ်ရန်ထိုင်ရန် ခုံများကိုပါ ပြုလုပ်ပေးရာ မစလတစ်ရွာလုံး ဝမ်းသာမဆုံးကြတော့ချေ။

'အင်း..... နေချင့်စဖွယ်လုပ်ထားရင် လူတိုင်း သဘောကျတယ်၊ ကောင်းတာဆိုရင် မကြိုက်တဲ့လူရယ် မရှိပါကလား။ ငါလုပ်တာ ကောင်းတဲ့ အလုပ်ပဲ၊ ရှေ့ကိုတိုးလုပ်မှ တော်မယ်၊ မြို့ကိုသွားတုန်းက တွေ့ခဲ့ရတဲ့ ရှင်ဘုရင်တွေ မှူးကြီးမတ်ကြီးတွေဟာလဲ သူတို့ခုလို စည်းစိမ်ချမ်းသာမျိုးနဲ့ နေကြရတာ အကြောင်းမဲ့မဟုတ်တန်ဘူး၊ ဒီလို ကောင်းမှုအလုပ်တွေ လုပ်ခဲ့ကြလို့သာ နေမှာပဲ၊ နောက်ပြီးလတို့၊ နေတို့ဟာ လနတ်သား၊ နေနတ်သားလို့ ပြောကြတယ်၊ အဲဒီနတ်သားတွေဟာလဲ ဒီလိုကောင်းမှုမျိုးကို လုပ်ခဲ့တဲ့လူတွေ နေမှာပဲ၊ တခြားအကြောင်းရှိမယ် မထင်ဘူး။'

မဃသည် သူဉာဏ်မီသမျှ ဆက်၍စဉ်းစားကာ အများချမ်းသာရေးကို ဦးတိုက်၍ ကောင်းမှုမှန်သမျှ တိုးပြီးလုပ်ရန် ဆန္ဒတွေ ဖြစ်ပေါ်လာ၏။ ထိုသို့လုပ်လျှင် လူများလည်း ချမ်းသာသည်ထက် ချမ်းသာ၍ မိမိလည်း နောက်ဘဝတွင် ချမ်းသာသည်ထက် ချမ်းသာမည်ဟုလည်း ယုံကြည်နေ၏။

ထို့ကြောင့် ပထမဆုံး ရွာအပြင်လမ်းပန်းများကို ပြင်ဆင်ရန် နံနက်စောစောထ၍ ဆန်ပြုတ်သောက်ပြီးလျှင် တောင်း၊ တူရွင်း၊ ဓား စသည်ယူဆောင်ကာ လူသွားလမ်းများကို ပြင်ဆင်၏။ လမ်းပေါ် ဖြတ်ကျော်ကျနေသောသစ်ကိုင်းများ ခုတ်ပယ်ရှင်းလင်း၏။ ခရီးသွားများနားနေရန် လမ်းဆုံလမ်းခွ၌ တဲများ ထိုးပေးထား၏။ တစ်နိုင်လုပ်အား ကောင်းမှုများကို နေ့စဉ် ပြုလုပ်လေသည်။

တံတားခင်းသင့်သော နေရာ၌ တံတားခင်းခြင်း၊ ရေကန်တူးသင့်သော နေရာ၌ ရေကန်တူးခြင်း စသည်ဖြင့် ပရဟိတလုပ်ငန်းများမှာ တိုး၍တိုး၍သာလာ၏။ ပြီးဆုံးသည်ဟူ၍လည်း မရှိချေ။ နေထွက်မှနေဝင် တောမှာပင် အချိန်ကုန်လေတော့သည်။

### ကောင်းမှုကို မသိသောလူစုနှင့် နတ်ပြည် လမ်းဖောက်သူ

ထိုသို့ နေစဉ်နှင့်အမျှ လုပ်နေသော မဃကို မြင်၍ အခြားဘဝတူရွာသားအချို့က "ကိုမဃ ဘာလုပ်တာလဲ" ဟုမေးရာ–

"ငါ ကောင်းမှုလုပ်တာပါ၊ နတ်ပြည် လမ်းဖောက်နေတာပါ" ဟုသာ ဖြေဆို၏။

"ကောင်းမှုဆိုတာ ဘယ်လိုဟာလဲ" ဟုမေးလျှင် သူ သဘောပေါက်ထားသည့်အတိုင်း လူချင်းတူသော်လည်း အသက်ရှုကွဲဆိုသကဲ့သို့ ရှင်ဘုရင်များ မှူးမတ်ကြီးများကိုပင် သက်သေထူကာ "မင်းတို့ မြို့တော်သွားတဲ့အခါ မမြင်ဖူးဘူးလား"စသဖြင့် ကောင်းမှု၏ အဓိပ္ပာယ်ကို ရှင်းပြ၏။

"အနို.....နတ်ပြည် လမ်းဖောက်တယ်ဆိုတာကကော" ဟု မေးပြန်လျှင် လနတ်သား၊ နေနတ်သားအကြောင်း သက်သေထူကာ သူ သဘောပေါက်သည့် အတိုင်းသာ ရှင်းပြလေ့ရှိသည်။ သူ၏ အပြောနှင့်အလုပ်ကို လူအများ စိတ်ဝင်စား လာကြရာ–

"နေပါဦး၊ ကိုမဃပြောတဲ့ ကောင်းမှုနဲ့ နတ်ပြည် လမ်းဖောက်တဲ့ အလုပ်ဟာက ခင်ဗျားပဲ လုပ်လို့ရသလား၊ ကျွန်တော်တို့ လုပ်ရင်ကော မရဘူးလား" ဟု ဆက်လက် မေးမြန်း၍ ရနိုင်ကြောင်း ဖြေဆိုလျှင်–

"ဒီလိုဆို နက်ဖြန်နံနက် တောထဲသွားရင် ကျွန်တော့်ကိုလဲ အသံပြုပါဦး" ဟုဆိုကာ တစ်နေ့တခြား လူဦးရေတိုးလာကာ စုစုပေါင်း သုံးဆယ့်သုံးယောက် ဖြစ်လာ၏။

## မစလရွာ အခြေခံဥပဒေ

မိမိ့သူတစ်ပါး အများချမ်းသာရေးကို ရလို့ ပေးလိုသူများ ဖြစ်လာကြကာ ငါးပါးသီလကိုလည်း အားလုံး လိုက်နာကျင့်သုံးကြကုန်၏။ နံနက်အိမ်မှထွက်၊ ညနေ နေဝင်မှ အိမ်ပြန်၊ တစ်နေကုန် တောမှာနေ၍ လုပ်ငန်းများကို တစ်နေ့ထက် တစ်နေ့ တိုးချဲ့လုပ်ကိုင်ကြသည်။

ထိုမှတစ်ပါး ရွာလယ်ရေပ်၌ အောက်ပါစည်းမျဉ်းခုနစ်ချက်ကိုလည်း ရေးဆွဲထားကာ အားလုံး ရာသက်ပန် လိုက်နာကြရန် မကြာခဏ သတိပေး ဆွေးနွေးကြသည်။

၁။ ရာသက်ပန် မိဘလုပ်ကျွေးရန်၊
၂။ လူကြီးများအား ရိုသေလေးစားရန်၊
၃။ တစ်ဦးနှင့်တစ်ဦး ချိုချိုသာသာ သိမ်သိမ်မွေ့မွေ့ ပြောဆိုရန်၊
၄။ ကုန်း မတိုက်ရန်၊
၅။ တရားသဖြင့် အိမ်ထောင်ကို ဦးစီး၍ တတ်နိုင်သမျှလှူဒါန်း ပေးကမ်းရန်၊
၆။ လိမ်လည် မပြောရန်၊
၇။ မည်သည့်အကြောင်းကြောင့်မျှ တစ်ဦးနှင့်တစ်ဦး စိတ်မဆိုးရ၊ အပြစ် မတင်ရ၊ အကယ်၍ ဒေါသထွက်မိ၊ အပြစ်တင်မိလျှင်လည်း ချက်ချင်း ဖြေဖျောက်ပစ်ကာ မေတ္တာပွားရန်တို့ဖြစ်ကုန်၏။

ဤကား အိမ်ထောင်ဦးစီးတိုင်း 'ရာသက်ပန် လိုက်နာပါမည်' ဟုကတိဝန်ခံ၍ အစိုးရှာန်ပြုထားကြသော 'သီးခြား မစလရွာ အခြေခံဥပဒေ' တည်း။

## ဗုဒ္ဓအသံစာပေ

မစလရွာသားတို့သည် မဃဆိုသူ ဦးဆောင်၍ တစ်ရွာလုံး 'သူ့အသက် မသတ်ရ၊ သူ့ဥစ္စာ မခိုးရ' စသော ကျင့်ဝတ်များကို ကျင့်၍ တစ်နေကုန် တောထဲ ထွက်ပြီး ကောင်းမှုလုပ်နေကြသဖြင့် မကျေမချမ်းဖြစ်ကာ နှောင့်ယှက် မည့်သူတစ်ဦး ပေါ်ပေါက်လာ၏။

ထိုသူကား မစလ,စသော ရွာငယ်များကို အပိုင်စားရသူ ရွာစားကြီး ဖြစ်သည်။

'အရက်ချက်ပြီး သောက်မယ်၊ ရောင်းမယ်၊ သားငါးလိုက်မယ်၊ ဒါမှမဟုတ် တခြားလုပ်ငန်းတစ်ခုခုကို လုပ်မယ်ဆိုရင် အရက်တစ်အိုးလျှင် မည်ရွေ့မည်မျှ စသည်ဖြင့် အကောက်လဲ ရမယ်၊ ဒဏ်ရိုက်လို့လဲ ရမယ်၊ ခုတော့ အရက် မသောက်ရ၊ သူ့အသက် မသတ်ရ ဆိုတော့ ငါ့မှာ ဝင်ငွေလျော့ကုန်ပြီ။'

ရွာစားကြီးသည် မစလ ရွာသားများအပေါ် မကျေမချမ်းဖြစ်ကာ ခေါ်ငင် သတိပေး၏။ လုပ်ငန်းများကို မေးလျှင် 'ကောင်းမှုလုပ်သည်၊ နတ်ပြည် လမ်းဖောက် သည်' ဟုသာ ဖြေဆိုကြသဖြင့် မကျေနပ်ချေ။ အိမ်ရာထောင်သူများ ဤသို့ မလုပ်သင့်ကြောင်း တားမြစ်၏။ မရသည့်အဆုံး ရှင်ဘုရင်ထံ သွားရောက်၍ 'တိုင်းပြည်ကို လုပ်ကြံမည့်သူများ ဖြစ်လေဟန်' ဉာဏ်ဆင်၍ သံတော်ဦးတင်လေ သည်။

## ရွာလယ်ဇရပ်မှာ အဖမ်းခံရခြင်း

မဃအမှူးရှိသော မစလရွာသားတို့သည် တစ်နေကုန် တော၌ လုပ်ကိုင်ပြီး နောက် နေမဝင့်တဝင်အချိန် အိမ်သို့ ပြန်လာကြကာ ရေမိုးချိုး စားသောက်ပြီးသည်နှင့် ရွာလယ်ဇရပ်၌ စုဝေးတိုင်ပင်နေကြ၏။

မစလ အခြေခံဥပဒေခေါ် ကတိက စာတမ်းများကို ဆွေးနွေးကြ၏။ နက်ဖြန် တော၌ လုပ်ဆောင်ရမည့် ရေတွင်း၊ ရေကန်၊ တံတားခင်း၊ လမ်းပန်း ဖောက်ခြင်း ကိစ္စများအတွက် ကြိုတင်တိုင်ပင်ညှိနှိုင်းကြသည်။ ထိုအခိုက် ကြိုတင် စီစဉ်ထားသော ရွာစားကြီး၏ ခြေထိုးမှုအရ မဂဓ ဘုရင့်တပ်များသည် မစလရွာ အဝင်အထွက်လမ်းများ၌ ကင်းစောင့်ချကာ ရွာလယ်ဇရပ်ကို ဝိုင်းဝန်းထားကြသည်။ စစ်တပ်နှင့်အတူပါလာသော ရွာစားကြီးက.....

"ဟေ့- မင်းတို့ မပြေးကြနှင့်၊ ဒါ ဘုရင့်အမိန့်တော်ကွ" ဟု ဆိုကာ ဖမ်းဆီးကြ၏။ မစလရွာသားများလည်း အသာတကြည် လိုက်ပါသွားကြသည်။ မစလရွာသူ အိမ်ရှင်မ,များမှာမူ စိတ်မဆင်းရဲကြသည့်အပြင် မိမိလင်ယောကျာ်း များအပေါ် ရေးကပင် မကျေနပ်ကြသဖြင့်.....

"အဖမ်းခံရတာပဲ ကောင်းကောင်းပါအေ၊ သူတို့ တို့ကို လှည့်စားနေတာ ကြာလှပါပြီ၊ ကောင်းမှုလုပ်တယ်၊ ကောင်းမှုလုပ်တယ်ဆိုပြီး တစ်နေကုန်တောထဲမှာပဲနေ၊ အချိန်ကုန်မှ ပြန်လာ၊ အိမ်အလုပ်တွေ ပျက်လိုက်တာ၊ ဘာစီးပွားမှလဲ မတိုးတက်ပါဘူး" ဟုဆိုကာ မေးငေါ့ပြီးကျန်ရစ်ခဲ့ကြ၏။

စစ်တပ်ကြီး ဖမ်းဆီးခေါ်ဆောင်သွားပြီးနောက် ဘုရင့်ထံ ပို့ဆက်ကြရာ ဘုရင်မှာ မည်သို့မျှ မစစ်ဆေးတော့ဘဲ ရွာစားကြီး၏ တစ်ဘက် စကားကိုသာ ယုံစားလျက် မင်းရင်ပြင် (နန်းတော်ရင်ပြင်၌) ချည်တုတ်ဆွဲခေါ်ပြီး ဆင်ဖြင့် နင်းသတ်ရန် တစ်ချက်လွှတ် အမိန့် ချမှတ်လိုက်လေသည်။

ခေါင်းဆောင်လုပ်သူ မဃကမှ ဘဝတူ မိတ်ဆွေများအား "အားမငယ်ကြပါနှင့်ကွာ" ဟုပြောဆိုရင်း လိုက်ပါလာ၏။

## ရန်သူကို စိတ်မဆိုးရ

"မိတ်ဆွေတို့၊ မိတ်ဆွေတို့အားလုံး ကျုပ် စကားကို နားထောင်ကြမလား" ဟုလည်း မဃက မေးလိုက်ရာ.....

"ခင်ဗျားစကား နားထောင်ခဲ့ကြလို့ ယခု ကျုပ်တို့တတွေ ဘေးတွေ့ပြီ၊ ဒါပေမယ့် ယခုလည်း နားထောင်ပါ့မယ်၊ ပြောသာပြောပါ၊ ကျုပ်တို့ကို ဘာလုပ်စေချင်သလဲ" ဟု ဆို၍.....

"မိတ်ဆွေတို့၊ ဘဝခရီး သွားနေတဲ့သူတွေအတွက် ဒါ ဖြစ်ရိုးဖြစ်စဉ်ပါ၊ ဘာမှ အားငယ်စရာ မလိုပါဘူး၊ တစ်ခုတော့ ပြောချင်တယ်၊ မိတ်ဆွေတို့ အားလုံးဟာ သူတို့ပြောတဲ့အတိုင်း လူဆိုး၊ သူခိုး၊ ပုန်ကန်မယ့်သူတွေလား"

"ဘယ်ကလာ.....ကျုပ်တို့ သူခိုးသူပုန် ဟုတ်ရမှာလဲဗျာ့"

"အေး.....ဒါ အမှန်တရားပဲ၊ ကျုပ်တို့ အားကိုးရမှာ ဒါပဲရှိတယ်၊ ဒီအမှန်တရားကို ဘယ်သူမှ မတော်လှန်နိုင်ပါဘူး မိတ်ဆွေတို့ရယ်၊ ငါသည် သူခိုးသူပုန် ဟုတ်ရိုးမှန်ရင် ဆင်ကြီး နင်းသတ်ပါစေ၊ မဟုတ်လျှင် မနင်းသတ်ပါစေနှင့်၊ မိတ်ဆွေတို့အားလုံး ကျုပ်က စပြီး ဒီသစ္စာပြုကြရမယ်"

"ကောင်းပါပြီ၊ ပြုပါမယ်"

"နောက်ပြီး.....အရေးအကြီးဆုံးက (တုမ္ဟေ သီလာနိ အာဝဇ္ဇထ = ကျုပ်တို့တတွေ ရွာမှာနေတုန်းက နေ့ရှိသမျှ လိုက်နာကျင့်သုံးခဲ့ကြတဲ့ ကိုယ်ကျင့်တရားတွေ၊ လုပ်ခဲ့တဲ့ ကောင်းမှုတွေကို ပြန်ပြီး စဉ်းစားကြဖို့ လိုပါတယ်၊ ဒါ ကိုယ်လုပ်ခဲ့တဲ့ကောင်းမှုကို အသစ်ထပ်ပြုတာပါပဲ"

"နောက်တစ်ခုက ကျုပ်တို့တတွေ ကတိက စာတမ်းမှာ (ယာဝဇီဝံ

အင်္ကောဝနော အသံ=) ရောသက်ပန် မည်သူ့အပေါ်ကိုမျှ အပြစ်မတင် စိတ်မဆိုးပါဘူး၊ (သစေ ပိ မေ ကောဓော ဥပ္ပဇ္ဇေယျ၊ ခိပ္ပ မေဝ နံ ပဋိ ဝိနေယျ=)'မတော်တဆ စိတ်ဆိုးမိသွားလျှင်လဲ ချက်ချင်းဖြေဖျောက်ပါ့မယ်' ဆိုတဲ့ ကျင့်ဝတ်ကို ဒီကနေ့တိုးပြီး လက်တွေ့လိုက်နာကြဖို့လိုပါတယ်။

ဒီတော့မိတ်ဆွေတို့.....

၁။ ကျုပ်တို့ကို အကောက်ကြံတဲ့ ရွာစားကြီးအပေါ်ကိုရော၊

၂။ မဂဓပြည့်ရှင် ဘုရင်မင်းမြတ်ကြီး အပေါ်ကိုရော၊

၃။ နင်းသတ်မယ့် ဆင်ရိုင်းကြီး အပေါ်ကိုပါ (ကောသဒိသမေဝ မေတ္တံ ဘာဝေထ=) မိမိကိုယ်နှင့် တစ်ထပ်တည်း စိတ်ထားပြီး မေတ္တာကိုသာ စူးစူးစိုက်စိုက် ပွားကြပါ။"

## ဆင်ဖြင့် နင်းသတ်ခြင်း

မဃက ဘဝတူများအား သတိပေးနေစဉ်မှာပင် မစလ ရွာသားများ အားလုံးကို ချုပ်နှောင်ဆွဲခေါ်ပြီးလျှင် နန်းရင်ပြင်အလယ်ဌာ ဝမ်းလျားမှောက် တန်းစီခိုင်းထား၏။ ဆင်ဦးစီးများသည် ဆင်ရိုင်းကြီးများအား နင်းသတ်ရန် ညာသံပေး၍ မောင်းနှင်၏။ ဆင်ရိုင်းကြီးမှာ တစ်လှမ်းနှစ်လှမ်း သွားရုံမျှ သွားပြီးလျှင် ရှေ့သို့ မတိုးဘဲ အော်မြည်နေ၏။ လှံများ မှိန်းများဖြင့် ထိုးနှက် မောင်းနှင်ကြသော်လည်း မရ၊ ရင်ကွဲမတတ် အော်မြည်လျက် ထွက်ပြေးလေ၏။ ရွာစားကြီးနှင့်တကွ လူအများ အံ့အားသင့်နေကြလေသည်။

ထိုအကြောင်း မဂဓဘုရင်ကြီးအား သွားရောက် သံတော်ဦးတင်ကြရာ အခြား ဆင်ရိုင်းကြီးတစ်ကောင်ဖြင့် လဲလှယ်၍ နင်းသတ်ရန် အမိန့်ချ လိုက်ပြန်၏။ အခြား ဆင်ရိုင်းကြီးတစ်ကောင်ဖြင့် နင်းသတ်ခိုင်းပြန်ရာတွင်လည်း မရချေ။ ဆင်တင်းကုပ်တွင် ရှိသမျှ ဆင်များကို တစ်ကောင်ပြီးတစ်ကောင် ဆွဲထုတ် နင်းသတ်စေရာ တစ်ကောင်မှ မနင်းဝံ့ဘဲ ရှိကြလေ၏။

'လူတွေ သည်အတိုင်း မြင်နေရလို့ မနင်းဝံ့ဘဲနေတာ ဖြစ်လိမ့်မယ်' အထင်ဖြင့် မစလရွာသားများကို ဖျာယိုင်ဖုံးအုပ်၍ နောက်တစ်ချီ နင်းသတ် ခိုင်းပြန်ရာ မည်သည့်ဆင်မျှ မနင်းဝံ့ဘဲ အော်မြည်ထွက်ပြေး၍ချည်းသာ သွားကြ လေသည်။

မဂဓဘုရင်ကြီးသည် မည်သို့မျှ ဆင်ဖြင့် နင်းသတ်၍ မရသောအခါ အကြံရ ခက်နေ၏။ ဆေးမြစ်ဆေးကောင်း အဆောင်ကောင်း ရှိ၊ မရှိ တစ်ယောက်စီ စစ်ဆေးခိုင်းရာ မည်သည့် အဆောင်မျှ မတွေ့။ တစ်စုံတစ်ခုသော အတတ်ပညာ

(ဂါထာမန္တန်) ကြောင့်များလား’ ထင်ကာ မေးမြန်းစစ်ဆေးရာ ခေါင်းဆောင် မဃက “ဟုတ်ကဲ့၊ ကျုပ်တို့မှာ မန္တန်ရှိပါတယ်” ဟုဆိုသဖြင့် ဘုရင့်ထံ ခေါ်ဆောင်သွားကြသည်။ ဘုရင်က တတ်သိသော မန္တန်ကို ပြောစေခိုင်းရာ မဃက .....

“ကျွန်တော်မျိုးတို့ တတ်ထားတဲ့ မန္တန်က တခြားမဟုတ်ပါ၊ သူ့ အသက်ကို မသတ်ပါ၊ သူ့ဥစ္စာကို မခိုးပါ၊ သူ့အိမ်ရာကို မကျူးလွန်ပါ၊ လိမ်လည် မပြောပါ၊ သေရည်သေရက် မသောက်စားပါ၊ မေတ္တာပွားပါတယ်၊ တတ်နိုင်သမျှ လှူဒါန်းပေးကမ်းပြီး ကောင်းမှု လုပ်ပါတယ်၊ နတ်ပြည် လမ်းဖောက်ပါတယ်”

ဤသို့ စသည်ဖြင့် မစလ ဥပဒေများ၊ အများ ချမ်းသာကောင်းစားရေး အတွက် လုပ်ဆောင်ချက်များအားလုံးကို ဖော်ပြကာ.....

“ဒါဟာ ကျွန်တော်မျိုးတို့ရဲ့ မန္တန်ပါပဲ၊ ပရိတ်ပါပဲ၊ ကြီးပွားရေးလုပ်ငန်းလဲ ဖြစ်ပါတယ်” ဟု သံတော်ဦးတင်လိုက်၏။

## ရွာလုံးကျွတ် နတ်ပြည်ပြောင်း၍ ရွာတည်ခြင်း

သစ္စာပြုကာ မေတ္တာဘာဝနာပွားပုံများကိုပါ ကြားသိရသဖြင့် မဂဓ ဘုရင်ကြီးသည်–

“အမောင်တို့၊ အဟိတ်တိရစ္ဆာန်ဖြစ်တဲ့ ဆင်ကတောင် မောင်တို့ရဲ့ ကျေးဇူးဂုဏ်ကို သိပေတယ်၊ ငါကိုယ်တော်မြတ်ဟာ လူပင်ဖြစ်လျက် မသိခဲ့ဘူး၊ မောင်တို့ ခွင့်လွှတ်ကြပါ” ဟုဆိုကာ ကုန်းတိုက် (ခြေထိုး)သူ ရွာစားကြီး မိသားစုကို ရွာစားအရာမှ ချ၍ မစလ ရွာသားများအား အခိုင်းအစေအဖြစ် ပေးကာ မစလရွာကိုလည်း လွတ်လပ်စွာ အုပ်ချုပ်နေထိုင်ကြရန် ဆုတော်ငွေများနှင့် ဆင်ကိုပါ ဆုချလိုက်သဖြင့် ဆင်စီး၍ ဝမ်းသာစွာ ပြန်ကြလေ၏။

ဆင်ကို တစ်လှည့်စီ စီး၍ ပြန်လာကြစဉ် လမ်းခရီး၌–

“မိတ်ဆွေတို့၊ နောက်ဘဝအတွက် ရည်ရွယ်ပြီး ငါတို့ လုပ်ခဲ့တဲ့ ကောင်းမှုဟာ ရေထဲက ထိုးထွက်လာတဲ့ ကြာပန်းလို ငါတို့မှာ အခုလက်ငင်း ခံစားနေကြရ ပါပကောလား။ မိတ်ဆွေတို့၊ ဒီကြရှေ့ ကောင်းမှုကို တိုးပြီးလုပ်မှ တော်မယ်” ဟု ပြောဆိုကြကာ ရွာကထက်ပို၍ ကြီးကျယ်သော တည်းခို ဇရပ်ကြီးများ စသည်တို့ကို ပြုလုပ်ကြလေသည်။

မစလ ရွာလယ်ဇရပ်ကလေးမှာ သီးခြား မစလ လွှတ်တော်တစ်ခု ဖြစ်လာ လေသည်။

မဃ အမှူးရှိသော မစလရွာသားများ သေလွန်ကြသောအခါ မစလ

ရွာကလေး ရွာလုံးကျွတ် နတ်ပြည်သို့ရွှေ့ပြောင်းသွားကြ၏။ 'တာဝတိံသာ'ဟု ယခုခေါ်ကြသည်။ မဃကား ယခုအခါ သိကြားမင်းကြီး ဖြစ်သတည်း။

[ဓမ္မပဒ ၁၊ ၁၆၇။ ဒီဃနိကာယ် မဟာဝဂ္ဂ အဋ္ဌကထာ–သက္ကပဉှသုတ်အဖွင့်နှင့် ၄င်းဋီကာ။ ဇာ၊ ဋ္ဌ၊ ၁–၂၁၄၊ ကုလာဝကဇာတ်နှင့် ၄င်းဋီကာသစ်ကျမ်းများအရ အနည်းငယ် ကွဲလွဲသော အဆိုအမိန့်များ အားလုံးကို ညှိ၍ဖော်ပြလိုက်ပါသည်။ ယခုအခါ ဓမ္မပဒလာ မဃ ဝတ္ထု ကိုသာ အသိများကြသဖြင့် ပို၍ပြည့်စုံစေရန် ရည်ညွှန်းပါ၏။ မဟာဝါ၌ 'သစ္စာကျောင့်' ဟု ဆိုခြင်းနှင့် ဇာတ်၌ ယခု သိကြား မဟုတ်၊ အမည်တူ ဖြစ်ရပ်တူ ရှေးအခါက ဘုရားအလောင်းတော် သိကြားဖြစ်သည်။ ဤမျှသာ ထူးခြား၏။]



ဗုဒ္ဓခေတ် မေတ္တာစံပြ ပုဂ္ဂိုလ်ကြီးများ

- တေဒဂ် နှစ်ထပ်ကွမ်း အရှင်သုဘူတိ
- မေတ္တာသုတ်ပရိတ်ကို ဦးစွာ သင်ယူရသော ရဟန်းငါးရာ
- မေတ္တာစျာန်ဝင်စားသော ကိုရင်ကလေး
- သူဌေးသမီး ဥတ္တရာ လုပ်ကြံခံရခြင်း
- သာမာဝတီ၏ မေတ္တာနှင့် ကံကြမ္မာ။

ဗုဒ္ဓအသံစာပေ

**မေတ္တာသက်လုံ လုံရဲ့လား**

အား သက်လုံ ပျက်သောနွား အမြှုပ်ထွက်လွယ်သည်၊ ဝန်မနိုင်။ မေတ္တာသက်လုံပျက်သူ ဒေါသအမြှုပ် ထွက်လွယ်သည်၊ ခန္တီ ဝန်မနိုင်။ အလောဘသက်လုံပျက်သူ ရာဂအမြှုပ် ထွက်လွယ်သည်၊ သမထ ဝန်မနိုင်။ အမောဟသက်လုံပျက်သူ မောဟအမြှုပ် ထွက်လွယ်သည်၊ ဝိပဿနာ ဝန်မနိုင်။ ဟိရိဩတ္တပ္ပသက်လုံပျက်သူ ကိလေသာအမြှုပ် ထွက်လွယ်သည်၊ သီလ ဝန်မနိုင်။ သဒ္ဓါသက်လုံပျက်သူ မစ္ဆေရအမြှုပ် ထွက်လွယ်သည်၊ ဒါန ဝန်မနိုင်။

**"ဒေါသ ကထာကျမ်း"**
**(ရာဇဂုရု မောင်းထောင်ဆရာတော်**
**ဦးပညာသာမိ)**

**ဗုဒ္ဓအသံစာပေ**

**မေတ္တာစံပြ ပုဂ္ဂိုလ်ကြီးများ**

မေတ္တာဝါဒသည် ဗုဒ္ဓဝါဒ၏ ပဓာနအခြေခံ အင်အားကြီးတစ်ခုဖြစ်၏။ ဟင်းလျာ တိုင်းအတွက် မရှိမဖြစ်သော ဆားသဖွယ်လည်းဖြစ်သည်။

ဗုဒ္ဓသာဝက-ဘုရား တပည့်တော်တို့သည်လည်း ဗုဒ္ဓရှင်တော်မြတ်၏ ဩဝါဒအရ မေတ္တာကိုယ်ချင်းစာတရားကို ရှေ့ဆုံးကထား၍ လေးစားစွာ လေ့ကျင့်ပွားထုံကြကုန်၏။ ထိုတွင် မေတ္တာပွားထုံမှုနှင့်စပ်၍ တေဒဂ်စံပြ အမြတ်ဆုံး ဘွဲ့ရသူမှာ အရှင်သုဘူတိမထေရ်ပင် ဖြစ်ခဲ့သည်။

**၇။ တေဒဂ်နှစ်ထပ်ကွမ်း အရှင်သုဘူတိ**

အရှင်သုဘူတိကား သာဝတ္ထိပြည် ကျောင်းဒကာ အနာထပိဏ် သူဌေးကြီး၏ ညီတော်ဖြစ်သည်။ ကြန်အင်လက္ခဏာ လွန်စွာချောမောလှပသော သူကြွယ်ဖြစ်၏။

နောင်တော် အနာထပိဏ်သူဌေးကြီး ဇေတဝန်ကျောင်းတော်ကြီး ဆောက်လုပ် ပြီးပြေ၍ နှင်းအပ်ပူဇော်ရာ 'ကျောင်းလှူတော်ပွဲတော်'သဘင်၌ နောင်တော်နှင့်အတူ တရားနာယူရာ သဒ္ဓါပေါက်ကာ သုဘူတိသူကြွယ် ရဟန်းပြုခဲ့၏။

အရှင်သုဘူတိသည် ရဟန်းဖြစ်စ ရဟန်းကျင့်ဝတ် ပါတိမောက်အစုံကို သင်ယူပြီး နောက်ကမ္မဋ္ဌာန်း ဘာဝနာပွားများနည်းကို နာယူမှတ်သားကာ တောရ ခိုဝင်တော်မူသည်။ ပထမဆုံး ပွားများ အားထုတ်သည်မှာ မေတ္တာဘာဝနာဖြစ်၏။ ပြီးမှ မေတ္တာဈာန်ကို အခြေခံ၍ ဝိပဿနာရှုပွားကာ ရဟန္တာဖြစ်တော်မူသည်။

အရှင်သုဘူတိ၌ တေဒဂ်ရရန် ထူးခြားချက်နှစ်ရပ်ရှိ၏။ ပထမအချက်မှာ တရားဟောရာတွင် အခြားပုဂ္ဂိုလ်များကဲ့သို့ လောကီရေးရာ ရောထွေးကာ တစ်စုံ တစ်ဦးကို ရည်ညွှန်း၍ ဟောပြောခြင်းမရှိ၊ ဘုရားရှင်ဟောတော်မူသည့် နည်းအတိုင်း တသဝေ မတိမ်းလိုက်ပါ၍ မွှာမိဋ္ဌာန်ကျကျ ဟောပြောလေ့ရှိ၏။ 'အရဏ ဝိဟာရ' ခေါ် ကိလေသာ အာသဝေါ ကင်းဝေးသူတို့၏ နေနည်းစနစ်အရ အကောင်းဆုံးနှင့် အတိအကျ နှလုံးသွင်း နေထိုင်လေ့ရှိသောကြောင့်ဖြစ်သည်။

## အရှင်သုဘူတိ ဆွမ်းခံနည်း

ဒုတိယအချက်ကား မေတ္တာပွားများ (မေတ္တာဈာန်ဝင်စား)ရာ၌ နှစ်ပါးမရှိ ဝင်စားလေ့ရှိသည်။

အရှင်သုဘူတိ ဆွမ်းခံကြွသောအခါ အိမ်တစ်အိမ်ရှေ့ရပ်လျှင် ဦးစွာ မေတ္တာပွားများ၏။ မေတ္တာဈာန်ကို ရပ်တဲ့ပြီးမှ (ဈာန်သမာပတ်မှထ၍) အိမ်က ဆွမ်းကို အလှူခံတော်မူလေ့ရှိသည်။

"သုခိတာ ဟောထ=ကိုယ်စိတ်နှစ်ဖြာ ချမ်းသာကြပါစေ၊

ဒုက္ခာ မုစ္စထ=ဆင်းရဲခပ်သိမ်း ကင်းငြိမ်းကြပါစေ"

'ဤကဲ့သို့ မေတ္တာပွားများပြီးမှ ဆွမ်းအလှူခံရသော် အလှူ့ရှင် ဒါယကာ တို့အတွက် ပို၍အကျိုးကြီးမြတ်ပေလိမ့်မည်'ဟု ယုံကြည်တော်မူ၍ ဖြစ်သည်။ ဆွေမျိုး အသိုင်းအဝိုင်းမှ ဖဲခွာ၍ သာသနာဘောင်သို့ဝင်ကြရာ ပြည်သူတို့ ဆွမ်းကိုသာ သုံးဆောင်ကြရသဖြင့် ဆွမ်းဒကာလည်း အကျိုးများစေ၊ ဆွမ်းကြွေးလည်း မတင်စေရန် မေတ္တာကို အနည်းဆုံး လက်ဖျစ်တတွက် အချိန်လောက်ဖြစ်စေ ရဟန်းတော်တိုင်း ပွားများရမည့်အကြောင်း (ကေဂုံတ္တရ-အစ္ဆရာသဃာတသုတ်၌) ဟောတော်မူထားသည်နှင့် တစ်သားတည်း ကိုက်ညီသော ကျင့်ဝတ်ဖြစ်ပေသည်။

ဒါယကာတို့အတွက် ပို၍ အကျိုးကြီးမြတ်စေရန် ရည်ရွယ်၍ ဟောကြား ကျင့်သုံးတော်မူခြင်းဖြစ်၏။ ထို့ကြောင့်.....

"မေတ္တာဈာန်ဝင်စား၍ ဒါယကာတို့ အကျိုးများအောင် အလှူခံယူသူတို့တွင် အရှင်သုဘူတိမထေရ်သည် အမြတ်ဆုံး" တေဒဂ်ဘွဲ့နှင်းခြင်းခံယူရ၏။ 'အရဏဝိဟာရ'ဖြင့် မွှာမိဋ္ဌာန်ကျကျ ဟောပြနိုင်သူတို့တွင်လည်း အရှင်သုဘူတိ အမြတ်ဆုံးဟု မိန့်တော်မူကာ တေဒဂ်နှစ်ထပ် နှင်းအပ်ခြင်းခံရသည်။ (ဥပရိပဏ္ဏာသ အဋ္ဌကထာ အရဏ ဝိဘင်္ဂသုတ် အဖွင့် ၁၉၃-လည်းရှု)။

အရှင်သုဘူတိသည် သာသနာတော်၌ ထင်ရှားကျော်ကြားသူဖြစ်လာကာ အများသတ္တဝါတို့ကို ချီးမြှောက်ရန် ရာဇဂြိုဟ်ပြည်ဘက်သို့ ဒေသစာရီ ထွက်တော် မူ၏။

## မိုးမရွာ၍ မိုးနတ်သားအား မေတ္တာရပ်ခြင်း

အရှင်သုဘူတိ ရာဇဂြိုဟ်သို့ရောက်လျှင် ဘုရင်ဗိမ္ဗိသာရ လာရောက်ချဉ်းကပ်ပြီး "အရှင်မြတ် ဒီမှာပဲ သီတင်းသုံးတော်မူပါ"ဟု ကျောင်းဆောက်ရန် ရည်ရွယ်လျာထား၍ လျှောက်သွားသော်လည်း မေ့လျော့နေ၏။ ကျောင်းမဆောက်ဖြစ်။

မထေရ်လည်း ကျောင်းသင်္ခမ်းမရရှိဘဲ လွင်တီးခေါင် (လွင်ပြင်)၌သာ သီတင်း သုံးတော်မူနေရသည်။ ထိုအချိန်မှစ၍ မထေရ်၏ တန်ခိုးကြောင့် မိုးလုံးဝ မရွာသွန်းဘဲရှိနေ၍ တိုင်းသူပြည်သားများ ဆင်းရဲကာ နောက်ဆုံး (မိုးရွာမှု မရွာမှုသည် မင်းကို အကြောင်းခံသည်ဟု ယူမှတ်ထားကြသည့်အတိုင်း) နန်းတော်တံခါး၀၌ လာရောက် ဆန္ဒပြကြကုန်၏။

ရှင်ဘုရင်လည်း အကြောင်းကို ဆင်ခြင်သောအခါ 'မထေရ်မြတ်မှာ ကျောင်းသင်္ခမ်း မမိုး လွင်တီးခေါင်၌ သီတင်းသုံးနေရသဖြင့် မိုးနတ်သား မိုးမရွာသွန်းခြင်း ဖြစ်ပေလိမ့်မည်' ဟု စဉ်းစားမိကာ ထိုအခါမှ ကျောင်းဆောက်လှူရန် သတိရလေတော့သည်။ မထေရ်လည်း ထိုအခါမှစ၍ ဘုရင်လှူသော သစ်ရွက်မိုး ကျောင်းသင်္ခမ်းသို့ဝင်ကာ မြက်ခင်းနီးပေါ်၌ တင်ပျဉ်ခွေ၍ ထိုင်တော်မူလျှင်ပင် မိုးလည်း ခပ်ဖွဲဖွဲရွာစပြိုးလာ၏။ အရေကား မပါချေ။

မထေရ်လည်း မိုးခေါင်ရေရှား၍ သတ္တဝါများ ဒုက္ခရောက်နေကြသည်ကို သနား ကယ်မ,တော်မူလိုသဖြင့် မိမိအတွင်းအပြင်၌ သန့်စင်မြင့်မြတ်၍ ဥပဒ်ဘေးရန် အန္တရာယ် အခက်အခဲ မရှိပုံကို ဆင်ခြင်ကာ သစ်ရွက်မိုးကျောင်း အတွင်း မြက်ခင်းနီးပေါ် ထိုင်လျက်က အောက်ပါ ဂါထာကို ရွတ်ဆို၍ မိုးနတ်သားအား မေတ္တာစကား ကြားသိတော်မူစေလေသည်။

ရသစ်စ ကျောင်းကန်၊ မိမိသန္တာန်၌ရှိသော အရဟတ္တဂုဏ်၊ မိမိ ပွားထုံ စွဲမြဲလေ့ ရှိသော မေတ္တာ၊ ထိုအရာအားလုံးကို သိမ်းခြုံ၍ သစ္စာမေတ္တာဖြင့် မိုးအမိန့်တော် ပြန်လိုက်ခြင်းပင်တည်း။

### မိုးအမိန့်တော်ပြန်တမ်း

ဆန္နာ မေ ကုဋိကာ သုခါ နိဝါတာ၊
ဝဿ ဒေဝ ယထာသုခံ။
စိတ္တံ မေ သုသမာဟိတံ ဝိမုတ္တံ၊
အာတာပီ ဝိဟရာမိ ဝဿ ဒေဝ။

"အို.....မိုးနတ်သား၊ ချမ်းချမ်းသာသာ မိုးလုံလေလုံ သပ္ပာယ မျှတအောင် ငါ့ကျောင်းသခ်မ်းလည်း မိုး၍ ပြီးလေပြီ၊ သင် မိုးနတ်သား စိတ်တိုင်းကျ သဘော ရှိသလောက် မိုးပေါက်ရွာသွန်းလော့။

"အို.....မိုးနတ်သား၊ ငါ၏စိတ်သည်လည်း အရဟတ္တသမာဓိဖြင့် ကောင်းစွာ တည်ကြည်မှု ရှိသောကြောင့် သံယောဇဉ်အားလုံးမှ လွတ်မြောက်ခဲ့လေပြီ။

"ထိုသို့တပြီးကား 'ငါ့အား ပြုဖွယ်ကိစ္စ မရှိပြီ' ဟူ၍ ကြောင့်ကြမဲ့ မနေ၊ တစ်လောကလုံး ချမ်းသာစေလိုသော ဆန္ဒဖြင့် ဆွမ်းခံကြွရာကာလ ဗြဟ္မဝိဟာရကို အိမ်စဉ်ပွားခြင်း၌ ပြင်းပြထက်သန်သော လုံ့လဝီရိယထားကာ အမြဲနေထိုင်လေ့ ရှိပေ၏။

"ထို့ကြောင့် အသင် မိုးနတ်သားလည်း ငါ့အား မေတ္တာတုံ့ပြန်ပေးကာ သတ္တဝါတို့ကိုလည်း သနားသောအားဖြင့် မိုးကြီး သည်းထန်စွာ ယခုပင် ရွာသွန်း လေလော့။"

### တရားအင်အားကို အများအတွက် အသုံးချပုံ

ဤ၌ 'အရှင်သုဘူတိသည် မိမိဂုဏ်ကို ထုတ်ဖော်ခြင်းမဟုတ်၊ သာသနာတော် ၏ လွတ်မြောက်ရေးအတွက် အားထားရာကောင်းပုံနှင့် တရားတော်၏ အင်အားကို ဖော်ပြရန် မိန့်ဆိုခြင်းသာဖြစ်သည်' ဟူသော (ထေရဂါထာ အဋ္ဌကထာ) အာစရိယ ဓမ္မပလ၏ ဖွင့်ဆိုချက်အရ ဓမ္မဗလ = တရားအင်အား အသုံးချပုံကိုလည်း အတုယူ သင့်ကြပေသည်။ (အပဒါန်နှင့် အင်္ဂုတ္တရ အဋ္ဌကထာတို့၌လည်း ပါ၏။ မထူးလှချေ။)

လယ်တီဆရာတော်သည် ဟသ်ာတ တစ်နယ်လုံး နောက်မိုးမသိမ်း၍ လယ်ကေများစွာ ပျက်စီးကာ သတ္တဝါအများ ဆင်းရဲမည့်အရေးကို မြင်တော်မူ သည့်အတိုင်း (အင်္ဂလိပ် အရေးပိုင်ကြီး မက္ကဆွဲ၏ အကြံပေးချက်အရ ဟသ်ာတ ဒါယကာများ ပင့်လျှောက်သည်ကို လက်ခံ၍) မိုးနတ်သားကအစ အထူးမေတ္တာပို့ကာ အံ့ဩ လောက်အောင် မိုးကို ရွာသွန်းပေးခဲ့ဖူး၏။ သားစဉ်မြေးဆက်အတွက် မိုးအမိန့်တော်ပြန်တမ်းကိုလည်း ရေးသားချီးမြှင့်ခဲ့လေသည်။

တရားအင်အားကို အသုံးပြုခြင်းပင်တည်း။

တရားအင်အားကို မြင်တော်မူသည့်အတိုင်း ဝေဘူဆရာတော် ဘုရားကြီး ကလည်း သီလကအစ ဘုရားဟောတော်မူသည်များကို ခြွင်းချက်မရှိ ယုံယုံကြည်ကြည် ဝီရိယရှိရှိ လိုက်နာကြစေရန် ရည်သန်လျက် –

"တို့ဘုရားသာသနာက မိုးရွာအောင် လုပ်လို့လဲရတယ်၊ နေပူအောင်

လုပ်လို့လဲရတယ်၊ လူလာအောင် လုပ်လို့လဲဖြစ်တယ်၊ လူမလာအောင် လုပ်လို့လဲဖြစ်တယ်၊ သစ်ပင်ရှိရင် ဆွမ်းရှိတယ်။ မင်းတို့ ဘုရားကြည်ညို တာက မတွေ့တဲ့ သူငယ်ချင်းတစ်ယောက် အိမ်အလည်လာသလောက်မှ မင်းတို့ မလေးစားလို့ မင်းတို့မှာ ဘာအကျိုးထူးမှ မခံစားကြရဘူး"ဟူ၍ တပည့်ရင်းများကို ပွင့်ပွင့်လင်းလင်းကြီး မိန့်တော်မူဖူးလေသည်။

ဗုဒ္ဓလက်ထက်တော်က အရှင်သုဘူတိ၏ တရားအင်အား အသုံးပြုပုံကို ထောက်ဆ၍ မြန်မာနိုင်ငံ၌ ပေါ်ထွန်းခဲ့သော အရိယာ အရှင်မြတ်ကြီးတို့၏ အကြောင်းအားလျော်စွာ သတ္တဝါများအတွက် တရားအင်အား အသုံးပြုတော်မူ ကြသည်ကို ရိပ်စားမိကြရပေတော့သည်။

**တောကျောင်းကိုရင်ကလေး တရား**

အရှင်သာရိပုတြာ၏တပည့် သာမဏေကျော် တောကျောင်း ကိုရင်တိဿ (ဝနဝါ သီတိဿ)မှာလည်း ဆွမ်းခံသောအခါ အိမ်တိုင်းရှေ့၌ ...

"သုခိတာ ဟောထ = ဆင်းရဲခပ်သိမ်း ကင်းငြိမ်းကြပါစေ"ဟု အမြဲတမ်း ဝစီမေတ္တာ မြွက်ဆိုလေ့ရှိ၏။

ဝနဝါသီတိဿ သာမဏေအား ချီးမြှောက်ရန် မဟာသာဝကကြီးများ နောက်ပါ သံဃာ ငါးရာစီဖြင့် ကိုရင်တိဿ၏ တောကျောင်းကလေးသို့ ကြွလာ တော်မူကြရာ ကိုရင်တိဿအား မိဘသဖွယ် ဆွမ်းဝတ်ပြုနေကြသော ဂေါစရဂါမ် ရွာသားများမှာ ဝမ်းသာမဆုံး ရှိနေကြ၏။ နေဝင်မိုးချုပ်သွားသော်လည်း အိမ်သို့ မပြန်နိုင်၊ တောကျောင်းကလေးမှာ လူစုမကွဲဘဲရှိနေ၏။ အရှင်သာရိပုတြာက "မိုးချုပ်ပြီ ပြန်ကြတော့"ဟု မိန့်သော်လည်း တရားဟောရန် ဖွတ်တောင်းပန်ကြ၏။ အရှင် သာရိပုတြာက ကိုရင်တိဿအား တရားဟောရန် အမိန့်ချရာ ဒကာများက–

"အရှင်ဘုရား၊ တပည့်တော်တို့ ကိုရင်ဟာ 'သုခိတာ ဟောထ၊ ဒုက္ခာ မုစ္စထ' ကလွဲလို့ သည့်ပြင်တရား မဟောတတ်ပါဘူး၊ တခြား ဓမ္မကထိက တစ်ပါးပါးကိုသာ စေခိုင်းတော်မူပါဘုရား" ဟု လျှောက်ကြသည်။

**ပိဋကတ်သုံးပုံ ငုံမိသောတရား**

ကိုရင်တိဿသည် ပဋိသမ္ဘိဒါ လေးပါးနှင့်တကွ ရဟန္တာပင်ဖြစ်သော်လည်း တရားဟောပြောခြင်း မရှိခဲ့ချေ။ ဒကာ၊ ဒကာမများကလည်း အထင်သေးနေကြ သကဲ့သို့ရှိ၏။ အရှင်သာရိပုတြာက–

"ငါ့ရှင် 'သုခိတာ ဟောထ , ဒုက္ခာ မုစ္စထ' ဆိုတဲ့ စာပိုဒ်နှစ်ခုရဲ့အဓိပ္ပာယ်

ငါတို့တွေကို ပြောပြစမ်းပါဦး' ဟု မိန့်တော်မူလျှင် "မှန်ပါ အရှင်ဘုရား" ဟုဆိုကာ ယပ်ကြီးကိုကိုင်လျက် တရားဟောပလ္လင်ပေါ်တက်ကာ အကျယ်ချဲ့ထွင် ဟောကြားတော်မူ၏။

ကိုရင်တိဿသည် 'ချမ်းသာကြပါစေ၊ ဆင်းရဲကင်းကြပါစေ' အစိပ္ပာယ်ကို နိကာယ်ငါးရပ် ပိဋကတ်သုံးဖြာ ခန္ဓာအာယတန ဓာတ်သစ္စာ စသည်တို့ဖြင့် အကျယ်ဝေဖန်၍ တစ်ခဲနက် မိုးကြီး ထစ်ချုန်းရွာချသကဲ့သို့ အရဟတ္တဖိုလ် ဆိုက်အောင်ဟောပြလျက်–

"အရှင်ဘုရား၊ အရဟတ္တဖိုလ်သို့ ဆိုက်ရောက်သူမှသာ ချမ်းသာအပြည့် ရရှိနိုင်၍ ဒုက္ခအားလုံးမှလည်း လွတ်မြောက်ရသည် မည်ပါသည်ဘုရား၊ အရဟတ္တဖိုလ် မဆိုက်ရောက်ရသေးပါသမျှ ဇာတိ၊ ဇရာ၊ မရဏာမှအစ အပါယ်လေးပါး ဘေးကြီး အဆုံး ဒုက္ခတွေအားလုံး ဝိုင်းအုံလျက်သာ ရှိပါသေးတော့သည်ဘုရား" ဟု အရှင် သာရိပုတြာအား တရားနိဂုံးသတ် လျှောက်ထားရာ သာဓုခေါ်တော်မူလေသည်။

တရားဆုံးလျှင် အရုဏ်လည်း တက်၊ ဒကာ၊ ဒကာမများမှာ ရှေးက ဤသို့ ဟောတတ်မှန်းမသိ၍ ဝမ်းသာဝမ်းနည်း ရှိကြရလေ၏။ (ဓမ္မပဒ–၁၊ ၁၃၃–၅) အကျယ်ရှု။ "သီဟိုဠ်ခေတ် စံတော်ဝင် အရိယာများ" စာအုပ် မလိယဒေဝမထေရ် အကြောင်းကိုလည်း ရှုပါဦး။)

"သုခိတာ ဟောထ၊ ဒုက္ခာ မုစ္စထ" ဟူသော မေတ္တာစကားနှစ်ခွန်းသည် အဘယ်မျှ ခရီးတာသွားကြောင်း နားလည်အပ်ပေသည်။ ပိဋကတ်သုံးပုံကို ခြုံမိလေ၏။

ဗုဒ္ဓဝါဒ၏ အနှစ်သာရ၊ ပိဋကတ်သုံးပုံ၏ အမတေ (အမြုတေ)သည် မေတ္တာပင်တည်း။



### ၈။ မေတ္တသုတ်ပရိတ် ဦးစွာသင်ယူရသော ရဟန်းတော် ငါးရာ

'မေတ္တသုတ်ပရိတ်'ကို ပထမဆုံး သင်ယူ ကျက်မှတ်သူတို့ကား တောနေ ရဟန်းငါးရာတို့ ဖြစ်ကြကုန်၏။

ထိုရဟန်းငါးရာအကြောင်းသည် မေတ္တသုတ် ဖြစ်ပေါ်လာပုံ အကြောင်းပင် ဖြစ်၏။'မေတ္တသုတ်ပရိတ်ကို ရွတ်ဖတ်သူ၊ မေတ္တာပွားသူအား နတ်များ ချစ်ခင် စောင့်ရှောက်ကြသည်' ဟူသော မေတ္တာအကျိုး ၁၁–ပါးလာ သာဓကဲ ဝတ္ထုလည်း ဖြစ်သည်။

တစ်ဖန် မေတ္တာကမ္မဋ္ဌာန်းသည် ကမ္မဋ္ဌာန်း ၄၀–တွင် ဘေးရန် အကာအကွယ် ပေးလျက် နတ်များ ချစ်ခင်စောင့်ရှောက်ခြင်း ခံရရုံမျှမက 'တုဝဋ် သမာဓိယတိ = (မေတ္တာသည်) အမြန်ဆုံး သမာဓိ ရစေနိုင်သော ကမ္မဋ္ဌာန်းဖြစ်၍ မဂ်ဖိုလ်နိဗ္ဗာန်ကို အမြန်ဆုံး 'တွန်းအား' ပေးသောအလုပ် ဖြစ်ကြောင်း ထိုရဟန်းငါးရာက သက်သေပြတော်မူခဲ့လေသည်။

### တောစောင့်နတ်များ ရန်ငြိုးဖွဲ့ခြင်း

မြတ်စွာဘုရား သာဝတ္ထိပြည် ဇေတဝန်ကျောင်းတော်၌ သီတင်းသုံး တော်မူစဉ် ရဟန်းတော်ငါးရာတို့သည် မြတ်စွာဘုရားရှင်ထံ ကမ္မဋ္ဌာန်းတရား သင်ယူမှတ်သားပြီး နောက် သာဝတ္ထိနှင့် ယူဇနာတစ်ရာ ဝေးကွာ၍ ဟိမဝန္တာနှင့် စပ်နေသော

တောအုပ် တောင်ခြေစခန်းသို့ ကြွလှမ်းတော်မူခဲ့ကြလေသည်။

ထိုတောအုပ်၌ပင် ဝါကပ်ရန် ဆုံးဖြတ်ကြ၏။ မြင့်မားသော သစ်ကြီးဝါးကြီးများ နေပြောက်မထိုးအောင် ပေါက်ရောက်၍ သစ်ပင်အောက်ခြေ၌ ရှင်လင်းနေသည်။ မြေပြင် ပြန့်ပြူး၍ ပကတိ သဲအခင်းမှာ ပုလဲရောင် ငွေရောင် တောက်ပနေ၏။ စမ်းရေအိုင်များလည်း အသင့်ရှိ၍ ဆွမ်းခံရန် ရွာများလည်း မလှမ်းမကမ်းတွင် တည်ရှိနေကြ၏။ တောနေရဟန်းတို့အတွက် အသင့်မြတ်ဆုံးနေရာ ဖြစ်နေတော့သည်။

တောအုပ်နှင့် မလှမ်းမကမ်း ရွာများ၌ ဆွမ်းခံကြရာ ရွာသားများလည်း အလွန်ဝမ်းသာနေကြ၏။ ဝါဆိုရန်ပင် လျှောက်ထားတောင်းပန်၍ နေရာထိုင်ခင်း အပြည့်အစုံနှင့် ကျောင်းငါးရာ ဆောက်လှူကြလေသည်။ ရဟန်းတော် ငါးရာတို့လည်း ထိုတောအုပ်၌ ရောက်သည့်အချိန်မှစ၍ ကမ္မဋ္ဌာန်းတရားကို မအိပ်မနေ ကြိုးစား၏။ အကြောင်းတစ်စုံတစ်ရာရှိက အချက်ပေးရန် သစ်တစ်ပင်၌ 'ကျောက်စည်'ကိုလည်း ချိတ်ဆွဲထားကြသည်။

ရဟန်းတော်များ ကြွလာသဖြင့် လူဒကာများ ဝမ်းသာကြရသလောက် ထို တောအုပ်ရှိ ရုက္ခစိုးနတ်များမှာ ကလေးငယ်များကို ချီပိုး၍ ထွက်ပြေးတိမ်းရှောင် နေကြရရှာ၏။ ရဟန်းများ၏ သီလတန်ခိုးကြောင့် မိမိတို့ ဗိမာန်ထက်၌ မနေရဲ ကြသောကြောင့်ဖြစ်သည်။ 'ရဟန်းတော်များ ဘယ်တော့ ပြန်ကြွကြမလဲ' ဟု ခပ်လှမ်းလှမ်းကွယ်ရာမှ ချောင်းမြောင်းကြည့်ရှုနေကြ၏။ ပြန်ကြွနိုးနိုးဖြင့် စောင့်စားရင်း မြေကြီး၌ ဆင်းရဲစွာ နေထိုင်ကြရသဖြင့် စည်းဝေးတိုင်ပင်ကြသည်။ ဝါတွင်းသုံးလပတ်လုံး နေထိုင်ကြမည်ကို အကဲခတ် မိကြရာ အနှောင့်အယှက်ပေးရန် ဆုံးဖြတ်ကြလေသည်။

ရဟန်းတော်များ မအိပ်မနေ ကြိုးစားအားထုတ်ကြရာ ညအခါ၌ တောစိုးနတ်တို့သည် ကြောက်မက်ဖွယ်အသံများ၊ အနံ့များ၊ ကြောက်မက်ဖွယ် အဆင်းများဖြင့် ခြောက်လှန့်ကြသည်။ ခေါင်းမပါဘဲ ကိုယ်လုံးချည်း ထိုင်နေပုံ၊ ကိုယ်မပါဘဲ ခေါင်းချည်း လိမ့်လာပုံ စသည်တို့ကို မြင်ရကြားရသောအခါ ရဟန်းတော်များမှာ ကြောက်ရွံ့ ထိတ်လန့်လာကြ၏။ အစားပျက်၊ အအိပ်ပျက် ဖြစ်ကာ သတိမေ့မြောသူ မေ့မြော၍ ခေါင်းများ ချာချာလည်အောင် မူးနောက် အော့အန်သူ အော့အန်ကုန်ကြ၏။ ချောင်းဆိုးသူ ဆိုးကာ ရောဂါအမျိုးမျိုး အဖုံဖုံဖြင့် အသားအရေများ ကြုံလှီ ဖျော့တော့လာကြလေသည်။ (ယောဂီများ အထူးသတိပြုရန်။)

## ပရိတ်ကမ္မဋ္ဌာန်း

တစ်နေ့သောအခါ ရဟန်းတော်ငါးရာသည် ကျောက်စည်ထိုး၍ အချက်ပေးကာ ထုံးစံအတိုင်း သံဃမထေရ်ကြီးထံ ချဉ်းကပ်လာကြ၏။ မထေရ်ကြီးက .....

"ငါ့ရှင်တို့၊ သင်တို့တစ်တွေ ဤတောအုပ်သို့ရောက်စက အသားအရေများ အလွန်ကြည်လင် သပ္ပာယ်ကြတယ်၊ ယခုမူ အသားအရေ ဏ္ဍေ များ မကြည်မလင် မရွှင်မပျ၊ နွမ်းလျညှိုးချုံးနေကြတာ အဘယ်ကဲ့သို့သော သပ္ပာယ မမျှတမှုများ ရှိနေကြသလဲ ငါ့ရှင်တို့" ဟု မေးမြန်းတော်မူရာ ရဟန်းတော်များက အမျိုးမျိုးသော အခြောက်အလှန့်များကြောင့် စိတ်ပျံ့လွင့်ကာ သမာဓိ မရနိုင်ကြောင်း၊ အတွေ့အကြုံများကို အသီးသီး လျှောက်ထားကြသည်။

"ဤနေရာကား ငါတို့အတွက် သပ္ပာယ မမျှတ၊ အခြားမျှတသော တစ်နေရာရာကို ညွှန်ပြပေးတော်မူရန် ဘုရားရှင်ထံ သွားရောက်လျှောက်ထားကြစို့၊ ဒုတိယ ဝါကပ်နိုင်သည်ကိုလည်း ဘုရားရှင် ပညတ်ခွင့်ပြုတော်မူထားပြီး ရှိနေတယ်" ဟု မိန့်တော်မူ၏။ ရဟန်းတော်များအားလုံးလည်း မထေရ်ကြီး ဩဝါဒအရ ကျောင်းအိပ်ရာနေရာများ သိမ်းဆည်းကာ ဒကာ၊ဒကာမ များကို အသိမပေးတော့ဘဲ သာဝတ္ထိပြည်သို့ ဦးတည်ထွက်ခွာလာကြလေသည်။

ဘုရားရှင်ထံရောက်လျှင် ဘုရားရှင်က ဝါတွင်းသုံးလပတ်လုံး ဒေသစာရီ ခရီးမထွက်ရဟု ပညတ်ထားလျက် အဘယ့်ကြောင့် ခရီးထွက်လာကြရကြောင်း မေးတော်မူလျှင် အကြောင်းစုံ လျှောက်ထားကြ၏။ ဘုရားရှင်က အတန်ငယ် ဆင်ခြင်တော်မူရင်း–

"ငါ့ရှင်တို့၊ သင်တို့အတွက် သည်နေရာမှတစ်ပါး အခြားသပ္ပာယ မျှတသော ဋ္ဌာနမရှိ၊ သည်နေရာသည်သာ သင်တို့ အရဟတ္တဖိုလ် ရမည့်ဋ္ဌာနဖြစ်တယ်၊ ငါ့ရှင်တို့ ပြန်ကြ၊ အကယ်၍ တောစိုးနတ်တို့ ဘေးရန်က ကင်းလွတ်လိုလျှင် ဤမေတ္တသုတ် ပရိတ်တော်ကို သင်ယူသွားကြ၊ ဤမေတ္တသုတ်သည် သင်တို့အတွက် ဘေးရန် အကာအကွယ်(ပရိတ်) လဲဖြစ်တယ်။ ကမ္မဋ္ဌာန်းလဲ မည်တယ်၊ ဝိပဿနာ အခြေခံ ဈာန်တရားလဲ ဟုတ်တယ်၊ ဒါ သင်တို့အတွက် လက်နက်ပဲ" ဟု မိန့်တော်မူကာ 'ကရဏီယ မတ္ထကုသလေန' စသော မေတ္တသုတ် ပရိတ်တော်ကို ဟောကြားသင်ပြပေးတော်မူသည်။

### ကမ္မဋ္ဌာန်းရှေ့ပြေး မေတ္တာအပြန်အလှန်ပွားပုံ

ပထမဆုံး နိဗ္ဗာန်ချမ်းသာကို ရရှိမျက်မှောက်ပြုလိုသော ယောဂီတိုင်း ထားရှိရမည့် ကမ္မဋ္ဌာန်းအခြေခံ ၁၅–ချက်ကို ဟောပြတော်မူရာတွင်–

'နစ ခုဒ္ဒ' မာစရေ ကိဉ္စိ၊
ယေန ဝိညူ ပရေ ဥပဝဒေယျုံ =

"ရဟန်းတို့၊ ပညာရှိတို့ ကဲ့ရဲ့စရာဆို၍ မည်မျှသေးငယ်သော ကိုယ်၊ နှုတ်၊ စိတ် ဒုစရိုက်ကလေးကိုသော်မျှ မကျူးလွန်ကြနှင့်" ဟု သီလအချုပ်ဖြင့် နိဂုံးအုပ် ဆုံးမ မှာကြားတော်မူ၏။

"သုခိနောဝ ခေမိနော ဟောန္တု၊
သဗ္ဗသတ္တာ ဘဝန္တု သုခိတတ္တာ =

"သတ္တဝါအားလုံး ကိုယ်စိတ်နှစ်ဖြာ ချမ်းသာကြပါစေ၊ ဘေးရန် ခပ်သိမ်း ကင်းငြိမ်းကြပါစေ" (သုခိနော=ကိုယ်ချမ်းသာ၊ သုခိတတ္တာ = စိတ်ချမ်းသာ၊ ခေမိနော=ဘေးရန်ကင်း။)

မေတ္တာဘာဝနာကိုလည်း ဤသို့အကျဉ်းချုပ် ပွားများနည်းနှင့်တကွ အစုံအစုံ ပွားများနည်းကိုပါ သင်ပြတော်မူလေသည်။ (အခန်း–၆ ဗြဟ္မဝိဟာရ အဖွင့်၌ အကျယ်ပြလတ္တံ့။)

"န ပရောပရံ နိကုဗ္ဗေထ၊
နာတိမညေထ ကတ္ထစိ နံ ကဲစိ။
ဗျာရောသနာ ပဋိဃသညာ၊
နာ'ညမညဿ ဒုက္ခ' မိစ္ဆေယျ=

"တစ်ယောက်က တစ်ယောက်ကို မကောက်ကျစ် မစဉ်းလဲပါစေနှင့်။ မည်သည့်နေရာ၊ မည်သည့်ကိစ္စ၌မဟူ သူတစ်ထူးကို ကျူးလွန်နှိပ်ချကာ မထေမဲ့မြင် မပြုပါစေနှင့်။ ကိုယ်နှုတ်တို့ဖြင့် ချုပ်ချယ်စောင်းမြောင်းခြင်း၊ ထိခိုက်ထိပါး ကျူးကျော်စော်ကားခြင်းတို့ဖြင့် အချင်းချင်း (တစ်ဦးနှင့်တစ်ဦး) ဒုက္ခရောက်မည်ကို မလိုလား၊ မတောင့်တပါစေနှင့်။"

မေတ္တာကို ပွားများရာ၌ ချမ်းသာကြီးပွားလိုသောစိတ်ထား ရှိရုံမျှမက အထက်ပါအတိုင်း အပြန်နည်းအားဖြင့် ချမ်းသာကြီးပွားမဲ့ခြင်းမျိုး မဖြစ်စေလိုသော စိတ်ထားကိုလည်း ပွားများရန် သင်ပြပေးတော်မူ၏။ နောက်ဆုံး သတ္တဝါအနန္တ အပေါ်၌ မိခင်သည် တစ်ဦးတည်းသောသားကို အသက်နှင့်လဲ၍ ချစ်မြတ်နိုးသကဲ့သို့ မြတ်နိုးတတ်ရန် ဆုံးမဟောကြားတော်မူသော မေတ္တာသုတ် ပရိတ်တော်ကို နှုတ်တက် အာဂုံရအောင် ဆောင်စေတော်မူလေသည်။

"ချစ်သားတို့၊ ဤမေတ္တာသုတ် ပရိတ်တော်ကို ဤဓေတဝန်ကျောင်း အလွန် တောစပ်မှစ၍ သင်တို့နေရာ တောအုပ်ကျောင်းအထိ ရွတ်ဖတ် သရဇ္ဈာယ်၍ သွားကြကုန်လော့၊ စိတ်ဖြင့်လည်း ကြိမ်ဖန်ထပ်ထပ်

ပွားများကြကုန်လော့၊ ကျောက်စည်ထိုး အချက်ပေးကာ ရှစ်ရက်တစ်ကြိမ် စည်းဝေး၍လည်း စုပေါင်းသရဇ္ဈာယ်ကြ၊ ဆွေးနွေးကြ၊ ကြိမ်ဖန်များစွာလည်း ပွားများကြ။"

## မေတ္တာအစွမ်း အေးချမ်းသာယာ

ရဟန်းတော်ငါးရာသည် ဘုရားရှင်အားကန်တော့၍ မေတ္တာသုတ်ပရိတ်တော်ကို နှုတ်ဖြင့် ရွတ်ဖတ်၍ လည်းကောင်း၊ စိတ်ဖြင့် ပွားများ၍လည်းကောင်း ဇေတဝန် ကျောင်းအထွက်မှစ၍ လေ့ကျက်လာခဲ့ကြရာ တောအုပ်ကျောင်းသို့ ရောက်လျှင် ကျောင်းဝင်းအပြင်၌လည်း ရပ်တန့်ကာ စုပေါင်း၍ ရွတ်ဖတ်ကြလေသည်။

ထိုအခါ တောစောင့်နတ်များသည် ရန်မမူကြသည့်အပြင် ဘာသိဘာသာ မနေကြတော့၊ သူ့ထက်ငါ ခရီးဦးကြိုဆိုကာ သပိတ်၊ သင်္ကန်းလှမ်းယူသူကယူ၏။ နေရာထိုင်ခင်း ပြင်ဆင်သူက ပြင်ဆင်၏။ နောက်ဆုံး တံမြက်လှည်း၊ ရေနွေးကျို၊ သောက်ရေခပ်ကာ နင်းနှိပ်ပေးသူက ပေးကြလေ၏။ တောအုပ်ကျောင်းဝင်းမှစ၍ အစစအရာရာ လုံခြုံရေးတာဝန်ကိုပါ ကိုယ်စီယူကြ၊ စောင့်ရှောက်ကြလေ၏။

ရဟန်းတော်ငါးရာသည် ထိုတောအုပ်ကျောင်း၌ ဒုတိယဝါဆိုကာ မေတ္တာကမ္မဋ္ဌာန်းကို ပင်တိုင်ကမ္မဋ္ဌာန်းအဖြစ် နှလုံးသွင်းကြသည်။ အနှောင့်အယှက်တစ်စုံတစ်ရာမျှ မတွေ့ရဘဲ ချမ်းမြေ့တည်ငြိမ်စွာ နေထိုင်တော်မူကြရ၏။ သမာဓိများလည်း တစ်နေ့တခြား တိုးတက်၍လာကြ၏။

## မေတ္တာကြောင့် ရဟန္တာဖြစ်

တစ်နေ့သောအခါ ရဟန်းတော်များအားလုံး ကျောက်စည်ထိုး အချက်ပေးကာ စည်းဝေးကြပြီးနောက် မေတ္တာသုတ် ပရိတ်တော်ကို စုပေါင်းရွတ်ဆို ဆွေးနွေးကြ၏။ အသီးသီး မေတ္တာကမ္မဋ္ဌာန်းကို စီးဖြန်းကြသည်။

ထိုသို့ စီးဖြန်းကြခိုက် မေတ္တာဈာန်ဝင်စားရာမှ မိမိတို့၏ ခန္ဓာကိုယ် ရုပ်နာမ်များကို လက္ခဏာရေးသုံးပါး ထင်သည့်အတိုင်း ရှုဆင်ခြင်မိကြရာ (မေတ္တာဈာန်မှထ၍ ဝိပဿနာ ရှုပွားကြရာ) မိမိတို့၏ ခန္ဓာကိုယ်ကြီးသည် မြေအိုးမြေခွက်ပမာ တစ်စုံတစ်ရာ ခိုင်မာမှု အနှစ်သာရ မရှိပုံကို ဉာဏ်၌ ပေါ်လွင်နေကြ၏။ ထိုသို့ စူးစိုက်ရှုမှတ်နေကြစဉ် တောရကျောင်းအတွင်း၌ ရောင်ခြည်တော်များ ကွန့်မြူးကာ မြတ်စွာဘုရားရှင်၏ ကြည်လင်အေးမြသော တရားတော်သံကို ကြားနာကြရသဖြင့်

မျက်စိအစုံကို ဖွင့်ပြီး ကြည့်မိကြလေသည်။

ဘုရားရှင်သည် ယူဇနာတစ်ရာ ဝေးကွာသော ဇေတဝန်ကျောင်းတော်မှ နေ၍ တန်ခိုးတော်ဖြင့် ကိုယ်ထင်ရှားကြွလာ ဟောပြတော်မူသကဲ့သို့ ချီးမြှောက်တော်မူရာ ရဟန်းတော်ငါးရာလည်း ကြဲ့ကြဲ့ကလေးထိုင်ကာ ဝမ်းသာအားရ တရားနာယူကြသည်။

"ကုမ္ဘူပမံ ကာယ'မိမံ ဝိဒိတွာ၊
နဂရူပမံ စိတ္တ'မိဒံ ဌပေတွာ၊
ယောဓေထ မာရံ ပညာဝုဓေန၊
ဇိတဉ္စ ရက္ခေ အနိဝေသနော သိယာ ="

"ချစ်သားတို့၊ ဤခန္ဓာကိုယ်ကြီးကို အခိုင်အမာ အနှစ်သာရ ဘာမျှမရှိသော မြေအိုးပမာ သိမြင်လျက် ဝိပဿနာစိတ်ကို ပစွင်ပြအိုး မြို့ရိုးကျုံးတို့ဖြင့် ခိုင်ခံ့သော မြို့တော်ပမာ ကြံ့ကြံ့တည်စေ၍ ဝိပဿနာဉာဏ်ပညာလက်နက်ဖြင့် ကိလေသာရန်ကို ထိုးနှက်ကြကုန်လော့။

"ကြိုးကြားကြိုးကြား မေတ္တာရျာန်ဝင်စား၍ မေတ္တာရျာန်မှ ထ,ကာ သင်္ခါရတရားတို့ကို ရှုဆင်ခြင်သောအားဖြင့် ရရှိအောင်မြင်ပြီးသော တရုဏဝိပဿနာကို ထက်သန်ကြီးပွားအောင် စောင့်ရှောက်ကြကုန်လော့၊ ရရှိပြီး မေတ္တာရျာန်သမာပတ်ကို ကပ်ငြိတွယ်တာ၍ မနေကြကုန်လင့်။"

ရဟန်းတော်ငါးရာတို့သည် ထိုနေရာ၌ပင် ပဋိသမ္ဘိဒါ လေးပါးနှင့်တကွ ရဟန္တာဖြစ်တော်မူကြ၏။ ဘုရားရှင်၏ ဂုဏ်ကျေးဇူးတို့ကို ချီးကျူးကာ ပဝါရဏာပြုရန် ဘုရားရှင်ထံ ပြန်လည်ကြွလာကြသည်။ (ခုဒ္ဒက၊ သုတ္တနိပါတ် နှင့် ဓမ္မပဒ အဋ္ဌကထာ-၁၊ ၁၉၉-တို့ကို စုစည်း၍ ဖော်ပြလိုက်သည်။)

## ပါးစပ်က ရွတ်ဆိုနေရုံမျှနှင့် ကိစ္စမပြီး

ယောဂီတို့၌ တစ်စုံတစ်ရာ အခက်အခဲ အနှောင့်အယှက် ရှိသည်ဖြစ်စေ၊ မရှိသည်ဖြစ်စေ မေတ္တာဘာဝနာကို နေ့စဉ်ပွားများသင့်ကြ၏။ အခက်အခဲ ရှိပါမူကား 'မူလကမ္မဋ္ဌာန်း' ကိုပင် စွန့်လွှတ်၍ ရက်လများစွာ မေတ္တာဘာဝနာတစ်ခုတည်းကိုသာ 'ပင်တိုင်ကမ္မဋ္ဌာန်း' အဖြစ် ရှုပွားသင့်ပေသည်။

မေတ္တာသည် စွယ်စုံအကျိုးကြီးသော ကမ္မဋ္ဌာန်းဖြစ်၍ မထေမဲ့မြင် မပြုကြရာ၊ တစ်နှစ်ရှုမှတ်မှ တရားထူးရမည့်သူ၌ အာနာပါနစသော မူလ ကမ္မဋ္ဌာန်းကိုချည်း တစ်နှစ်ပတ်လုံး ရှုရမည်မဟုတ်။ ၁၁-လခွဲ မေတ္တာပွားများ၍ မူလကမ္မဋ္ဌာန်းကို လဝက်မျှ ရှုမှတ်ရုံနှင့်လည်း ပြီးမြောက်နိုင်လေသည်။ ဤကား ယေဘုယျဥပမာ

**မေတ္တာဝါဒ (ဗြဟ္မဝိဟာရအဖွင့်)**

ဖြစ်ပါ၏။

စင်စစ် 'မေတ္တာဈာန် ဝင်စားရင်း မေတ္တာဈာန်မှ ထကာ ဝိပဿနာ ကူးပြောင်း ရှုမှတ်ရသည်' ဖြစ်ရာ မေတ္တာနှင့်ဝိပဿနာကို လွန်းထိုး၍ ရှုမှတ်သွားပါလျှင်လည်း လိုရာကိစ္စကို ပို၍ချောမော အောင်မြင်စေသည်မှတစ်ပါး ယုံမှားစရာ မရှိသင့်ပေ။

ဤသို့ မေတ္တာသုတ်ပရိတ်တော်ကို ရွတ်ဆိုရုံမျှဖြင့် ကိစ္စမပြီး။ စိတ်ကပွားများမှုသာလျှင် ပဓာနဖြစ်၍ လိုရာကိစ္စပြီးနိုင်မည်ကို အထူးမှတ်ယူကြရာ၏။

☆

၉။ မေတ္တာရှာန့်ဝင်စားသော ကိုရင်ကလေး

မြတ်စွာဘုရား သာဝတ္ထိပြည် ဇေတဝန်ကျောင်းတော်၌ သီတင်းသုံးတော်မူစဉ် သတို့သား သုံးကျိပ်တို့သည် ဘုရားရှင်ထံ တရားနာယူအပြီး ရဟန်းပြုကြ၏။

ရဟန်းတော်သုံးကျိပ်တို့သည် ငါးဝါအရ ဘုရားရှင်ထံမှ ကမ္မဋ္ဌာန်းယူပြီး တောတောင်တို့၌ သွားရောက်၍ တရားအားထုတ်ရန် လျှောက်ထားကြရာ.....

"ချစ်သားတို့၊ သင်တို့ နောင်တော်ကြီး သာရိပုတြာကို ဝင်တွေ့ ကန်တော့ပြီးမှ သွားကြ" ဟု မိန့်တော်မူသဖြင့် အရှင်သာရိပုတြာထံ ဝင်ရောက်ကန်တော့ကာ အကျိုးအကြောင်း လျှောက်ထားကြ၏။ အရှင်သာရိပုတြာလည်း 'မြတ်စွာဘုရား စေလွှတ်လိုက်သည်ဆိုခြင်းမှာ အကြောင်းထူး တစ်စုံတစ်ရာ ရှိပေလိမ့်မည်' ဟု ဆင်ခြင်တော်မူကာ-

"ငါ့ရှင်တို့၊ သင်တို့မှာ ကပ္ပိယ သာမဏေကော ပါကြရဲ့လား"ဟု မေးမြန်းတော်မူရာ မပါရှိကြောင်း လျှောက်ထားကြသည်။ အရှင်သာရိပုတြာလည်း အနီးရှိ မိမိတပည့် သာမဏေယ်ကို ညွှန်ပြကာ-

"ဒီလိုဆိုလျှင် ငါ့ရှင်တို့ ဤမောင်ရင်ကလေး 'သံကိစ္စ'ကို ခေါ်ဆောင်သွားကြ။"

"အရှင်ဘုရား၊ တောနေရဟန်းတို့အတွက် အခိုင်းအစေ သာမဏေယ် မရှိသော်လဲ အရေးမကြီးလှပါ၊ သူ့အတွက် တပည့်တော်တို့မှာသာ ကြောင့်ကြမှု တာဝန်ပိုဖွယ်ရာ ရှိပါမယ်ဘုရား။"

"မဟုတ်ဘူး ငါ့ရှင်တို့၊ သူ့အတွက် သင်တို့မှာ ကြောင့်ကြမှု တာဝန် ပိုမတက်ဘူး၊ သူ့မှာသာ သင်တို့အတွက် ကြောင့်ကြမှုတာဝန် ပိုတက်စရာ ရှိတယ်၊ ဒီအတွက် ဘုရားရှင်က မြင်တော်မူလို့ သင်တို့ကို ငါ့ထံသို့ ဝင်တွေ့သွားရန် မှာကြားတော်မူတာပဲ၊ ခေါ်သာခေါ်သွားကြ ငါ့ရှင်တို့။"

## သာမဏေကျော် သံကိစ္စ

ရဟန်းတော်သုံးကျိပ်တို့လည်း သာမဏေ ရှင်သံကိစ္စကို ခေါ်ဆောင်ကာ ဦးချပြီး ဇေတဝန်ကျောင်းတော်မှ ထွက်ခွာ၍ ၂၁-ယူဇနာ ဝေးသော အိမ်ခြေ တစ်ထောင်ရှိ တောရ ဂါမ‌ရဂါမ်ရွာကြီးဆီသို့ ကြွချီတော်မူကြသည်။

ရှင်သံကိစ္စကား သာမဏေကျော် တစ်ပါးဖြစ်၏။ သာဝတ္ထိပြည်သား သူကြွယ်မျိုးဖြစ်သည်။ သာမဏေလောင်းလျာ ကိုယ်ဝန်အရင့်အမာနှင့် မိခင် ကွယ်လွန်၍ မီးရှို့သောအခါ တစ်ကိုယ်လုံး လောင်းကျွမ်းသွားသော်လည်း မိခင် ဝမ်းဗိုက်မှာ မီးမစွဲဘဲ ကျန်ရှိနေသဖြင့် တံစူးဝါးဖြင့် နှစ်နေရာ၊ သုံးနေရာ ထိုးဆွပြီး မီးကျီးအုံ၍ ပစ်ထားခဲ့ကြ၏။ မီးရှို့သမားတို့သည် နောက်တစ်ရက် မီးငြိမ်းသတ်ရန်အလာ မီးကျီးပုံပေါ်၌ ချမ်းသာစွာ လျောင်းစက်နေသော ရုပ်လက္ခဏာ ထူးခြားသည့် သူငယ်ကို တွေ့မြင်ကြရသည်။အလွန် ထူးဆန်း အံ့ဩခြင်းဖြစ်ကာ ရွာသို့ယူဆောင်၍ နိမိတ်ဖတ်ဆရာကို မေးမြန်းကြ၏။ နိမိတ်ဖတ်ဆရာက .....

"ဤသူငယ်သည် ကြီးပြင်းသောအခါ လူ့ဘောင်၌နေလျှင် ဆွေခုနစ်ဆက် မျိုးခုနစ်ဆက် ဆင်းရဲမွဲတေလိမ့်မည်။ ရဟန်းပြုလျှင် အခြံအရံ ရဟန်းငါးရာနှင့် သွားလာလှည့်လည်လိမ့်မည်" ဟု ဟောကိန်းထုတ်လိုက်၏။

ဆွေမျိုးများက ပြုစုစောင့်ရှောက်ထားကြရာ သိနားလည်သော အရွယ် ရောက်လျှင် မိမိ၏ဘဝ ဖြစ်ကြောင်းစုံသိရသည်နှင့် သံဝေဂဖြစ်ကာ ခုနစ်နှစ်သား အရွယ်တွင် အရှင်သာရိပုတြာထံ ရှင်သာမဏေပြု၏။ မောင်သံကိစ္စသည် 'ကေသာ, လောမာ, နခါ, ဒန္တာ, တစော' ဟူသော ကာယာနုပဿနာ, တစပဉ္စက ကမ္မဋ္ဌာန်း ကို ရွတ်ဆိုနှုတ်ငုံသွင်းရာ ရှင်ပြုရန် ဆံချရင်းက ပဋိသမ္ဘိဒါလေးတန်နှင့်တကွ ရဟန္တာ ဖြစ်တော်မူသွား၏။

## ကပ္ပိယကြီးကြောင့်

ရဟန်းတော်သုံးကျိပ်တို့လည်း သတ်မှတ်ထားသော တောသို့ ရောက်သော အခါ ဂါမ‌ရဂါမ် ဒကာ၊ ဒကာမများကလည်း ကျောင်းကန်များ စီမံလျှောက်ထား ကြသဖြင့် ထို၌ ဝါကပ်ရန် ဆုံးဖြတ်ကြ၏။ ဝါဆိုကြသောနေ့တွင် .....

"ငါ့ရှင်တို့၊ ငါတို့ဟာ ဘုရားရှင်ထံက ကမ္မဋ္ဌာန်းယူလာကြပြီး ပေါ့ပေါ့ဆဆ နေလို့မဖြစ်ဘူး၊ ငါတို့မှာ ဘုရားရှင်အား ပဋိပတ်တရား အလုပ်နှင့် ပူဇော်တာ ကလွဲလို့ တခြားနည်း မရှိဘူး၊ ဒီတော့ ဆွမ်းခံချိန်၊ မထေရ်ကြီးထံ ချဉ်းကပ်ကြတဲ့ အချိန်ကလွဲလို့ ကျန်တဲ့အချိန်မှာ တစ်နေရာတည်း နှစ်ပါးမနေကြစတမ်း၊ ကိစ္စအထူးရှိလျှင် ကျောက်စည်ထိုး၍ အချက်ပေးစတမ်း"ဟု အချင်းချင်း ကတိကဝတ်ထားကာ ကမ္မဋ္ဌာန်းတရား ရှုပွားကြသည်။

ရဟန်းတော်များသည် ဆွမ်းခံရာမှအပြန် လမ်းခုလတ်မြစ်ဆိပ်၌ ရေမိုးချိုးပြီးမှ သဲသောင်ပြင်၌ ဆွမ်းဘုဉ်းပေးလေ့ရှိကြသည်။ တစ်နေ့တွင် သမီးအိမ်ထောင်သည်များကို မှီခိုစားသောက်နေရသော ဒကာကြီးတစ်ဦးသည် သမီးများအိမ် လှည့်ပြောင်းကာ ဝမ်းကျောင်းနေရသော်လည်း ဝဝလင်လင် မစားရသဖြင့် ရဟန်းတော်များ ဆွမ်းစားရာအနီးသို့ ခရီးကြုံရောက်လာ၏။ ဆာလောင်မွတ်သိပ်စွာ ကြည့်နေရှာသည်ကိုမြင်သဖြင့် ရဟန်းတော်များက သူ့အား ဖက်ရွက်ကြီးတစ်ရွက် အခူးခိုင်းကာ တစ်ပါးလျှင် ဆွမ်းတစ်လုပ်ကျစီ ဟင်းနှင့်နယ်ဖတ်၍ ပေးစွန့်ကြ၏။

မွန်မြတ်သောအစာများကို စားပြီးလျှင် အလှူအတန်း တစ်ခုခုက ကြွလာကြသည်ဟုပင် ယူဆကာ မေးလျှောက်ရာ အလှူကြီး အတန်းကြီး မရှိ၊ နေ့စဉ်ပင် ထိုသို့ လောင်းလှူကြကြောင်း မိန့်တော်မူသည်ကို ကြားရသောအခါ သမီးများထံ မသွားလိုတော့ဘဲ သံဃာ့အလုပ်အကျွေး လုပ်နေရန် ခွင့်တောင်းလေ၏။ ရဟန်းတော်များထံ ဝတ်ကြီးဝတ်ငယ်ပြုရင်း နေလာခဲ့ရာ နှစ်လခန့်ရှိလျှင် 'ကျောင်းဆိုယစ်'ကာ ဝဖြိုးလာ၏။ သားသမီးများကိုလည်း တွေ့ချင်နေ၏။ ရဟန်းတော်များကို လျှောက်ထားလျှင်လည်း ခွင့်ပြုချင်မှပြုမည် အထင်ဖြင့် မလျှောက်ထားဘဲ 'စားကြွင်းစား' ဒကာကြီးသည် တောရကျောင်းမှ တိတ်တဆိတ် ထွက်သွားတော့သည်။

## နွားပိန်ထူ လူဇွေ့

ထိုကပ္ပိယကြီးသမီးထံ သွားရမည့်လမ်းခရီးအကြား၌ တောအုပ်ကြီး ခြားလျက်ရှိရာ ထိုတောတွင်း၌ ခိုးသားငါးရာ ခိုအောင်းလျက်ရှိသည်။ ခိုးသားတို့သည် တောစောင့်နတ်မင်းအား လူ၏အသွေးအသားတို့ဖြင့် ယဇ်ပူဇော်ရန် ခုနစ်ရက်တိုင်တိုင် လူရှာ၍ မရနိုင် ရှိနေကြ၏။ ခေါင်းဆောင်မှာ သစ်ပင်ထိပ်ဖျား တက်၍ပင် လူသွား လူလာ စောင့်ကြည့်နေခိုက် ထိုဒကာကြီး ရောက်လာ၍ ဝိုင်းဝန်းဖမ်းဆီးကြသည်။ မီးပုံကြီးထည့်ကာ လူကို ထိုးသတ်ကင်ရန် တံကျင်များ ပြုလုပ်နေသည်ကိုမြင်၍

အကြောင်းစုံ ပြောဆို ကြားသိရသောအခါ ထိုဒကာကြီးမှာ သဘောမလွတ်ရန် ဉာဏ်ဆင်၍–

"အမောင်တို့၊ ကျွန်ုပ်ဟာ ထမင်းကျန် ဟင်းကျန်စားရတဲ့ စားကြွင်းစား လူယုတ်ပါ၊ ဟိုတောထဲမှာ ခတ္တိယမင်းသားက ရဟန်းဝတ်လာကြတဲ့ ရဟန်း သုံးဆယ့်တစ်ဦးရှိပါတယ်၊ ထိုသူမျိုးကိုသတ်၍ ယဇ်နတ်ပူဇော်ရလျှင် သင်တို့ အရှင်သခင် နတ်မင်းကြီး ပို၍ ကျေနပ်ပါလိမ့်မယ်" ဟု ပြောဆိုကာ ခိုးသားများအား တောရကျောင်းသို့ ခေါ်ဆောင် လမ်းညွှန်လေသည်။

"နွားပိန်ထူ လူဇေ့" ဟူသကဲ့သို့ သနား၍ စောင့်ရှောက်ကျွေးမွေးထား သူများကပင် သူတော်ကောင်းများအား ဒုက္ခပေးတတ်ကြ၏။ တရားအင်အား ခေါင်းပါး အားနွဲ့သူများနှင့် အတူနေကြရသော ယောဂီတို့ သတိပြုရန်ဖြစ်သည်။ ထိုလူမျိုး၏ စေတနာဖြင့် ကူညီစောင့်ရှောက်မှုသည်ပင်လျှင် ယောဂီအား ကြီးစွာသော အနှောင့်အယှက်ကြီးဖြစ်တတ်သည်။

ရဟန်းတော်များလည်း သင့်လျော်ရာ၌ အသီးအသီး တရားရှုမှတ် နေကြရာ ရတ်တရက် ရဟန်းတော်များကို မတွေ့မြင်ရသဖြင့် ခိုးသူကြီးက "ဘယ်မှာလဲ ရဟန်းတွေဆိုတာ"ဟု မေးလျှင် လျှို့ဝှက်အချက်ပေးသော ကျောက်စည်အကြောင်း ကိုပါ ထုတ်ဖော်ညွှန်ပြ၍ ကျောက်စည်ထိုးလိုက်ရာ ရဟန်းတော်များ ဟိုမှသည်မှ ကြွလာတော်မူကြရ၏။ ကျောင်းဝင်းအလယ်ရှိ ကျောက်ဖျာကြီးပေါ်၌ စည်းဝေး တော်မူလာကြသည်။

သံဃာ့မထေရ်ကြီးက မည်သူ့, မည်သည့်အတွက် ကျောက်စည်ထိုးကြောင်း မေးတော်မူ၍ ခိုးသူကြီးက ယဇ်ပူဇော်ရန် ရဟန်းတစ်ပါး အလိုရှိကြောင်း ပြောသည်ကို ကြားသိတော်မူလျှင်.....

"ငါ့ရှင်တို့၊ ညီတော်နောင်တော်အားလုံးနှင့်စပ်၍ ဖြစ်ပေါ်လာသော ကိစ္စ မှန်သမျှ ငါနောင်တော်ကြီးမှာ တာဝန်ရှိတယ်၊ ငါ သင်တို့ကိုယ်စား အသက်စွန့်ရန် လိုက်ပါသွားမယ်၊ အားလုံးရဲ့ အန္တရာယ် မဖြစ်သင့်ဘူး၊ စိတ်ချမ်းသာ ကိုယ်ချမ်းသာနဲ့ ရဟန်းတရားကိုသာ ကြိုးစားအားထုတ်ရစ်ကြပါ" ဟု မိန့်မှာတော်မူ၏။

## သံဃာအတွက် အသေခံမည့် သံကိစ္စ

ကျန်ရဟန်းများကလည်း "နောင်တော်၏ ကိစ္စဟူသည် ညီငယ်၏ တာဝန်သာ" ဟု အသီးသီး ပြောဆိုတားမြစ်ကာ "ငါသာလျှင် အသေခံမည်" ဟုချည်း တညီတညွတ်တည်း ပြောဆိုလာကြသည်။ ထိုသို့ တစ်ပါးပြီးတစ်ပါး ပြောဆိုကန့်ကွက် လုယက်တောင်းဆိုသည်ကို မြင်နေရသော သံဃာ့ပရိသတ်

အစွန်းမှ သံကိစ္စ သာမဏေငယ်သည် သက်န်းကို လက်ကတော့တင်ကာ နေရာမှ ထလျက်–

**သာမဏေ–** လျှောက်ထားပါရစေဘုရား၊ အရှင်ဘုရားများ အားလုံး သည်းခံတော်မူကြပါ၊ တပည့်တော်သာလျှင် အရှင်ဘုရားတို့အတွက် အသက်စွန့်ရန် လိုက်ပါသွားပါရစေ။

**ရဟန်းများ–** မဟုတ်ဘူး ငါ့ရှင်၊ သင့်ကို ထည့်လို့မဖြစ်ဘူး၊ တို့တစ်တွေ အားလုံးဟာ သေချင်သေသွားပါစေ၊ သင့်ကိုထည့်လို့ မဖြစ်ဘူး။

**သာမဏေ–** ဘာ့ကြောင့်ပါလဲ ဘုရား။

**ရဟန်းများ–** ငါ့ရှင်၊ သင်ဟာ ငယ်သော်လည်း တရားစစ်သူကြီး အရှင်သာရိပုတြာရဲ့ တပည့်တစ်ဦးဖြစ်တယ်၊ ငါတပည့်ကလေးကို ခေါ်သွားပြီး ခိုးသူလက်ကို ဝကွက်အပ်တယ်လို့ အပြောမခံကြပါရစေနဲ့၊ ငါ့ရှင် အေးအေးနေပါ။

**သာမဏေ–** ဒါတွေရှိပါစေဘုရား၊ မြတ်စွာဘုရားရှင်ဟာ တပည့်တော်ဆရာထံ အရှင်ဘုရားများကို စေလွှတ်တာ၊ တပည့်တော်ဆရာကလဲ တပည့်တော်ကို ခေါ်သွားရန် မိန့်တော်မူတာဟာ ဒီကိစ္စကို မြင်တော်မူကြလို့သာ ဖြစ်ပါတယ်၊ စဉ်းစားတော်မူကြပါ၊ တပည့်တော် ခုပဲ လိုက်သွားပါ့မယ်၊ ဘုရားတပည့်တော်အပေါ်မှာ အပြစ်ကြီးငယ်များ ရှိလျှင်သာ သည်းခံခွင့်လွှတ်တော်မူကြပါဘုရား၊ ကိုယ်တရားကိုယ်သာ အားထုတ်ရစ်တော်မူကြပါဘုရား။

သံကိစ္စသည် မတ်တတ်ရပ်ရှိခိုးရာမှ ရဟန်းတော်များအားလုံးအား ရိုသေစွာ ဦးချ၍ ခိုးသူကြီးနှင့်အတူ လိုက်ပါသွား၏။ မည်သူကမျှ သူ့စကားကို ဟန့်တား၍ မရသာဘဲ မျက်ရည်စက်လက်နှင့်ကြည့်၍ ကျန်ရစ်ခဲ့ကြသည်။ သံဃာ့မထေရ်ကြီးကမူ ကြံရာမရ ခေါင်းငုံ့နေရာမှ ရုတ်တရက်ထ,ကာ ကြိုးတုပ်ခေါ်ဆောင်သွားသော ခိုးသူကြီး နောက်သို့ လိုက်၍ .....

“ဒါယကာ၊ ဟိုရောက်လျှင် မီးဖို၍ တံကျင်လျှိုသတ်ရန် ဟန်ပြင် ခြောက်လှန့်ပြီး ကိုရင်ကလေးကို ပြန်လွှတ်လိုက်ပါ၊ သင် အလိုရှိတဲ့ကိစ္စ ဖြစ်ပါစေ့မယ်” မေတ္တာရပ်လိုက်သေးသည်။ သို့သော် မရတော့ချေ။

ခိုးသူကြီးသည် မိမိတို့ တောစခန်းနေရာသို့ ရောက်လျှင် ငယ်သားများအား မီးဖိုခိုင်းထား၏။ တံကျင်များကိုလည်း အသပ်ခိုင်း၏။ ယဇ်ပူဇော်ရန် အမျိုးမျိုး စီမံနေခိုက် သာမဏေအား မိမိအနီးတွင် ဈာန်တ္တထိုင်နေစေ၏။

**ခိုးသူကြီးသန်လျက်နှင့် သာမဏေငယ်၏ မေတ္တာ**

သာမဏေလည်း မည်သို့မျှ လွတ်မြောက်ရန် မကြိုးစား မကြံစည်တော့ဘဲ အချိန်ရခိုက်ကလေး မိမိနှလုံးသွင်းမြဲ မေတ္တာကမ္မဋ္ဌာန်းကိုသာ ဝင်စားနေလိုက်၏။ ခိုးသူကြီးကိုလည်း ခြေဆုံးခေါင်းဆုံး တစ်ချက်မျှ ကြည့်ကာ မေတ္တာပွားလိုက်သည်။ ကျန်ခိုးသားများကိုလည်း ခြုံ၍မေတ္တာပွားနေ၏။

"သတ္တဝါဟူသည် ကံသာလျှင် ကိုးကွယ်ရာရှိပေ၏။ အားလုံး ချမ်းသာကြပါစေ"

သာမဏေငယ်သည် မည်သူ့အပေါ်ကိုမျှ အပြစ်မတင်။ "ကံစီရင်သလို ခံတော့မည်"ဟု ဆုံးဖြတ်ကာ ငြိမ်သက်စွာ မေတ္တာဈာန်ဝင်စားနေခိုက် ခိုးသူကြီးသည် သာမဏေငယ်၏ နောက်နားသို့ အသာတိုးသွားပြီး သန်လျက်ကို အိမ်မှ ထုတ်လိုက်၏။ အသွားနှစ်ဘက် ထက်လှသော သံလျက်ကို လက်နှင့်ကောင်းစွာ ဆ,ပြီးနောက် အံကြိတ်လျက် သာမဏေငယ်၏ ကျောကုန်း၌ အားကုန်ထိုးသွင်းလိုက်လေ၏။

သို့ရာတွင် သာမဏေငယ်မှာ တုတ်တုတ်မျှ မလှုပ်။ မာကျောလှသော သံလျက်သာလျှင် အသွားချင်း ထိမတတ် လိပ်ခွေ၍ သွား၏။ ခိုးသူကြီးသည် ထိုးပုံ ဟန်မကျ၍ ဖြစ်မည်အထင်ဖြင့် လိပ်ခွေသွားသော သံလျက်သွားကို အားကုန် ရိုက်ဆောင့်ပြီး ဖြောင့်ကာ ပို၍ခက်ထန်သော ဒေါသဖြင့် နောက်တစ်ချက်ဆင့်၍ ထိုးလိုက်၏။ သန်လျက်မှာ ထန်းရွက်ကဲ့သို့ ပျော့ခွေလိပ်ကာ အရိုးထိအောင် ကွေးကောက်သွားပြန်သည်။

'ဘုရားမို့၊ ရဟန္တာမို့' ဟု မထင်အပ်၊ မေတ္တာသည် မေတ္တာသာလျှင်တည်း။

ခိုးသူကြီးသည် ဒေါသအမျက် ခြောင်းခြောင်းထွက်ရာမှ ချွေးသီး ချွေးပေါက်များကျကာ အတန်ကြာ မှိုင်တွေချ၍ စဉ်းစားနေ၏။ သာမဏေငယ်ကား ခိုးသူကြီး လုပ်နေသည်ကိုပင် သိပုံမရချေ။

'ငါ၏ သန်လျက်ကား ရှေးအခါက ကျောက်ဖျာဖြစ်စေ၊ ရှားသားနှစ်ပင်ဖြစ်စေ ထိုးခုတ်လိုက်လျှင် သစ်ဥကဲ့သို့ရှိ၏။ ယခုမူ နှစ်ကြိမ်တိုင်တိုင် လိပ်၍ ခွေ၍သွား၏။ ဤငါ့သန်လျက်သည် စိတ်မရှိသော်လည်း ဤသာမဏေငယ်၏ ဂုဏ်ကျေးဇူးကို သိပေ၏။ ငါတမူကား စိတ်ရှိသူ လူပင်ဖြစ်လျက်က သာမဏေငယ်၏ ဂုဏ်ကျေးဇူးကို မသိ။ မိုက်မဲလှချေ၏တကား။'

သန်လျက်ကို ချက်ချင်းလွှတ်ပစ်ကာ သာမဏေငယ်၏ ခြေရင်း၌ ဝပ်စင်းရှိခိုးလျက်–

"အရှင့်သား၊ ကျွန်ုပ်တို့မှာ စီးပွားဥစ္စာ အသပြာငွေ တည်းဟူသော အကြောင်းကြောင့် ဤတောအုပ်မှာ ကျက်စားနေခဲ့ကြပါတယ်၊ ကျွန်ုပ်တို့ကို

အဝေးက မြင်လျှင်ပဲ ထောင်နှင့်ချီပြီး အုပ်စုဖွဲ့လာကြသူများပင် ကြောက်ရွံ့တုန်လှုပ်ကြတယ်၊ စကားတစ်ခွန်း၊ နှစ်ခွန်းမျှပင် မပြောနိုင်ဘဲ ကြက်သေသေကြတယ်။ သင့်မှာကား စိုးရိမ်စိတ်မျှပင် မပေါ်၊ သင့်မျက်နှာမှာလည်း ဖိုဝမှာတင်သော ရွှေစင်၊ ရွှန်းရွှန်းပွင့်သော မဟာလှေခါးပန်းလို လန်းဆန်း ကြည်လင်လှပါဘိတယ်၊ အကြောင်းဘယ်လိုပါလဲ အရှင်သား။"

သာမဏေငယ်သည် အာသဝေါကုန်ပြီးသော ရဟန္တာတို့မည်သည် သေခြင်းကိုလည်း မတောင့်တ၊ ရှင်ခြင်းကိုလည်း မကြောင့်ကြပုံ၊ စိုးရိမ်သောက ကြောက်ရွံ့ခြင်းကင်းပုံကို ဟောပြတော်မူရာ ခိုးသားငါးရာလုံး ထိုနေရာ၌ပင် သံဝေဂဖြစ်ကာ အဝတ်များကို ဖြတ်ခွဲ၍ မြေနီဆိုးပြီးလျှင် ရှင်သာမဏေပြုကြကုန်၏။

## အသက်တစ်ရာနှင့် တစ်နေ့တာ မလဲနိုင်

သံကိစ္စသာမဏေသည် ခိုးသားငါးရာတို့ကို နောက်ပါ ခေါ်ဆောင်၍ (သီတင်းသုံးဖော်များ ကြောင့်ကြပူပန်မှု ငြိမ်းအေးစေရန်) တောရကျောင်း သံဃာများထံ ဦးစွာဝင်၍ နှုတ်ဆက်ကန်တော့၏။ ထို့နောက် ဥပဇ္ဈာယ်ဆရာ အရှင်သာရိပုတြာနှင့် ဘုရားရှင်ထံ သွားရောက်ကန်တော့သည်။ ဘုရားရှင်က.....

"သံကိစ္စ၊ သင့်မှာ တပည့်တပန်းတွေ ရလာပါပကောလား"ဟု မိန့်တော်မူကာ ခိုးသားများအားလည်း.....

> "ယော စ ဝဿသတံ ဇီဝေ၊
> ဒုဿီလော အ, သမာဟိတော။
> ဧကာ ဟံ ဇီဝိတံ သေယျော၊
> သီလဝန္တဿ ဈာယိနော။

> "ချစ်သားတို့၊ သင်တို့တစ်တွေ ခိုးဆိုးလုယက်ကာ သီလ မရှိ၊ သမာဓိ မတည်ဘဲ အသက်တစ်ရာ ရှင်နေတာထက် ယခုကဲ့သို့ သီလရှိပြီး မေတ္တာဈာန် သမာဓိနှင့် တစ်ရက် အသက်ရှင်ရခြင်းက အလွန် အကျိုးများပေတယ်" ဟု ဟောကြားတော်မူရာ ပဋိသမ္ဘိဒါ လေးတန်နှင့်တကွအားလုံး ရဟန္တာ ဖြစ်တော်မူကြလေ၏။

ဤ၌လည်း ဗုဒ္ဓဝါဒ၌ အကျင့်သီလနှင့် မေတ္တာဘာဝနာ သမာဓိရှိမှုသည် ပဓာန လိုအပ်ကြောင်း ကောင်းစွာရှုမြင်ကြကုန်ရာ၏။ **အနိမ့်ဆုံးသီလနှင့် အပေါ့ဆုံး မေတ္တာသမာဓိလောက်ကိုမျှ မထူထောင်နိုင်ပါလျှင် ဗုဒ္ဓဘာသာဝင် ဆိုသော်လည်း ဗုဒ္ဓဝါဒကို မည်သို့မျှ နားလည်သူ မဖြစ်နိုင်ချေ။**

ကလေးငယ်များနှင့် လူဆိုးလူရိုင်းကြီးများပင် လိုက်နာနိုင်သော ကျင့်စဉ်ကို

**မေတ္တာဝါဒ (ဗြဟ္မဝိဟာရအဖွင့်)**

လည်း 'အလွန်ခက်ခဲသော အလုပ်ကြီး' ထင်ကာ လူတိုင်းပင် ရယူနိုင်သော စိတ်ပိုင်းဆိုင်ရာ စွမ်းအင်များကိုလည်း ရောမ တန်ခိုးကြီးဟုပင် ထင်လာကြ၏။ ထိုအထင်ကို မြစ်ဖျားခံ၍ လူသားဗုဒ္ဓနှင့် လူသားဝါဒကို 'လောကုတ္တရာ' ဟု နယ်ခြားသတ်မှတ်လျက် ငုတ်တုတ် လက်မြှောက်ကာ ကြောင်ကြောင်ကြီး ဆင်းရဲနေရရှာ၏။

[မဟာပဒ အဋ္ဌကထာ၌ 'ချာန်ဝင်စားနေ၍ လက်နက်မထိ' ကြောင်း သာမန်မျှသာ ပြဆိုထားသော်လည်း ဝိသုဒ္ဓိမဂ် အဋ္ဌကထာနှင့် ထေရဂါထာပါဠိ၊ အဋ္ဌကထာတို့ကိုထောက်၍ ချာန်သာမည မဟုတ်၊ မေတ္တာချာန်ဝင်စားကြောင်းထင်ရှား၏။ ထေရဝါဒ၌ 'မည်သည့် သတ္တဝါ တစ်စုံတစ်ယောက်ကိုမျှ ထိခိုက်နစ်နာ သေကျေစေလိုသော (ဗျာပါဒနှင့် ဝိဟိံသာစိတ်) စိတ်ကူးမျှပင် မဖြစ်စဖူး' ကြောင်း သံကိစ္စမထေရ် ကိုယ်တော်တိုင်ပင် မေတ္တာဘာဝနာစွဲထုံပုံကို ပြောကြားထားသည်။]



## မေတ္တာစံပြ သာဝိကာမကြီးများ

### ၁၀။ သူဌေးသမီး ဥတ္တရာ လုပ်ကြံခံရခြင်း

မေတ္တာအကျိုးကျေးဇူးကို ဗုဒ္ဓနှင့် ဗုဒ္ဓသာဝကကြီးများသာ ရရှိနိုင်ကြသည် မဟုတ်။ မေတ္တာအင်အားကို ပြည့်စုံအောင် လေ့ကျင့်ထားသူတိုင်း ရနိုင်၏။ မဆုံးနိုင်သော လူမှုဝေယျာဝစ္စတွေကြားကလည်း ယုံယုံကြည်ကြည် ဝီရိယရှိရှိနှင့် လေ့ကျင့်ပွားများလျှင် ရနိုင်သည်ပင်ဖြစ်၏။

မေတ္တာတရား၊ မေတ္တာအင်အားကြီးလည်း ဤလောက၌ အမှန်ထင်ရှား ရှိနေသော ပရမတ္ထတရားကြီးဖြစ်၍ မည်သူ့ကိုမျှ မျက်နှာမလိုက်၊ မည်သည့် ဒေသ, မည်သည့်ခေတ် ဟူ၍လည်း ကန့်သတ်ချက် မထား။

ဤနေရာ၌ သူဌေးကတော်ဖြစ်သူ သူဌေးသမီး ဥတ္တရာနှင့် မိဖုရားကြီး သာမာဝတီတို့သည် သူဌေးကိစ္စ၊ မင်းကိစ္စတွေကြားက မေတ္တာအင်အားကို ထွန်းပြခဲ့သူများအဖြစ် တွေ့နိုင်၏။

ဥတ္တရာဟူသည် ဒကွိဏေယျ, ဒါနသတ္တိကြောင့် လယ်ထွန်ချေးခဲက ရွှေဖြစ်ကာ ချက်ချင်း ကျွန်ဘဝ လယ်ကူလီအဖြစ်မှ သူဌေးဖြစ်လာသူ ရာဇဂြိုဟ်ပြည် သူဌေးကြီး ဦးပုဏ္ဏ၏သမီးဖြစ်သည်။ သူဌေးဘွဲ့ရပြီး အိမ်တက်မင်္ဂလာပွဲကို ခုနစ်ရက်၊ ခုနစ်လီ ပြုလုပ်ကာ ဘုရားအမှူးရှိသော သံဃာတော်များအား ပင့်ဖိတ် လှူဒါန်း၍ တရားနာကြသဖြင့် သားအမိ သားအဖ သုံးယောက်စလုံး သောတာပန်

ဖြစ်ခဲ့ကြ၏။

## အသွင်မတူသော အိမ်ထောင်ရေး

ဥတ္တရာသည် အရွယ်ရောက်လာသောအခါ မိမိဖခင်ကြီး ကျွန်အဖြစ်မှ ခစားခဲ့ရသူ သူဌေးကြီး ဦးသုမနက ၄င်း၏သားနှင့် ကြောင်းလမ်း၏။ ကျေးဇူးရှင်ဖြစ်သော်လည်း မိစ္ဆာဒိဋ္ဌိများဖြစ်၍ မပေးစားနိုင်။

နောက်ဆုံး ရာဇဂြိုဟ်သူဌေးအသိုင်းအဝိုင်းနှင့် လူကုံထံတစ်စုက ဝိုင်း၍ နားချသဖြင့် သူဌေးကြီး ဦးပုဏ္ဏသည် မငြင်းသာတော့ချေ။ ဘုရားသမီးတော် ဥတ္တရာလည်း မိဘလူကြီးများ၏ဆန္ဒကို လိုက်လျောရကာ တစ်ခုသော ဝါဆိုလပြည့်နေ့ကြီးတွင်မှ မိစ္ဆာဒိဋ္ဌိ လင့်အိမ်သို့ လိုက်ရရှာလေ၏။

ဥတ္တရာလည်း မိစ္ဆာဒိဋ္ဌိအသိုင်းအဝိုင်း၌ လုံးလုံးကြီးကျရောက်ကာ တစ်နေ့မျှမပျော်ရွှင်တော့ပေ။ ထောင်အကျဉ်းကျခံနေရသကဲ့သို့ ဖြစ်နေ၏။ လောလောလတ်လတ် သာသနာ ကွယ်နေခြင်းအတွက် အဆင်းရဲဆုံး ဖြစ်နေတော့သည်။ ဘုရားအမှူးရှိသော သံဃာတော်များအား ဖူးမြော်လို၏။ လှူဒါန်းလို၏။ တရားနာလို၏။ ထိုအခွင့်ကောင်း ကြီးများအားလုံး လက်လွှတ် လိုက်ရသဖြင့် ဥတ္တရာသည် တစ်နေ့တခြား ဆင်းရဲ၍သာနေရရှာ၏။ မိမိခင်ပွန်းအား ဥပုသ်စောင့်ခွင့်အကြိမ်ကြိမ်တောင်းခံ၍လည်း အခွင့်မရ။ တစ်နေ့သောအခါ မိမိအခြွေအရံများကို .....

"ညီမတို့၊ ခုဆိုရင် သီတင်းကျွတ်တော့မယ်၊ ဘယ်နှစ်ရက် လိုတော့သလဲ" မေးရာ.....

"ဆယ့်ငါးရက် လိုတော့တယ် အစ်မ" ဟု ဖြေဆိုသံ ကြားရလျှင် ရုတ်တရက် အကြံရကာ ဖခင်သူဌေးကြီးထံ ဝင်ခံနေရပုံကို စိတ်နာနာဖြင့် စာတစ်စောင်ရေးပြီး ပို့လိုက်သည်။ ရတနာသုံးပါးဝတ်များ လုပ်ခွင့်မရ သည်ကိုလည်း ထည့်ရေးလိုက်၏။

## အငှားအိမ်ရှင်မ သိရိမာ

သူဌေးကြီးလည်း မည်သို့မျှ မတတ်သာတော့ဘဲ စိတ်မကောင်းဖြစ်ကာ ငွေတစ်သောင်းငါးထောင်နှင့်အတူ အကြံကောင်းတစ်ခု ပေးလိုက်၏။

ထိုအကြိကား ရာဇဂြိုဟ်ပြည်၌ သိရိမာခေါ် ပြည့်တန်ဆာ အလှဘုရင်မ တစ်ဦးရှိ၏။ တစ်နေ့လျှင် တစ်ထောင်ပေး၍ ဆက်သွယ်ကြရသည်။ သူဌေးကြီးသည် ဝါတွင်းသုံးလတွင် ကျန်ရှိသော ဆယ့်ငါးရက်အတွက် သိရိမာအား နေ့တွက်ပေး၍

မိမိသမီး ဥတ္တရာအား အိမ်ရှင်မဘဝမှ ခေတ္တခွင့်ယူကာ ရတနာသုံးပါးဝတ်များကို လုပ်ဆောင်နိုင်ရန် အကြံပေးကူညီခြင်းဖြစ်သည်။

ဥတ္တရာလည်း ဖခင်ကြီးပေးသောအကြံကို လွန်စွာသဘောကျသဖြင့် သီရိမာနှင့် တိုင်ပင်၏။ သဘောတူညီမှုရလျှင် ငွေတစ်သောင်းငါးထောင်ကို သီရိမာအား ပေး၍ မိမိခင်ပွန်းထံ သီရိမာအား ခေါ်ဆောင်ပြကာ အကျိုးအကြောင်း ပြောပြ၏။ ခင်ပွန်းမှာလည်း သီရိမာ၏ အလှ၌ ယစ်မူးကာ ဥတ္တရာတောင်းဆိုချက် အားလုံးကို လိုက်လျောလိုက်သည်။

ဥတ္တရာလည်း ဘုရားအမှူးရှိသော သံဃာတော်များကို ဆယ့်ငါးရက် တိုင်တိုင် ဆွမ်းအလှူခံကြွရန် ပင့်ဖိတ်ကာ စိတ်တိုင်းကျ လှူရ၊ တန်းရ၊ တရားနာ ရတော့မည်ဖြစ်၍ အတိုင်းမသိ ဝမ်းမြောက်နေတော့၏။ မိမိ အခြွေအရံများဖြင့်အတူ ကျွေးမွေးလှူတန်းရန် စီမံကြသည်။ မီးဖိုချောင်၌သာ တစ်နေကုန် အလုပ်များ နေတော့၏။ ကိုယ်တိုင်လည်း ကြော်လှော်ချက်ပြုတ်ကာ မမောနိုင်မပန်းနိုင်ရှိတော့ သည်။

ခင်ပွန်းမှာလည်း သီရိမာနှင့်ပျော်မွေ့နေ၏။ ၁၅-ရက်မြောက် နောက်ဆုံးနေ့သို့ ရောက်ရန် တစ်ရက်သာ လိုတော့ရာ ခင်ပွန်းသည်မှာ သီရိမာနှင့် ပျော်နေသကဲ့သို့ ဥတ္တရာလည်း ရတနာသုံးပါးဝတ်နှင့် ပျော်နေတော့၏။ ခင်ပွန်းကလည်း ဘာတစ်ခုမျှ လာရောက်ပြောဆိုကန့်ကွက်ခြင်းမပြု။ ဂရုပင်မစိုက်၊ ဥတ္တရာလည်း သိ... ကျေးဇူးတင်၍ မဆုံးတော့ချေ။

တစ်ရက်အလိုတွင် ခင်ပွန်းသည်သည် မိမိနေသော အဆောင်ပြတင်းပေ... နားသို့သွားကာ မီးဖိုချောင်ဖက်သို့ လှမ်း၍ အကဲခတ်ကြည့်ရာ အခြွေအရံများနှင့်အတူ ချွေးတလုံးလုံး ပေပေကျံကျံ စီမံလုပ်ကိုင်နေသော ဥတ္တရာကို ကြည့်၍.....

"အင်း..... အမိုက်မ၊ ဒီလိုနေရာမျိုးမှာနေပြီး ဒီလိုစည်းစိမ်ကို ခံစားရကောင်းမှန်း မသိရှာဘူး၊ ရဟန်းကတုံးတွေ ပြုစုနေရတာနဲ့ ပျော်နေလိုက်တာ သနားစရာပဲ" ဟု ရယ်သွမ်းသွေးရေရွတ်ကာ ပြတင်းပေါက်မှနေ၍ ကြည့်ရင်း ကျောပေးလှည့်ထွက် သွား၏။ သီရိမာလည်း 'အဘယ့်ကြောင့် ရယ်သွမ်းသွေး ရေရွတ်နေပါလိမ့်' ဟု သိလိုသဖြင့် မယောင်မလည် ပြတင်းပေါက်နားသို့သွား၍ကြည့်ရာ ဥတ္တရာကို တွေ့မြင်ရသောအခါ သီရိမာသည် အငှားအိမ်ရှင်မဘဝကို မေ့သွားကာ တကယ့် အိမ်ရှင်မ,စိတ်ပေါက်လာပြီးလျှင် "ဒီကောင်မ ငါ့ယောကျ်ားနှင့် အဆက်အသွယ် ရှိရကောင်းလား"ဟု ဥတ္တရာအပေါ် မနာလို ဖြစ်လာ၏။ ၁၅-ရက်တိုင်တိုင် အတူနေရသဖြင့်လည်း အိမ်ရှင်မစိတ် ပေါက်မှန်းမသိပေါက်ကာ ဥတ္တရာအား ရန်ရှာရန်ပင် အကြံထုတ်လေတော့၏။

### ဥတ္တရာ လုပ်ကြံခံရခြင်း

သိရိမာလည်း တစ်ရက်မျှသာ လိုတော့သဖြင့် ရရှိသော အကြံအတိုင်း ပြုလုပ်ရန် အဆောင်ထက်မှဆင်းကာ ချက်ပြုတ်ကြော်လှော်နေသော မီးဖိုချောင်သို့ ဝင်သွား၏။ မုန့်ကြော်လက်စ ထောပတ်အိုးထဲမှ ထောပတ်ဆီပူများကို ယောက်ချိုကြီး (ဖွန်းကြီး)ဖြင့် ခပ်ယူကာ အပြင်သို့ ရုတ်တရက် ထွက်သွားပြီး မလှမ်းမကမ်းတွင် ထိုင်နေသော ဥတ္တရာဆီသို့ သွား၏။

သိရိမာ မိမိထံလာနေသည်ကို မြင်၍ ဥတ္တရာလည်း သိရိမာ၏ ကျေးဇူးများကို ပို၍သတိရလာ၏။ သိရိမာအပေါ် ခင်မင်မြတ်နိုးစိတ်များ တဖွားဖွား ဖြစ်လာ၏။

မေတ္တာထူထောင်သူများသည် 'သူ့ကျေးဇူးကို မြင်အောင်ကြည့်၍ သည်းခံရမည်' ဟူသော ပဓာန စည်းကမ်းတစ်ခုရှိ၏။ မည်မျှရိုင်းစိုင်းဆိုးသွမ်းသူပင် ဖြစ်သော်လည်း တစ်ချိန်က မိမိအပေါ်ဖြစ်စေ၊ အခြားသတ္တဝါတို့အပေါ်ဖြစ်စေ၊ မြတ်နိုးစရာကောင်းသော အလေ့အကျင့်ကောင်းများ (ကောင်းကွက်ကလေးများ) မလွဲမသွေ ရှိနေတတ်၏။ ငါးကို အရိုးထွင်ပြီး စားသကဲ့သို့ မိမိရန်သူပင် ဖြစ်စေကာမူ ထိုသူ၏ ကောင်းကွက်ကလေးများကို ကြည့်တတ်ရန် အထူးအရေးကြီးလှသည်။ ကောင်းကွက်ကိုကြည့်၍ သည်းခံကာ မေတ္တာကိုသာ အရအမိ ထူထောင်ယူရသည်။ ယခုမူ ဥတ္တရာသည် သူ့ကျေးဇူးကို အလိုလို စိတ်ထဲပေါ်နေတော့သည်။

'သြော်.....ငါ့သူငယ်ချင်းမကြီး ကျေးဇူးကား ကြီးလှပါပေတယ်၊ သူ့ကျေးဇူးနှင့် စာလျှင် စကြဝဠာကြီးသည် ကျဉ်းမြောင်းပါသေး၏။ ဗြဟ္မာ့ပြည်သည် နိမ့်၍ နေပါသေး၏။ ငါ့မှာ သူရှိနေပေလို့သာ ဘုရားအမှူးရှိသော သံဃာတော်များကို လှူတန်းရပေတယ်။"

သို့ရာတွင် သိရိမာ၏ အမူအရာမှာ သက်သာမကောင်းဖွယ်ရှိနေသည်ကို မြင်ရသဖြင့်–

"တကယ်လို့များ ထောပတ်ဆီပူနှင့် ငါ့ခေါင်းပေါ်ကို လောင်းထည့်အုံးတော့ ငါ့မေတ္တာဟာ သူ့အပေါ်မှာ မပျက်ရိုးမှန်လျှင် မပူလောင်ပါစေနဲ့၊ ငါ့မေတ္တာပျက်ခဲ့လျှင် ပကတိအတိုင်း ပူလောင်ပါစေ"ဟုပင် ပါးစပ်က ရွတ်ဆို (သစ္စာပြု) နေမိ၏။ သိရိမာလည်း အနားသို့ရောက်လာကာ ထင်သည့်အတိုင်းပင် ဥတ္တရာခေါင်းပေါ်သို့ ဆီပူများကို လောင်းသွန်၍ ချလိုက်သည်။ ပိန်းကြာဖက်ပေါ် ရေမတင်သကဲ့သို့ ဆီပူများ ကိုယ်ပေါ်မှ လျှော၍ကျသွား၏။

ဥတ္တရာမှာ မည်သို့မျှ ထူးခြားခံစက်ခြင်း မရှိသည်ကို သိသည်နှင့် 'ဆီတွေ အေးသွားလို့များလား'ဟု ထင်ကာ သိရိမာ ဘာမပြော ညာမပြော

မီးဖိုချောင်သို့ ချက်ချင်းပြန်သွားကာ ဆီပူများကို ယူ၍ ခပ်သုတ်သုတ် တစ်ကျော့ပြန် ထွက်လာစဉ် ဥတ္တရာ၏ အခြွေအရံများက ရိပ်မိကြသဖြင့် သူ့ထက်ငါ ဆဲဆိုပြီး သိရိမာအား ဝိုင်းအုံ ရိုက်နှက်ပုတ်ခတ်ကြလေသည်။

ဥတ္တရာလည်း မရိုက်ကြရန် လှမ်းအော်ပြောဆိုနေတုန်းမှာပင် သိရိမာ လဲကျသွား၏။ အမျိုးသမီးများကလည်း ဆဲဆိုကြိမ်းမောင်းကာ လဲကျသွားသော သိရိမာ အပေါ် ဝိုင်းအုံဖိရိုက်ကြပြန်၏။ ဥတ္တရာလည်း ချက်ချင်း ပြေးလာပြီး ဖယ်ရှားကာ သိရိမာအား ချစ်ခင်ယုယစွာ ဆွဲထူလိုက်၏။ ဒဏ်ရာသွေးစများကိုလည်း ရေနွေးဖြင့် ဆေးကျောကာ ဆေးလိမ်း၍ပင် နှိပ်နယ်ပေးလေသည်။

**ကိုယ်ရောနှုတ်ပါ ဥတ္တရာ၏ မေတ္တာစွမ်းအား**

"ဖြစ်ရလေ သူငယ်ချင်းရယ်၊ ဘာလို့ ဒီလို လုပ်ချင်ရတာလဲ" စသည်ဖြင့် ကရုဏာသက်ကာ တရားစကားဖြင့် နှစ်သိမ့်ပေးရာ သိရိမာမှာ ကိုယ့်အမှားကို သိရှိမှုမက ဥတ္တရာ၏ မေတ္တာကို ပို၍ သဘောပေါက်ကာ ကြီးစွာနောင်တဖြစ်လေ၏။

ဥတ္တရာ၏ မေတ္တာက စိတ်ထဲကမေတ္တာ (မနောကံ)မျှမဟုတ်၊ နှုတ်ရောကိုယ်ပါ ရိုက်ခတ်လာသော မေတ္တာဖြစ်သည်။ ဖမ်းဆီးရိုက်နှက်ရန် မခိုင်းသည့်အပြင် ရိုက်နှက်သူများကိုပင် အော်ငေါက်ဖယ်ရှားကာ သေကြောင်းကြံသော ရန်သူကိုပင် ပွေ့ပိုက်ယုယပေးနေ၏။ သိရိမာလည်း အနည်းငယ် သက်သာလာသဖြင့်.....

"သည်းခံပါ မမ" ဟုဆိုကာ ရှိခိုး၍ ကန်တော့လျှင်.....

"သူငယ်ချင်း၊ ငါ့မှာအဖေ ရှိတယ်၊ ခုလိုသဘောထားနိုင်တာ အဖေ့ကျေးဇူးပါ၊ ငါ့အဖေကို ကန်တော့ရင် ငါက ကျေနပ်ပြီးသားပါ။"

"ကောင်းပါပြီ မမ၊ သူဋ္ဌေးကြီး ဦးပုဏ္ဏကိုလည်း ကန်တော့ပါ့မယ်"

"မဟုတ်သေးဘူး သူငယ်ချင်း၊ သူဋ္ဌေးကြီးဟာ ငါ့ရဲ့ လောကီအဖေပါ၊ လောကုတ္တရာအဖေ ရှိသေးတယ်၊ သူ့ကို ကန်တော့ရင် ပြီးတာပါပဲ။"

ဥတ္တရာက မြတ်စွာဘုရားကို သူ၏ 'လောကုတ္တရာအဖေ' ဖြစ်ကြောင်း ပြောပြရာ သိရိမာမှာ ရတနာသုံးပါးနှင့် နီးစပ်သူ မဟုတ်၍ အခက်တွေ့နေရာ ဥတ္တရာကပင် အစီအစဉ် ပြောပြပေး၏။ နောက်ဆုံးနေ့ ဆွမ်းကျွေးပွဲတွင် သိရိမာလည်း အမျိုးသမီးငါးရာ ခြံရံ၍ လာရောက်လှူဒါန်းကာ တရားအတူ နာယူ၏။ ဖြစ်ပျက်ပုံ အလုံးစုံကိုလည်း သိရိမာရော ဥတ္တရာပါ ဘုရားရှင်အား လျှောက်ထားကြရာ ဥတ္တရာအား ကောင်းချီးပေးတော်မူ၍.....

"အက္ကောဓေန ဇိနေ ကောဓံ=

မေတ္တာဝါဒ (ဗြဟ္မဝိဟာရအဖွင့်)

အမျက်ထွက်သူကို ပြန်လည် အမျက်မထွက်ခြင်းဖြင့်သာ ဝါ–ဒေါသကို မေတ္တာဖြင့်သာ အနိုင်ရကြောင်း" ဟောတော်မူရာ သီရိမာနှင့်တကွ အမျိုးသမီး ငါးရာတို့ သောတာပန်တည်လေ၏။ (ဓမ္မပဒ ဋ–၂။ ၁၉၆–၁၀၂)

ကာယကံ, ဝစီကံ, မနောကံ မေတ္တာအပြည့်ဖြင့် လျှပ်တစ်ပြက်ကလေး သည်းခံ လိုက်နိုင်သော ဥတ္တရာ၏ မေတ္တာအင်အားသည် ကိုယ်တိုင်သေဘေးက လွတ်မြောက်ခဲ့ရုံမျှမက လူပေါင်းငါးရာပင် အရိယာဖြစ်အောင် ထပ်ဆင့်၍ တွန်းအားပေးလိုက်လေသည်။

[သာမာဝတီနှင့် ဥတ္တရာအကြောင်း အင်္ဂုတ္တရ အဋ္ဌကထာ ဧတဒဂ် အခန်း နှင့် ဝိသုဒ္ဓိမဂ် အဋ္ဌကထာတို့၌လည်းပါရှိရာ အနည်းငယ် ကွဲလွဲချက်များ ရှိသော်လည်း ပဓာနအချက် တူညီနေသဖြင့် ညှိနှိုင်းမရေးတော့ပြီ။]

၁၁။ သာမာဝတီ၏ မေတ္တာနှင့်ကဲကြီးမှာ

ဘုရားရှင် လက်ထက်တော်က ကောသမ္ဗီပြည်၌ ဥတေနမင်း အုပ်ချုပ်ရာ ထိုမင်း၌ မာဂဏ္ဍီ, ဝါသုလဒတ္တာနှင့် သာမာဝတီဟူ၍ မိဖုရားကြီးသုံးယောက်ရှိ၏။

သာမာဝတီသည် ပန်းအဝယ်တော် ကျွန်မတစ်ဦးဖြစ်သူ ခုဇ္ဇုတရာထံမှ ဗုဒ္ဓတရားတော်ကို တစ်ဆင့်နာယူရ၍ အခြွေအရံငါးရာနှင့်အတူ သောတာပန် ဖြစ်ကြသည်။ သို့ရာတွင် ရှင်ဘုရင်ကား ရတနာသုံးပါးကို ကြည်ညိုသူ မဟုတ်သဖြင့် ဘုရားသွား ကျောင်းတက် လုပ်ခွင့်မရ။ ထို့ကြောင့် ဘုရားရှင် ဆွမ်းခံကြွစဉ် အဆောင်တော်နံရံ၌ ချောင်းကြည့်လို့ရရုံ အပေါက်ကလေးများ ဖောက်ကာ တိတ်တခိုး ကြည်ညိုနေကြရရှာ၏။

ဘဝတူ မာဂဏ္ဍီမိဖုရားကြီးမှာကား ဘုရားကို ရန်သူလုပ်နေသူဖြစ်၏။ ဘုရားဖြစ်တော်မူစက ၎င်း၏ဖခင် ပုဏ္ဏားကြီးက ဘုရားရှင်အား သူ့သမီးအတွက် ကြင်ယာတော်အဖြစ် ပြောဆိုကမ်းလှမ်းစဉ် ဘုရားရှင်က "သင့်သမီးကို ငါ့ခြေထောက်နှင့်တောင် မထိလိုဘူး" ဟု ပြောသည်ကို အကြောင်းပြု၍ မာဂဏ္ဍီမှာ ဘုရားအပေါ် ရန်ငြိုးဖွဲ့နေခြင်းဖြစ်သည်။ ပုဏ္ဏားကြီးနှင့်ပုဏ္ဏေးမကြီးမှာ အနာဂါမ် ဖြစ်သွားခဲ့ကြ၏။ မာဂဏ္ဍီမှာ ဥတေန၏ မိဖုရားခေါင်ကြီး ဖြစ်လာသောအခါ အလှမာန်တက်ရုံမျှမက ရာဇမာန်ပါ တက်နေသူဖြစ်၏။

## မာဂဏ္ဍီ အကောက်ကြံခြင်း

တစ်နေ့တွင် မာဂဏ္ဍီသည် သာမာဝတီသို့အဆောင်သို့ ရောက်သွားစဉ် နံရံ၌ အပေါက်ငယ်များကို မြင်၍ မေးကြည့်ရာ သမာဝတီတို့က အရိုးခံအတိုင်း.....

"မြတ်စွာဘုရားရှင် ဒီမြို့ကို ကြွလာတယ် ညီမတော်ရဲ့၊ ဘုရားရှင် ဆွမ်းခံကြွ လာတဲ့အခါ မမတို့တစ်တွေ ဒီအပေါက်ကလေးတွေကနေ ချောင်းကြည့်ပြီး ကြည်ညိုရတာ" ဟု ပြောလိုက်ရာ မာဂဏ္ဍီမှာ မျက်နှာပျက်ပြီး ချက်ချင်းပြန်ထွက် သွားသည်။ 'ဘုရား'ဆိုသော အသံကို ကြားကာမျှဖြင့် ဒေါသထွက်ကာ ဘုရားရှင်အား ဂုဏ်သရေဖျက်ရန် စီစဉ်နေ၏။ မိမိရန်သူအား ကြည်ညိုနေကြသော သာမာဝတီ တို့ကိုလည်း ဒုက္ခပေးရန် အကွင်းကြိတ် ကြံနေတော့သည်။

ပထမဆုံး မောင်တော် ဥတေနမင်းအား–

"မောင်တော်၊ သာမာဝတီတို့တစ်တွေဟာ မောင်တော့်အပေါ် မေတ္တာကွက်ပြီး အသက်အန္တရာယ် စိုးရိမ်ရပါတယ်၊ သူတို့တတွေ အပြင်မှာ အမြင်ရှိနေကြတယ် မောင်တော်ရဲ့" ဟု ကုန်းတိုက်ရာ သုံးကြိမ်ပြောသော်လည်း ရှင်ဘုရင်က မယုံကြည် သဖြင့်–

"မယုံရင် မောင်တော် သာမာဝတီတို့အဆောင်ကို သွားပြီး ရှုစားတော်မူပါ" ဟုဆို၍ သွားကြည့်ရာ သာမာဝတီတို့က အမှန်အတိုင်း သံတော်ဦးတင်၏။ ရှင်ဘုရင်မှာ တစ်စုံတစ်ရာ စိတ်ခုခြင်းမရှိဘဲ အပေါက်များကို ပိတ်ဆို့ကာ အပြင်ဘက်သို့ လွတ်လပ်စွာ ကြည့်မြင်နိုင်စေရန် ပြတင်းပေါက်များကိုပင် ဖောက်ပေး လိုက်လေသည်။

## လူမိုက်တွေကို နိုင်တဲ့နည်း

မာဂဏ္ဍီမှာ အကြံမအောင်ဘဲရှိနေရာ သူ၏ဒေါသမြားကို စစ်မျက်နှာ ပြောင်းကာ ဘုရားရှင်အား ဆွမ်းခံအလာ ဝိုင်း၍ ဆဲရေးမောင်းထုတ်ရန် မိစ္ဆာဒိဋ္ဌိ လူငယ်များအား အသပြာငွေပေး၍ စေခိုင်းပြန်လေသည်။

မည်သို့ပင် ဆဲရေးမောင်းထုတ်ကြသော်လည်း ဘုရားရှင်ကား သည်းခံပြီး ဆွမ်းခံကြွမြဲ ကြွတော်မူ၏။ ဆွမ်းခံကြွတိုင်း အဆဲရေးခံနေရသဖြင့် အရှင် အာနန္ဒာမှာ အခြားဌာနသို့ ပြောင်းရွှေ့ရန် ဘုရားရှင်အား အကြံပြု လျှောက်ထားရာ.....

"အာနန္ဒာ၊ ဒီမြို့ကလူတွေ ဆဲလို့ တခြားမြို့ ပြောင်းသွားပြီးခါမှ အဲဒီမြို့က ဆဲပြန်တော့ကော"

"သည့်ပြင်တမြို့ ပြောင်းရွှေ့ရုံ ပါပဲဘုရား"

"နောက်တစ်မြို့က ဆဲပြန်ပါပြီတဲ့၊ အာနန္ဒာ"

"အာနန္ဒာ၊ သည်းလို မလုပ်သင့်ဘူး၊ ဒီမှာ ဖြစ်ပေါ်တဲ့ ပြဿနာကို ဒီမှာပဲ ပြီးပြတ်ငြိမ်းပြေအောင် လုပ်ရတယ်၊ ဆဲကြပါစေ အာနန္ဒာ၊ သူတို့ဆဲနိုင်လှ ခုနစ်ရက်ပေါ့။

"အာနန္ဒာ၊ စစ်မြေပြင်မှာ ဆင်းနေရတဲ့ ဆင်ပြောင်ကြီးဟာ အရပ် လေးမျက်နှာက ပစ်လွှတ်တဲ့ လေးမြားဒဏ်ကို ကြံ့ကြံ့ကြီး ခံနိုင်ရည်ရှိသလို ဘယ်လိုပဲဆဲဆဲ ငါဘုရား သည်းခံတော်မူတယ် အာနန္ဒာ၊ တစ်လောကလုံး လူတွေ ဟာ အကျင့်ပျက် လူမိုက်တွေချည်းပဲ မဟုတ်လား၊ တရားတည်းဟူသော စစ်မြေပြင် မှာ သည်းခံရုံကလွဲလို့ တခြားနည်း မရှိဘူး"

ခန္တီ=သည်းခံခြင်းတရားသည် တရားအားလုံးတို့၏ ရေသောက်မြစ်ကြီးဖြစ်ရာ မေတ္တာအလုပ်သည်လည်း ခန္တီအပေါ် ရပ်တည်မှသာ ဖြစ်နိုင် လေသည်။ မေတ္တာ၏ ပဓာန နောက်ခံအင်အားသည် ခန္တီသာလျှင်ဖြစ်၏။ ထို့ကြောင့် ဤဒြိ စကားလည်း အလျဉ်းသင့်နေသဖြင့် မာဂဏ္ဍီအရေးတော်ပုံမှ ထွက်ပေါ်လာသော ဘုရားအဆုံးအမ တော်ကို ဖော်ပြလိုက်ရပေ၏။

## ဘုရင့်အာဏာနှင့် ကြက်မျက်နှာ

မာဂဏ္ဍီသည် အကြံမအောင်သဖြင့် သာမာဝတီတို့ဘက်သို့ စစ်မျက်နှာ လှည့်ပြန်၏။

ကြက်အရှင် ရှစ်ကောင်ကို ဥတေနမင်း အရက်နှင့် ပွဲတော်တည်ရန် မာဂဏ္ဍီသည် အရှင့်အမိန့်ကို သုံး၍ သာမာဝတီတို့အား ကိုယ်တိုင်သတ်ပြီး ချက်စေခိုင်းရာ မသတ်ရဲကြသဖြင့် ပြန်ပို့လိုက်ကြ၏။ မာဂဏ္ဍီသည် တစ်ဖန် လှည့်စား၍ ကြက်အသေရှစ်ကောင်ကို သာမာဝတီထံသို့ အပို့ခိုင်းပြီးလျှင် ဘုရားဆွမ်းဟင်းလျာအတွက် ချက်စေခိုင်းရာ သာမာဝတီတို့လည်း ဝမ်းသာအားရ ကြိုဆိုယူငင်ကြ၏။

သာမာဝတီတို့သည် အရိယာအဖြစ်သို့ ရောက်ရှိနေကြသူများဖြစ်သည်။

အရိယာဟူသည် ကြောက်ရမည့်နေရာ၌ ပုရွက်ဆိတ်ကလေးက အစ ကြောက်၏။

မကြောက်ရမည့်နေရာ၌ မည်သည့်လောကခံကိုမျှ မကြောက်။

ယင်းသဘောကို အတန်အသင့် စဉ်းစားမိသော မာဂဏ္ဍီသည် အမျိုးမျိုး တစ်ဖက်လှည့်ကြံဖန်၍ ဥတေနမင်းနှင့် သာမာဝတီတို့ကြားတွင် လှည့်စားကုန်းတိုက် လျက်ရှိရာ ထိုလှည့်စားချက်ဖြင့်လည်း ဥတေနမင်းကို အယုံသွင်း၍ မရအောင်ရှိလေ ၏။ မာဂဏ္ဍီကား အကြံမလျှော့သေး။

ဥတေနမင်းသည် မိဖုရားကြီးသုံးဦး အဆောင်များသို့ ခုနစ်ရက် တစ်ကြိမ်ကျ လှည့်ပြောင်းစံနေလေ့ရှိရာ သာမာဝတီအဆောင်၌ အလှည့်ကျနေသောအခါ မာဂဏ္ဍီသည် ဥတေနမင်း ခေါင်းရင်း၌ထား၍ အမြဲသုံးလေ့ရှိသော စောင်းကောက်ကြီး၏ အိုး (အပေါက်)ထဲ၌ မြွေဆိုးတစ်ကောင်ကို ကြိုတင်စီစဉ်၍ ထည့်ထားပြီးလျှင် အပေါက်ဝ၌ အဝတ်ပန်းလုံး ဆို့ပိတ်ထား၏။

## မာဂဏ္ဍီ၏ အကြံအောင်ပြီ

ဥတေနမင်း သာမာဝတီအဆောင်တော်သို့ သွားမည်ရှိစဉ်.....

"မောင်တော်၊ သွားလို့ မတော်ဘူး ထင်ပါတယ်၊ တစ်စုံတစ်ရာ ဘယ်လို ဖြစ်တော့မယ်တော့ မပြောနိုင်ဘူး၊ ညက အိပ်မက်တွေလဲ မကောင်းဘူး မောင်တော်" ဟု လျှောက်တင်ရာ မင်းက လက်မခံသဖြင့် စိုးရိမ်မကင်း၍ သူ့ကိုပါ လိုက်ခွင့်ပြုရန် မာဂဏ္ဍီက တောင်းဆို၏။ တားမြစ်သည့်ကြားက မာဂဏ္ဍီသည် လိုက်ဖြစ်အောင် လိုက်သွားသည်။

သာမာဝတီအဆောင်၌ ညှော်ခံကျွေးမွေးသည်များကို စားသောက်ပြီး၍ စက်တော်ခေါ်သောအခါ အကြံနှင့်လိုက်ပါလာသော မာဂဏ္ဍီသည် ခေါင်းရင်း၌ ထားသော စောင်းတော်နားသို့ မယောင်မလည်သွားကာ ပန်းလုံးအဆို့ကို ဖွင့်ထား လိုက်၏။ မကြာမီ မြွေကြီးသည် နှစ်ရက်သုံးရက် အစာငတ် ငလှောင်ခံနေရသဖြင့် စောင်းပေါက်မှ ထွက်လာပြီးလျှင် ဥတေနမင်း စက်တော်ခေါ်နေသော သလွန်တော် ပေါ်၌ တရှုးရှူး မာန်ဖီနေလေ၏။ မာဂဏ္ဍီသည် အလန့်တကြား ပြေးလွှားအော်ဟစ် ကာ သာမာဝတီတို့အား ဆဲဆိုမြည်တွန်နေ၏။ 'မိမိစကားကို နားမထောင်ရ ကောင်းလား' ဟု ဆိုကာ ဥတေနမင်းကိုလည်း အပြစ်ဖို့ပြောဆိုနေတော့သည်။

ဥတေနမင်းလည်း စက်တော်ခေါ်ရာမှ လန့်နိုးလာပြီးလျှင် သာမာဝတီတို့ အပေါ် လွန်စွာ အမျက်ရှသွား၏။ ရှေးက မယုံခဲ့သော မာဂဏ္ဍီ၏ လှည့်စားချက် များကိုပါ ပြန်လည်သတိရကာ အမျက်ကြီး မျက်လေတော့သည်။ ချက်ချင်းပင် သာမာဝတီနှင့်တကွ မောင်းမငါးရာတို့အား ကိုယ်တိုင် အဆိပ်လူးမြားဖြင့် ပစ်သတ်၍ ကွပ်မျက်ရန် စီစဉ်၏။

## ဒေါသနှင့် အဒေါသ၊ အဆိပ်လူးမြားနှင့် မေတ္တာ

သာမာဝတီနှင့်တကွ မောင်းမ ငါးရာတို့အား တန်းစီနေစေရာ သာမာဝတီကို ရှေ့ဆုံးက ထား၏။ သာမာဝတီလည်း မည်သို့မျှ မကြံသာ တော့ဘဲ 'သတ်လျှင်လည်း အသေခံတော့မည်' ဟု ဆုံးဖြတ်ကာ မေတ္တာကိုသာ ပွားများနေ၏။ မောင်းမ

များကိုလည်း–

"ညီမတော်တို့၊ ငါတို့မှာ တရားကလွဲလို့ တခြား အားကိုးစရာ မရှိတော့ဘူး၊ ကိုယ့်တရားကိုသာ နှလုံးသွင်းကြပါ ညီမတော်တို့၊ မောင်တော့် အပေါ်ကိုရော၊ ညီမတော် မာဂဏ္ဍီအပေါ်ကိုရော ကိုယ်နှင့်ထပ်တူထားကာ မေတ္တာကိုသာ ပွားကြပါ၊ ဘယ်သူ့အပေါ်ကိုမှ အပြစ်မရှုကြနှင့်၊ မလိုမုန်းထား မရှိကြနှင့်၊ ကိုယ့်ကံကြမ္မာအတိုင်း ဖြစ်ကြရတာပါပဲ၊ သည်းခံပြီး မေတ္တာသာပွား" ဟု တွင်တွင်သတိပေး ဆုံးမစကား ပြောကြားနေ၏။

ဥတေနမင်းလည်း ဒေါသအမျက် ခြောင်းခြောင်းထွက်ကာ မိုလ်ခြေ တစ်ထောင်အားဖြင့် တင်မှရသော သားချိုလေးကြိုးကို ညှို့ကြိုးတင်ထားကာ သာမာဝတီတို့ရှေ့၌ အလိုက်သင့် ချထားစေ၏။ မြားရွက်များကိုလည်း အဆိပ်ရည် များလူးကာ ထည့်စေပြီးလျှင် ရင်ညွှန့်တည့်တည့်၌ ချိန်ရွယ်စေလျက် ခလုတ်ကိုဖြုတ်၍ ပစ်သွင်းလိုက်ရာ မြားမှာ သာမာဝတီထံသို့ မသွားဘဲ နောက်ကြောင်းပြန်လှည့်ကာ ဥတေနမင်း၏ ရင်ဝ၌ ထိုးဖောက်စူးဝင်တော့မည့်ဟန် လေထဲ၌ တန့်ရပ်နေ၏။

ထိုအခါ ဥတေနမင်းသည် မကြုံစဖူး အထူးအံ့ဩကာ ထိတ်လန့်သွား၏။ အကြောင်းရှာမရဘဲ လွန်စွာမှုးနောက်တွေဝေသွားတော့သည်။

"အသက်မရှိတဲ့ မြားကတောင် သာမာဝတီရဲ့ ဂုဏ်ကျေးဇူးကို သိပေတယ်၊ ငါမှာ လူဖြစ်လျက် မသိချက် ဆိုးလှလေခြင်း" ဟု ရေရွတ်ကာ သားချိုလေးကြိုးကို ပစ်ချလိုက်၏။ ပြီးလျှင် သာမာဝတီ၏ ခြေရင်း၌ထိုင်၍ ရှိခိုးကာ အမျိုးမျိုး တောင်းပန်၏။

"သာမာဝတီ မောင်တော် မှားပါပြီ၊ ခွင့်လွှတ်ပါ၊ မောင်တော့်ခေါင်းတွေ ဟာ အိုးထိန်းစက်လို ချာချာလည်ပြီး ဘယ်လိုနေရမှန်း မသိတော့ဘူးကွယ်၊ မောင်တော့်ကို ကယ်ပါ သာမာဝတီ၊ မောင်တော်ရဲ့ အားထားကိုးစားရာဟာ နှမတော်ပါပဲ"။

## မေတ္တာကို စံပြနိုင်သော်လည်း ကံကြမ္မာက မနေ

ထိုအခါ သာမာဝတီသည် မိမိကို မကိုးစားဘဲ မိမိကိုးစားနေသော ရတနာ သုံးပါးတို့ကိုသာ ကိုးစားရန် ပြောဆိုရာ ဥတေနမင်းသည် ရတနာသုံးပါး ကြည်ညိုသူ ဖြစ်လာ၏။ ဘုရားအမှူးရှိသော သံဃာတော်များအား ခုနစ်ရက် ခုနစ်လီ အလှူကြီး ပေးသည်။ ထိုမှုဖြင့် အားမရ၊ ရှင်အာနန္ဒာကိုပင် နေ့စဉ် နန်းတော်သို့ပင့်၍ သာမာဝတီ နှင့်အတူ အလှူရေစက်လက်နှင့်မကွာ ပြုလုပ်ခွင့် ရလေ့ရှိရာ ဥတေနမင်းသည် သာမာဝတီအား ပို၍ပင် ကျေးဇူးတင်ကာ

အရေးပေးလာသည်။

မာဂဏ္ဍီမှာ မိမိအမျိုးမျိုး ကုန်းတိုက်ခြေထိုးရာမှ ပိုပြီး သာမာဝတီသို့ အရေးသာလာခြင်းကို မနှစ်မြို့နိုင်သည့်အပြင် နေ့စဉ်နှင့်အမျှ မိမိမမြင်လိုသော ရဟန်းသံဃာများ နန်းတော်သို့ပင် ကြွဝင် အပူဇော်ခံနေသည်ကို မြင်တွေ့နေရရာ ဆတ်ဆတ်ခါ နာကျည်းနေလေတော့သည်။ မိမိလုပ်ပါသမျှ ရန်သူများ ကောင်းစားအောင် ဆောင်ရွက်ပေးနေသကဲ့သို့ ဖြစ်သွားရာ နောက်ဆုံးတွင် ဖြစ်ချင်ရာဖြစ် ကိစ္စတုံးလုပ်ရန် ဆုံးဖြတ်လိုက်တော့၏။

ဥတေနမင်း ဥယျာဉ်ကစားထွက်ခိုက် လက်စွဲတော် ဦးရီးတော် မာဂဏ္ဍီ၏ အကူအညီဖြင့် သာမာဝတီတို့အဆောင်တော်ကို မီးတင်ရှို့စေရာ မိဖုရားငါးရာစလုံး မီးသင့်ကွယ်လွန်ကြရရှာသည်။ သို့ရာတွင် တရားမျိုးစေ့ရှိထားသူပီပီ မီးဟုန်းဟုန်း တောက်နေသော်လည်း ကြောက်ရွံ့ခြင်း မရှိ၊ သတိလက်မလွတ်ဘဲ ဝေဒနာနုပဿနာ သတိပဋ္ဌာန်ဖြင့် သကဒါဂါမ်, အနာဂါမ် အဖြစ်သို့ပင် ကူးပြောင်းကာ တန်ဖိုးရှိရှိ ကွယ်လွန်ကြလေသည်။

သာမာဝတီ မိဖုရားကြီးသည် သာသနာဝင်၌ မေတ္တာအင်အားကို ထူးခြားစွာ ဖော်ဆောင်နိုင်သော အမျိုးသမီးအာဇာနည် 'မေတ္တာစံပြ သာဝိကာမကြီး' တစ်ဦးအဖြစ် ဥဒါန်းတင်နိုင်ခဲ့သော်လည်း 'တစ်ခုသော ဘဝက ပစ္စေကဗုဒ္ဓါ အရှင်မြတ်တစ်ပါး မြစ်ကမ်းပါးတစ်ခု၌ သမာပတ်ဝင်စားစဉ် မီးတင်ရှို့ခဲ့မိသော 'ရှေးဟောင်း ကံကြွေးမှာ ကိုမူ မလွန်ဆန်သာခဲ့ချေ။

သာမာဝတီကား ကိုယ်နှင့်ရင်းကာ မေတ္တာအင်အားနှင့် ကံတရားတို့၏ နိယာမကို စံတင်ချိန်စက်၍ ပြသခဲ့သူပါပေတည်း။



* **ခေါင်းဆောင်ကောင်း**

မိဘ သားမယား၊ ဆွေမျိုးများနှင့်
စေပါး လုပ်ဖော်၊ နတ်–သူတော်
သင့်ပေါ် ချစ်ပါစေ။

(မေတ္တာဝါဒ ၄၅–ရှုပါ)

* **မေတ္တာ**

မေတ္တာသည် သတ္တဝါအားလုံးတို့၏ ပိယဆေး၊
တစ်လောကလုံးအတွက် ငြိမ်းချမ်းရေး လက်နက်ကြီးပင်တည်း။

**သီဟိုဠ် နှင့် မြန်မာနိုင်ငံ**
**မေတ္တာစံပြ ပုဂ္ဂိုလ်ကြီးများ**

- မေတ္တာစံပြ ဗိသာခ မထေရ်
- မွန်အာဇာနည်မယ် တလထော်
- ဂျပန်စစ်ဘက်အရာရှိကြီး နှင့်
  မိုးညှင်းဆရာတော်
- စစ်ပွဲကြားက ဝေဘူဆရာတော်
- ဆရာတော်အရှင် ဦးဥတ္တမသာရ
- အီတာလျံ ဘုန်းတော်ကြီး ဦးလောကနာထ
- အရေးပိုင် ဦးဖိုးစနှင့် လူဆိုးများ
- မဟာစည် ယောဂီမကြီး၏ မေတ္တာ။

ဗုဒ္ဓအသံစာပေ



# အခန်း (၃)

## သီဟိုဠ် နှင့် မြန်မာနိုင်ငံ

## မေတ္တာ စံပြ ပုဂ္ဂိုလ်ကြီးများ

**အကြွင်းမဲ့ ပြည့်စုံလုံလောက်သည့်**

**ထေရဝါဒ ဗုဒ္ဓသာသနာ**

"ထေရဝါဒ ဗုဒ္ဓသာသနာ၌ မည်သည့်ခေတ် မည်သည့်စနစ်တွင်မှ ပြုပြင်ပြောင်းလဲရန်၊ ဖြည့်စွက်နုတ်ပယ်ရန် မရှိ၊ လောကသားတို့အတွက် လောကီ၊ လောကုတ္တရာ ခုဘဝအတွက်ရော နောက်ဘဝ အတွက်ပါ ချမ်းသာစီးပွားများစေရန် နည်းညွှန်လမ်းပြမှုများ အကြွင်းမဲ့ ပြည့်စုံ လုံလောက်နေနှင့်ပြီးဖြစ်၍ ခေတ်နှင့်အညီ ပြုပြင်ကျင့်သုံးရန် မလို"

**၁၂။ မေတ္တာစံပြ ဝိသာခမထေရ်**

သီဟိုဠ်ခေတ် ပဋိပတ္တိ သာသနာဝင်၌လည်း အဋ္ဌကထာ ဆရာကြီးများ ကိုးကားစံတင်ရသည့် မေတ္တာအရာတွင် ထူးခြားသော မထေရ်တစ်ပါးရှိခဲ့ဖူး၏။ ဝိသာခ မထေရ်ဟု ခေါ်တွင်သည်။ (ဝိသုဒ္ဓိမဂ်-၁၊ ၃၀၅။)

ဝိသာခသည် မဇ္ဈိမဒေသ အိန္ဒိယပြည် ပါဋလိပုတ်မြို့သားဖြစ်သည်။ အရောင်းအဝယ်ဖြင့် ချမ်းသာကြွယ်ဝသူဖြစ်၏။ ဝိသာခသူကြွယ်သည် ရောင်းဝယ် ဖောက်ကား သွားလာနေထိုင်ရင်း အိန္ဒိယ၌ သာသနာကွယ်ပျောက်လု ရှိနေချိန် သီဟိုဠ်၌ သာသနာထွန်းကားစည်ပင်ကြောင်း သတင်းများကို မကြာခဏ ပြောဆို နေကြရာ ထိုသတင်းများသည် ဝိသာခသူကြွယ် စိတ်အဝင်စားဆုံး သတင်းများ ဖြစ်နေတော့သည်။

"သီဟိုဠ်ကျွန်း၌ စေတီပုထိုးများ ပန်းကုံးသဖွယ်ရှိကာ ပန်း၊ ရေချမ်း၊ ဆီမီး မပြတ် နိစ္စဗဒ် ဘာသာရေး ပွဲလမ်းသဘင်များ ပြုလုပ်ကြကြောင်း၊ တစ်ကျွန်းလုံး သင်္ကန်းရောင် ရွှေရောင်များ ဖုံးလွှမ်းနေကြောင်း၊ ရာသီဥတု မျှတ၍ နေရာထိုင်ခင်း အစားအစာ ဘာမျှ ပူစရာမလိုကြောင်း၊ ပရိယတ် စာပေ ကျမ်းဂန် သင်အံဆွေးနွေးခြင်း၊ တရားဘာဝနာ ပွားများအားထုတ်ခြင်းများ အတွက် သီဟိုဠ်ကျွန်း မည်သည့်နေရာ၌မဆို လွယ်လင့်တကူ ရယူနိုင်ကြောင်း" စသော သတင်းများကြောင့် ဝိသာခ သူကြွယ်သည် ရှိသမျှ စည်းစိမ်ဥစ္စာများနှင့် စီးပွားရေးလုပ်ငန်းအရပ်ရပ်ကို သားမယားများအား ဖျောင်းဖျပြောဆို၍ အပြီးအပိုင်

လွှဲအပ်လိုက်၏။ အဝတ်တစ်ထည် ကိုယ်တစ်ခုမျှဖြင့် အိမ်မှ ထွက်လာခဲ့သည်။ လောလောဆယ်သုံးရန် အသပြာငွေ တစ်ကျပ်မျှကိုသာ ယူလာခဲ့၏။

## မဟာဝိဟာရ 'ထေရဝါဒ တက္ကသိုလ်' သို့

သူကြွယ်သည် သီဟိုဠ်ကျွန်းသို့ကူးရန် အိန္ဒိယသမုဒ္ဒရာ ဆိပ်ကမ်း၌ ပင်လယ်ကူး သင်္ဘော, လှေ စောင့်ဆိုင်းနေရရာ တစ်လခန့်ကြာသွား၏။

ထိုသို့နေရစဉ် အချိန်အားနေ၍ ရောင်းရေးဝယ်တာ ကျွမ်းကျင်သူဖြစ်သည့်အလျောက် သင်္ဘော, လှေ စောင့်ရင်း တစ်လအတွင်း တရားသဖြင့် အရောင်းအဝယ်လုပ်ရာ ငွေတစ်ထောင်ကိုပင် စုမိဆောင်းမိဖြစ်သွားသည်။

သီဟိုဠ်ကျွန်းသို့ ရောက်သောအခါ ကံအားလျော်စွာ အနုရာဓ နေပြည်တော် မဟာဝိဟာရ ကျောင်းတော်ကြီးသို့ ဆိုက်ဆိုက်မြိုက်မြိုက် ရောက်သွား၏။ ဇေတဝန, အဘယဂိရိ စသော ကျောင်းတိုက်များလည်းရှိနေရာ ထိုကျောင်းတော်ကြီးများမှာ ပိဋကတ်စာပေများကို ခေတ်ပေါ် ရှေးဟောင်း ကောင်းနိုးရာရာ အခြားဘာသာဝါဒ, အယူအဆ အတွေးအခေါ်သစ်များ, ခေတ်မီစနစ်များဖြင့် ရောထွေးကာ ဗုဒ္ဓဝါဒကို ခေတ်နှင့်အညီ ပြုပြင်ကျင့်သုံးမှ တိုးတက်ပြန့်ပွားမည် ထင်ကြသဖြင့် နောက်ဆုံး အတ္တဝါဒ သာသနာပြုရာ မဟာယာန ကျောင်းတိုက်ကြီးများ ဖြစ်သွားကြရလေသည်။

> "ထေရဝါဒဗုဒ္ဓသာသနာ၌ မည်သည့်ခေတ်၊ မည်သည့်စနစ်တွင်မှ ပြုပြင်ပြောင်းလဲရန် ဖြည့်စွက်နုတ်ပယ်ရန် မရှိ၊ လောကသားတို့အတွက် လောကီ,လောကုတ္တရာ၊ ခုဘဝအတွက်ရော နောက်ဘဝအတွက်ပါ ချမ်းသာစီးပွားများစေရန် ခေတ်နှင့်အညီ ပြုပြင်ပြောင်းလဲရန် မလို"

ဟု အခိုင်အမာ လက်ခံထားကြသော ထေရဝါဒတက္ကသိုလ် မဟာဝိဟာရ ကျောင်းတိုက်ကြီးသို့ ဝိသာခ သူကြွယ်ရောက်လာခြင်းမှာ ကံကောင်းထောက်မခြင်းကြောင့်ပင် ဖြစ်လေသည်။ အဋ္ဌကထာဆရာ အရှင်မဟာဗုဒ္ဓဃောသလည်း မဟာဝိဟာရ ကျောင်းတော်အတွက်ပင် ဖြစ်၏။

## ဝိသာခ ရဟန်းခံပွဲ ငွေမိုးရွာခြင်း

မဟာဝိဟာရ ကျောင်းတိုက်မထေရ်ကြီးများအား အကျိုးအကြောင်း လျှောက်ထားရာ မထေရ်ကြီးများက ဥပါသကာအဖြစ် သရဏဂုံသီလနှင့် မေတ္တာဘာဝနာများကို သင်ကြားပေးကြ၏။

ထို့နောက် အိန္ဒိယအမျိုးသားဖြစ်သူ ဝိသာခ ဥပါသကာအား ရှင်ရဟန်းပြုရန် သိမ်သို့ ခေါ်ဆောင်လာရာ လမ်း၌ပင် သူကြွယ်၏ ခါးတောင်းကျိုက် ခါးပုံကြားက

အထုပ်တစ်ခု မြေပေါ်သို့ ကျသွားသည်ကို မြင်သဖြင့် မထေရ်ကြီးများက–

"အဲဒါ ဘာလဲ ဝိသာခ ၊ ဘာလဲ" ဟု မေးကြည့်သည်။ ဝိသာခက–

"ဘုရားတပည့်တော်ပိုင် အသပြာငွေ တစ်ထောင်ပါဘုရား" ဟုလျှောက်လျှင်–

"ဝိသာခ၊ ရှင်ရဟန်းပြုသည့်အခါမှစ၍ အသပြာကို ရဟန်းသာမဏေတို့ မကိုင်တွယ် မစီမံကောင်း၊ ထိုအသပြာများကို ယခုကပင်လျှင် ကြိုတင်ဝေဖန်၍ စီမံခန့်ခွဲလိုက်ဦး" ဟု မိန့်တော်မူကြသဖြင့် 'ငါ့ရဟန်းခံပွဲ လာကြသူတိုင်း လက်ချည်း မပြန်စေရ' ဟု နှလုံးသွင်းကာ တရားသဖြင့် ရှာဖွေရရှိသော အသပြာငွေ တစ်ထောင်ကို သိမ်တန်ဆောင်းအနီး၌ ကိုယ်တိုင်ကြဲဖြန့် လှူဒါန်းလိုက်လေသည်။

[မှတ်ချက်။ ။ ဓာတ်လမ်းအရ ဝိသာခအား လူဝတ်ကြောင်ဘဝမှ တိုက်ရိုက် ရဟန်းပြုပေးဟန်တူသည်။ ရှေးက ယင်းထုံးစံ ရှိခဲ့၏။]

## အကြွင်းမဲ့ အပြစ်ကင်းသော ဝိသာခ

**ဝိသာခသည် ရဟန်းပြုသောအခါ၌လည်း ဝိသာခမထေရ်ဟုပင် ခေါ်တွင်ကာ မဟာဝိဟာရ၌ ဒွေမာတိကာ (ရဟန်းကျင့်ဝတ်) နှင့် ကမ္မဋ္ဌာန်း ဘာဝနာများကို သင်ကြား ရင်း ငါးဝါတိုင်တိုင် သီတင်းသုံးကာ ငါးဝါပြည့်သော သီတင်းကျွတ် လပြည့် ပဝါရဏာပွဲအပြီး မဟာဝိဟာရမှ ထွက်ခွာခဲ့၏။**

မထေရ်သည် မေတ္တာကမ္မဋ္ဌာန်းကို ရှေ့တန်းတင် ပွားများကာ နေရာ အတည်တကျ မထား၊ 'တစ်နေရာ၌ လေးလမျှသာ သီတင်းသုံးမည်' ဟု ဆုံးဖြတ်ကာ သီဟိုဠ် တစ်ကျွန်းလုံး မြို့ရွာတောတောင်အနှံ့ လှည့်လည်သီတင်းသုံး၏။

တစ်နေရာတစ်ဌာန၌ လေးလခန့်မျှသာ သီတင်းသုံးသော်လည်း 'ငါ့ အာဂန္တုက' ဟု သဘောမထားဘဲ ရောက်ရာဒေသ ကျောင်းကန်များ၌ ဒေသခံ၊ ကျောင်းခံ မထေရ်များနှင့် လိုက်လျောညီထွေအောင် သီတင်းသုံးတော်မူသည်။ စေတီဝတ်, ဆရာ သမားဝတ်, ကျောင်းဝတ်များနှင့်စပ်၍ ပန်း, ရေချမ်း, တံမြက်, သောက်ရေ, သုံးရေမှ အစ ရောက်လေရာ အမြဲ ဖြည့်ကျင့်တော်မူ၏။ (ကာယကံ မေတ္တာရှိပုံ သတိပြုပါ။)

ယင်းသို့လှည့်လည် သီတင်းသုံးစဉ် တစ်နေ့တွင် သီဟိုဠ်ကျွန်း အရှေ့ တောင်ပိုင်း ရောဟဏနယ်၌ အရိယာ အများအပြား ပေါ်ထွန်းရာ နာမည်ကျော် စိတ္တလတောင်သို့ သွားရန် ဆုံးဖြတ်၍ တောကြီးမျက်မည်းအတွင်း၌ တစ်ပါးတည်း ကြွတော်မူလေ၏။ တောထဲ၌ တစ်ပါးတည်း ခရီးသွားနေစဉ် ရပ်တန့်နေရင်း မိမိ၏ ဘဝ အရဲတော်ပုံ ကျေးဖူးဂုဏ်တို့ကို ဆင်ခြင်စဉ်းစားမိရာ နှစ်သက်ရွှင်လန်း ဝမ်းမြောက်ချမ်းသာစွာ အောက်ပါအတိုင်း ဥဒါန်းကျူးရင့်တော်မူလေသည်။

"အမောင် ဝိသာခ၊ သင့်ဘဝကား အရတော်လေစွာ၊ ရဟန်းပြုသည်မှစ၍ ဤတောအရပ်ဒေသသို့ ရောက်သည့်တိုင် သင့်ဘဝသည် တစ်စုံတစ်ရာ ချွတ်ယွင်းချက် မရှိ၊ အကြွင်းမဲ့ သန့်စင်ကောင်းမြတ်လေစွတကား"။

မြတ်စွာဘုရား သာသနာတော်သို့ ဝင်ရသည်မှစ၍ သီလ, သမာဓိ, ပညာ ရဟန်းတရားများ အပြစ်အနာအဆာ မရှိ၊ ပြီးပြည့်စုံပုံကို ဆင်ခြင်မိတိုင်း ပီတိသောမနဿ ဖြစ်တော်မူသည်။ (အပြစ်မဲ့ရခြင်း၏ အင်အားသတ္တိကို ရှုမြင်သုံးသပ်ပါ။)

## မေတ္တာ အခြေခံထားသော သီလ

အထူးသဖြင့် ဝိသာခမထေရ်သည် မေတ္တာကို အခြေခံထားသူ ဖြစ်သည့်အတိုင်း သီလသိက္ခာကို ဖြည့်ကျင့်ရာ၌လည်း အမိန့်ကြောင့် ဝန်ထုပ်ကြီးကို ထမ်းပိုးထားရသကဲ့သို့ မရှိ၊ ပေါ့ပါးချမ်းမြေ့စွာ ဖြည့်ဆည်းနိုင်၏။

၁။ **'သဒ္ဓါ'**တရားရှိမှ ပြည့်စုံအောင်ဖြည့်ကျင့်လို့ ရနိုင်သော ရဟန်းကျင့်ဝတ် = **စတုပါရိသုဒ္ဓိသီလ** များကိုသာမက–

၂။ **'သတိ'** ရှိမှ ဖြစ်နိုင်သော မျက်စိ စသော ဣန္ဒြေတို့ကို စောင့်ထိန်းခြင်း = **ဣန္ဒြိယ သံဝရသီလ**၊

၃။ **'ဝီရိယ'** ရှိမှဖြစ်နိုင်သော ရဟန်းတို့နှင့် မအပ်မရာ လူတကာတို့အား မရိုးမသား လှည့်ဖြားဆက်သွယ်၍ ရသောပစ္စည်းမျိုး တို့ကို အလျှဉ်းမသုံးစွဲဘဲ စင်ကြယ်သော အသက်မွေးမှုရှိခြင်း= **အာဇီဝ ပါရိသုဒ္ဓိသီလ**၊

၄။ **'ပညာ'** ရှိမှ ပြည့်စုံအောင် ဖြည့်ကျင့်လို့ ရနိုင်သောပစ္စည်း လာဘ်လာဘများကို ရရှိသိမ်းဆည်း သုံးစွဲရာ၌ ဝိနည်းနှင့်အညီ ကျင့်သုံးခြင်း= **ပစ္စယသန္နိဿိတ သီလ** နှင့် အခြား အလတ်စား အသေးစားသီလများ။

ထိုအမွန်းတင် သီလများနှင့် ဓုတင်ကျင့်ဝတ်များကိုပါ လွယ်ကူပေါ့ပါးစွာ တစ်စုံတစ်ရာ ချွတ်ယွင်းချက် မရှိ ပြီးပြည့်စုံအောင် ဆောင်နိုင်သည်မှာ မေတ္တာဘာဝနာ သဒ္ဓါတရားရှိခြင်းကြောင့်ပင် ဖြစ်လေသည်။

သမာဓိ,ပညာ,သိက္ခာတို့ကို ဖြည့်ကျင့်ရာ၌လည်း ထို့အတူ ပင်ပန်းခက်ခဲမှု တစ်စုံတစ်ရာ မထင်၊ အစဉ်ပေါ့ပါး၍သာ နေတော်၏။

**ဥပဒေ မရှိသော်လည်း ကောင်းအောင်လိုက်နာစိခြင်း**

မြတ်စွာဘုရားရှင်၏ အဆုံးအမကို ရရှိသူတိုင်း မေတ္တာကို အခြေခံ၍ သဒ္ဓါတရား ထားရှိပါလျှင် မည်သည့် ဘုရား၊ ရဟန္တာ၊ အာဏာရှိသူ ကြီးမြတ်သူတို့က အမိန့်ပညတ် စည်းကမ်းဥပဒေ တစ်စုံတစ်ရာ မပညတ် မပြဋ္ဌာန်းမီဘဲ ကြွင်းကျန်နေသေးသော မည်မျှ သေးဖွဲသည့်ကိစ္စအရပ်ရပ်ကိုပင်မဆို၊ 'ဒါ မလုပ်သင့်၊ ဒါ လုပ်ရမည်၊ ဒီလို လုပ်ရမည်၊ ဒီလို မလုပ်ရ' ဟု အလိုလို နားလည်တတ်ကြလေသည်။

ကိုယ်စိတ်နှလုံး အားလုံးတွင် ယဉ်ကျေးနူးညံ့သော ဓာတ်အားများ အလိုအလျောက် ကိန်းဝင်လည်ပတ်နေကြ၏။ စဉ်းစားဆင်ခြင်၍ တမင် ရှောင်ကြဉ်နေရသည် မရှိ။

အရာရာတိုင်း၌ လူတကာနှင့် ပြေပြစ်ချောမောစွာ မိမိသူတစ်ပါး နှစ်ဦးသား ချမ်းသာအောင် အလိုလို ပြောဆိုပြုလုပ်မိလျက်သား ဖြစ်နေကြလေသည်။

ဘုရားရှင် အဆုံးအမတွင် အခြေခံမျှသာ ရှိသေးသော မေတ္တာနှင့် သီလသည် လူသားတို့အား ဤမျှအထိ အကျိုးပြုနေပေတော့သည်။ မေတ္တာရှိလျှင် သီလရှိ၍၊ သီလရှိလျှင်လည်း တစ်လောကလုံးအတွက် ကောင်းကျိုးဆုလာဘ်များ သံကွင်းဆက် ရောက်လာကြတော့၏။

ဥပမာ–ရေဆာ၍ ရေသောက်ရန် ခပ်ယူလျှင် ခွက်အပြည့် ခပ်၍ မကုန်တော့မှ ဖြန်းခနဲ သွန်ပစ်ခြင်းမျိုး၊

ဆပ်ပြာကို မိုးရေစိုရာ၌ ပစ်ထား၍ အဝတ်ကို နေပူလှန်းရာ၌ နေကုန်ပစ်ထားခြင်းမျိုး၊

လူသွားလမ်းဆုံ၌ တံတွေး၊ နပ် စွန့်ပစ်ခြင်းမျိုး၊

လူနှစ်ယောက် လမ်းကျဉ်းလမ်းကျပ်ဆုံရာ ခရီးသွားရာ စသည်၌ မိမိကသာ အသာရအောင် ပြောဆိုပြုမူခြင်းမျိုးစသော ဥပဒေ မဝင်သော အသေးအဖွဲကလေးများမှစ၍ မေတ္တာ သီလ အခြေခံ အဆုံးအမ ရသူတိုင်း တစ်လောကလုံးနှင့် အဆင်ပြေအောင် (လိုအပ်လျှင် မိမိကသာ အနစ်နာခံ အလျှော့ပေး၍) ကျင့်သုံးနေထိုင်တတ်လာကြပေသည်။

ဘုရားသားတော် သမီးတော်ဟူသည် လောကကြီးအား အလှဆင်နေသူများ ပင်တည်း။

ဝိသာခမထေရ် 'ငါ့မှာ ဘာ ချွတ်ယွင်းချက်မှ မရှိ၊ ခြောက်ပစ်ကင်း စင်ကြယ်ရပေစွ' ဟု ကြုံးဝါး၍ ဥဒါန်းကျူးနိုင်သည်မှာ (ဝါ) မိမိသူတစ်ပါး နှစ်ဦးသား ချမ်းသာအောင် အသက်ရှင်နေနိုင်သည်မှာ သာသနာကို ယုံကြည်သော သဒ္ဓါတရားနှင့် အခြေခံ မေတ္တာ သီလ အင်အားကြီးကြောင့်ဖြစ်ကြောင်း သင်ခန်းစာ

ယူသင့်ကြကုန်၏။

## သူတော်ကောင်းတွေ ပြောင်းရွှေ့မှာစိုး

ဝိသာခမထေရ်သည် သီဟိုဠ်ကျွန်း တောင်ဘက်ပိုင်း အစွန်ကျသော စိတ္တလတောင် တောကျောင်းသို့ ရွှေ့ပြောင်းသီတင်းသုံးရန် ကြွတော်မူလာစဉ် ခပ်လှမ်းလှမ်းကပင် တောင်ကြီးကို မြင်နေရ၏။ သို့ရာတွင် တစ်နေ့ရာ၌ စိတ္တလတောင် တောကျောင်း သွားလမ်းမှာ နှစ်ခွဖြစ်နေ၍ 'ဒီဘက်လမ်းလား၊ ဟိုဘက်လမ်းလား' ဟု မဝေခွဲနိုင်ဘဲ ခဏ ရပ်တန့်စဉ်းစားနေခိုက်(မထေရ်၏ မေတ္တာကြောင့်) တောင်စောင့်နတ်က လက်ညှိုးညွှန်၍ ပြပေးလာ၏။

စိတ္တလတောင် တောကျောင်း၌လည်း သူ့အဓိဋ္ဌာန်အတိုင်း လေးလမျှသာ သီတင်းသုံးမည်ဟု အဓိဋ္ဌာန်ထား၏။

လေးလပြည့်သွားသောအခါ 'နံနက်အရုဏ်တက်လျှင် တစ်နေရာသို့ ပြောင်းရွှေ့တော့မည်' ဟုစဉ်းစားရင်း လျောင်းတော်မူ၏။ ထိုအခိုက် တောကျောင်း ကလေး လှေကားဆိမှ ငိုသံကြား၍ ထ,သွားကာ ကြည့်ရှုလေလျှင် လှေကားထစ် ပျဉ်ချပ်ပေါ်၌ နတ်မင်းကြီးတစ်ဦး ငိုယိုနေသည်ကို တွေ့မြင်ရ၏။

မထေရ်– ငိုနေတာ ဘယ်သူလဲ။

နတ်– တပည့်တော် အရှင်မြတ်ရဲ့ စင်္ကြံကျောင်း ခေါင်းရင်း သပြေပင်က ရက္ခစိုးနတ် 'မဏိလိယ' ပါဘုရား။

မထေရ်– သင် ဘာကြောင့် ငိုနေရတာလဲ။

နတ်– အရှင်မြတ် ကြွသွားတော့မှာကြောင့် ငိုနေတာပါဘုရား။

မထေရ်– ငါကြွသွားမှာ သင်နဲ့ ဘာဆိုင်လို့လဲ၊ ငါ ဒီမှာနေတဲ့အတွက် သင်တို့မှာ ဘာအကျိုးကျေးဇူးရှိလို့လဲ။

နတ်– အရှင်မြတ်ဒီမှာ သီတင်းသုံး နေထိုင်တော်မူကတည်းက တပည့်တော်တို့ နတ်တွေမှာ တစ်ဦးနှင့်တစ်ဦး ချစ်ခင်ညီညွတ်မှု ရရှိကြပါတယ်၊ အရှင်မြတ် ကြွသွားတော်မူပါလျှင် တပည့်တော်ကအစ နတ်တွေ အချင်းချင်း ခိုက်ရန်ငြင်းခုံ ဖြစ်ကုန်ကြရတော့မှာပါဘုရား၊ ကြမ်းတမ်း ယုတ်မာစွာ နားမခံသာအောင်လဲ ဆဲရေးတိုင်းထွာကြတော့မှာပါ ဘုရား။

ရက္ခစိုးနတ်မင်းကြီးသည် ပြောရင်း ငိုလေ၏။ သူ၏ စကားကြောင့် ဝိသာခ မထေရ်လည်း ခေတ္တမျှ ဆိုင်းငံ့စဉ်းစားကာ–

"ဒီမှာနေတဲ့အတွက် သင်တို့အားလုံးပါ ချမ်းသာညီညွတ်မှု

ရှိကြတယ် ဆိုရင်လဲ ကောင်းပြီလေ၊ ငါ မသွားသေးပါဘူး”

ဟု မိန့်တော်မူရာ နတ်များအားလုံး ဝမ်းမြောက်ကြလေသည်။

မထေရ်သည် မိမိအစီအစဉ်အရ လေးလပြည့်သွားပြန်သောအခါ ပြောင်းရွှေ့ရန် ကြံစည်မိပြန်သည်နှင့် သပြေပင်စောင့်နတ်သည် တစ်ဖန် ထပ်၍ပင် လာရောက် ငိုယိုကာ လျှောက်ထားပြန်၏။ စိတ္တလတောင်မှ ကြွမည်ကြွမည် ကြံစည်တိုင်း ဤနည်းနှင်နှင်ချည်းဖြစ်နေ၍ သတ္တဝါတို့ကို သနားငဲ့ညှာသောအားဖြင့် သီတင်းသုံး တော်မူရသည်။ ဝိသာခမထေရ်ကြီးသည် မေတ္တာဘာဝနာကို အခြေခံ၍ အရဟတ္တဖိုလ်သို့ ရောက်တော်မူရာ စိတ္တလတောင် တောကျောင်းကလေး၌သာ ခန္ဓာဝန်ချ၍ ပရိနိဗ္ဗာန် စံလွန်တော်မူခဲ့ရလေသည်။

မေတ္တာသည် သတ္တဝါအားလုံးတို့၏ ပီယဆေး၊ တစ်လောကလုံးအတွက် ငြိမ်းချမ်းရေး လက်နက်ကြီးပင်တည်း။

မေတ္တာအင်အားရှိသော ဘုရားတပည့်တော်တစ်ဦးသည် တစ်လောကလုံး အတွက် မည်မျှ အားထားမှီခိုရာကြီးဖြစ်ကြောင်း သင်ခန်းစာ ယူကြကုန်ရာ၏။

[သီဟိုဠ်ခေတ်က မိမိအား သေကြောင်းကြံသူအပေါ်၌ပင် မေတ္တာ မပျက်သော **‘သရဏမထေရ်၏မိခင်’** အကြောင်း **‘ရတနာသုံးပါးကျေးဇူး’** စာအုပ်၌ရေးခဲ့ပြီ၊ မေတ္တာတေဇဂ် ဗျာဒိတ်ရ **‘အဿဂုတ္တမထေရ်’** အကြောင်းနှင့် တရုတ်ရဟန်းတော် ဖာဟီယန် ကိုယ်တွေ့မေတ္တာအရာ စံတော်ဝင် ‘မဇ္ဈဂုတ္တမထေရ်ကြီး’ အကြောင်းကို ‘သီဟိုဠ်ခေတ် စံတော်ဝင် အရိယာများ’ စာအုပ်၌ ဖတ်ရှုပါကုန်။]



မိစ္ဆာဒိဋ္ဌိနိုင်ငံ၌ ထေရဝါဒကို အသက်နှင့်ထွန်းပြသူ

## ၁၃။ မွန်အာဇာနည်မယ် တလထော်

# THE STORY OF THE TALAING HEROINE BHADRA DEVI (TALA HTAW)

...Then the maiden caused gentleness to soften the king and the elephants and the elephant-men, and continually she said 'I take refuge in the Lord' and she called on the Three Names of Refuge. And the elephant dared not tread on her...

(Outline of Burmese History, by G.E. HARVEY.)

### ရာမညာ အနော်ရထာ

မြန်မာနိုင်ငံအထက်ပိုင်း (ပုဂံ)၌ တိုင်းတစ်ပါးမှ ကုန်းကြောင်းခရီးဖြင့် ဝင်လာသော မိစ္ဆာဒိဋ္ဌိဝါဒ ဂိုဏ်းဘုန်းကြီးများရန် တွန်းလှန်ဖြိုဖျက်ခဲ့သူမှာ သာသနာပြု အနော်ရထာ မင်းတရားကြီးဖြစ်သည်။

အောက်မြို့အောက်ရွာ၌ ပို၍ရှုပ်ထွေးစွာ ရေကြောင်းခရီးဖြင့် ဝင်လာသော

စတုတ္ထအကြိမ်

မိစ္ဆာဒိဋ္ဌိ (ဗြာဟ္မဏဝါဒ နှင့် မဟာယာနစသည်) များကို တွန်းလှန် ဖြိုဖျက်သူကား 'ရာမည အနော်ရထာ' ဟုပင်ဆိုသင့်၏။ သို့သော် ထိုသူကား ဘုရင်လည်း မဟုတ်၊ ယောကျ်ားရင့်မကြီးလည်း မဟုတ်။

သူ၏လုပ်ဆောင်ချက်သည် မွန်မြန်မာလူမျိုးနှင့် ထေရဝါဒ သာသနာ တော်အတွက် အနော်ရထာကဲ့သို့ပင် အရေးပါ အရာရောက်စေခဲ့သော်လည်း သူ့အကြောင်းသည် ရာဇဝင် သာသနာဝင်တို့၌ ဒဏ္ဍာရီပမာ မှေးမှိန်လျက်သာ ရှိနေခဲ့ရလေ၏။

သူကား အခြားမဟုတ်။ မွန်တို့၏ အချက်အခြာ ဟံသာဝတီ (ပဲခူး) နေပြည်တော် မိစ္ဆာဒိဋ္ဌိနိုင်ငံ၌ ထေရဝါဒ သာသနာကို အသက်နှင့်လဲ၍ သာသနာပြုရဲသူ မွန်အမျိုးသမီး အာဇာနည်မယ်ကလေး 'တလထော်' ပင်တည်း။ (တလ- အရှင်သခင် + ထော် = တရား၊ တလထော် = တရားသခင်မ။)

(တလထော်၏အကြောင်းကို ဘိုးတော်မင်းတရားကြီးလက်ထက် မဲထီး ဆရာတော်ရေး 'ဝံသဒီပနီ' အဆိုအရ 'ရဟန္တာ နှင့် ပုဂ္ဂိုလ်ထူးများ' စာအုပ်၌ အနည်းငယ် ပြခဲ့ပြီ။)

## တလထော် နှင့် အင်္ဂလိပ်ရာဇဝင်ဆရာ ဟာဗေး

တလထော်၏ အခြားနာမည်တစ်ခုမှာ သုဘဒ္ဒါ သို့မဟုတ် ဘဒြာဒေဝီ ဖြစ်၏။ သူ့အကြောင်းသည် မွန်မြန်မာတို့၏ နှလုံးသည်းပွတ်၌ ထေရဝါဒနှင့်အတူ ကိန်းအောင်းလျက် ရှိနေခဲ့လေသည်။

တလထော်အကြောင်းကို ဒုတိယကမ္ဘာစစ်ကြီး မဖြစ်မီက မြသပိတ်ရုပ်ရှင် ကုမ္ပဏီက ဘိုင်စကုပ် ရိုက်ကူး၍ ပြခဲ့ဖူးသည်ဟုဆို၏။ စစ်ပြီးခေတ်တွင်လည်း ဒေါ်ကြည်ကြည်ဇွေးအား တလထော်အဖြစ် ပိတ်ကားပေါ်၌ မြင်ခဲ့ကြရဖူးသည်ဟု ဆိုကြပြန်သည်။ မွန်ယဉ်ကျေးမှုဌာနကလည်း အခါအားလျော်စွာ တလထော်အား သရုပ်ဖော်ခဲ့သည်။ ထိုရုပ်ပြဇာတ်လမ်းများကို မကြည့်ရှုရဖူးသော်လည်း ပို၍ ဒဏ္ဍာရီ ဆန်သွားမည်ကိုမူ စိုးရိမ်မိလေသည်။

ထေရဝါဒ သာသနာဝင်နှင့် မွန်မြန်မာလူမျိုးတို့အတွက် ကမ္ပည်း ကျောက်စာ တင်ရမည့် တလထော်အား ခေတ်အဆက်ဆက် ပရိသတ်နှင့် ထိတွေ့ပေးခဲ့ကြရာ တလထော်အား သနပ်ခါးပန်းပန်ကာ အမျိုးမျိုး တန်ဆာဆင်၍ ပွဲထုတ်ခဲ့ကြမည် ဖြစ်သော်လည်း တလထော်၏ နှလုံးသားအလှကိုမူ ထိမိအောင် ပြကောင်းမှ ပြနိုင်ခဲ့ကြပေလိမ့်မည်။ ကြားရတွေ့ရသမျှဖြင့်လည်း ကျွန်ုပ်တို့၏ အာသာကို မပြေစေခဲ့ပေ။

"အောက်မြန်မာပြည်တစ်ခွင်လုံး မိစ္ဆာအယူများ ဖုံးလွှမ်းနေရာ အယူဝါဒ ရေးရာကို ပြောင်းပြန်လှန်ပစ်ခဲ့သော တလထော်သည် နယ်နယ်ရရ မဟုတ် တန်ရာချေ။ ယုံကြည်မှုစသော သူ၏ နှလုံးသားအင်အား အရည်အသွေးများလည်း ယခု ကြားသိမှတ်နာရသည်ထက်ပင် လေးနက်မှု ရှိခဲ့ရပေလိမ့်မည်။"

ဝံသဒီပနီ သာသနာဝင်ကျမ်း၌ သဲလွန်စ,တွေ့ခဲ့ရသည်မှအစ အာသာ မပြေရှိနေခဲ့ရာ ဆက်လက်၍လည်း သုတေသန မပြုမိ။ တစ်နေ့တွင် အိမ်မှာရှိသော စာအုပ်ဟောင်းများကို ရှင်းလင်းရင်း အင်္ဂလိပ် ရာဇဝင် ဆရာ 'ဂျီ-အီး ဟာဗေး၏ Outline of Burmese History' ကျောင်းသုံးမြန်မာရာဇဝင် စာအုပ်ဟောင်း ကလေးကို အမှတ်မထင် လှန်လှော ကြည့်ရှုမိရာမှ တလထော်၏ နှလုံးသားအလှကို ထပ်မံ၍ သိခွင့်ရရှိခဲ့ပေသည်။

အံ့ဩဖွယ်ကောင်းသည်မှာ မွန်မြန်မာလူမျိုးများကို ချိုးချိုးဖဲ့ဖဲ့ ရေးသားလေ့ ရှိခဲ့ကြသော အနောက်တိုင်းသား နယ်ချဲ့ရာဇဝင်ဆရာများတွင် ဟာဗေးသည် ထိပ်ဆုံးက ပါဝင်ခဲ့၏။ ထို့ကြောင့်လည်း သူ့ရာဇဝင်စာအုပ်သည် ဗြိတိသျှခေတ်၌ ကျောင်းသုံးဖြစ်ခဲ့သည်။ မည်သို့ပင်ဖြစ်စေ ..... တလထော်ကိစ္စတွင်ကား ဟာဗေး ကို ကျေးဇူးတင်ရပါ၏။ ၄င်းရာဇဝင် စာမျက်နှာ ၆-၇ ၌ လာသည့်အတိုင်း မြန်မာပြန်၍ ဖော်ပြပါအံ့။

**မွန်အာစာနည်မယ် ဘဒြာဒေဝီ (တလထော်)အကြောင်း**

ပဲခူး(ဟံသာဝတီနေပြည်တော်၌) အေဒီ ၁၀၄၃-၅၇ ခုနှစ်၌ နန်းစံသော တိဿမင်းသည် မိစ္ဆာဒိဋ္ဌိဖြစ်၏။ သူသည် ဘုရား တရားကို မကိုးကွယ်၊ မနာယူ ချေ။

ဗြာဟ္မဏဝါဒ ဟိန္ဒူပုဏ္ဏားတို့ကိုသာ ကိုးကွယ်၏။ ဗုဒ္ဓရုပ်ပွားတော်များ ကိုလည်း မသန့်မပြန့်ရာ ချောင်းမြောင်း ရွံ့ဗွက်တို့၌ စွန့်ပစ်စေခဲ့သည်။

ထိုစဉ် မွန်ကန်သောအယူဝါဒ (ဗုဒ္ဓဘာသာ)ကို အစွဲအမြဲကိုးကွယ် ဆည်းကပ် သော ဘဒြာဒေဝီ ခေါ် သူကြွယ်သမီးတစ်ဦးရှိခဲ့၏။ သူကား ၁၂နှစ်သမီး အရွယ်မှ စ၍ သူ၏ မိဘဘိုးဘွားများနှင့်အတူ တရားတော်ကို နာယူလေ့ရှိသူဖြစ်၏။ ကိုယ်ကျင့်သီလတရားကို စွဲမြဲစွာ လိုက်နာကျင့်သုံး၏။ သူသည် ရတနာသုံးပါးကို အလွန်အမင်း အလေးအနက်ထားလေသည်။

**အလို.....ကျိုက်.....ထော်.....စန်း**

"ဗုဒ္ဓံ သရဏံ ဂစ္ဆာမိ၊
ဓမ္မံ သရဏံ ဂစ္ဆာမိ
သံဃံ သရဏံ ဂစ္ဆာမိ။"

**စိတ္တုတ္တအကြိမ်**

သူသည် သရဏဂုံသုံးပါးကိုလည်း နေ့စဉ်မပြတ် သတိရှိရှိ ထိထိခိုက်ခိုက် ရွတ်ဆိုလေ့ရှိသည်။

တိဿဘုရင်သည် နေပြည်တော်ရှိ ဗုဒ္ဓရုပ်ပွားတော်များကို စွန့်ပစ်စေသော အချိန် ဘဒြာဒေဝီခေါ် တလထေော်သည် လူလားမြောက်လျက် ရှိချေပြီ။ တစ်နေ့သောအခါ တလထေော်သည် အစေအပါး အဖော်များနှင့်အတူ ရေချိုးသွားစဉ် ကံအားလျော်စွာ သူ၏လက်နှင့် ရုပ်ပွားဆင်းတုတော်တစ်ဆူကို ရေထဲ၌ နှိုက်စမ်းမိလေ၏။ မည်သည့် အရာမှန်းမသိဘဲ လက်ဖြင့်ဆွဲယူလိုက်ရာ ရွှေရောင်တဝင်းဝင်းနှင့် ရုပ်ပွားတော်တစ်ဆူ ဖြစ်နေသည်ကို ဖူးတွေ့ရလေ၏။

"အလို..... ဒီရုပ်ပွားရှင်တော်မြတ်ကို ဘယ်လိုလူကများ စွန့်ပစ်ထားပါလိမ့် မလဲနော်၊ ဖြစ်မှဖြစ်ရလေ" ဟု ညည်းတွား ပြောဆိုလိုက်ရာ အတူပါလာသူ အမျိုးသမီးကြီးတစ်ဦးက.....

"အရှင်မ၊ အရှင်မင်းကြီးဟာ မှားယွင်းသော ဆရာသမားများရဲ့စကားကို နားယောင်လိုက်ပါနေခဲ့တယ်၊ ဒီရုပ်ပွားရှင်တော်မြတ်ကို စွန့်ပစ်ခိုင်းတာဟာလည်း မဟုတ်မှလွဲရော၊ ဒီဘုရင်ပဲ ဖြစ်မှာပဲ သခင်မ" ဟုပြောပြလိုက်၏။ ဆက်၍.....

"ဒါတင် ဘယ်ဟုတ်ဦးမလဲ သခင်မ၊ ဘုရားစေတီရှေ့မှာသွားပြီး ဝတ်တက် ရွတ်ဆိုတဲ့လူ၊ ရှိခိုးကန်တော့တဲ့ လူတွေကိုလည်း ဒီဘုရင်ဟာ ညှဉ်းဆဲသတ်ဖြတ် နှိပ်ကွပ်ပစ်သတဲ့" ဟု ပြောပြသည်ကို ကြားရလျှင် တလထေော်သည်.....

"အလို.....ကျိုက်.....ထော်.....စန်း (အလို ဘုရား၊ တရား၊ သံဃာ) ကျွန်မ ရတနာသုံးပါး ကိုးကွယ်ဆည်းကပ်သူပါ၊ သတ်လည်း အသေခံရဲပါတယ်၊ ဒီရုပ်ပွား ရှင်တော်မြတ်ကိုသာ ရေသပ္ပာယ်(ဆေးကြော)ပြီး ဟိုစေတီတော်မှာ သွားပြီး တည်ထား ချေပါ အမိ" ဟု ပြောပြောဆိုဆို သူကိုယ်တိုင်ပါ ပါဝင်ဆေးကြော၍ စေတီတစ်ဆူ၌ တည်ထားကိုးကွယ်လိုက်သည်။

## တိဿဘုရင်၏ ဒေါသနှင့် တလထေော်၏ မေတ္တာ

တလထေော်သည် ရုပ်ပွားဆင်းတုတော်များကို ကောက်ယူ၍ နံ့သာရည်ဖြင့် ဆေးကြောကာ တည်ထားကိုးကွယ်နေကြောင်း မင်းချင်းများက တိဿဘုရင်ထံ သံတော်ဦးတင်ကြ၏။

ဘုရင်ကလည်း ချက်ချင်းပင် မင်းချင်းများအား တလထေော်ကို ဖမ်းဆီး ခေါ်ဆောင်ခဲ့ရန် အမိန့်တော်ချမှတ်လေ၏။ တလထေော်သည် မင်းချင်းယောကျ်ားများ ရောက်လာလျှင်ပင် ကျောက်မျက်ရတနာအများ ခြယ်စီထားသည့် တန်ဖိုး မဖြတ်နိုင်သော လက်စွပ်ကို ဝတ်ဆင်ကာ (ထိုလက်စွပ်ကို လက်ဆောင်ပေးလျက်).....

"ဦးမင်းတို့၊ ကျွန်မ ဒီရုပ်ပွားရှင်တော်ဘုရားရှေ့မှာ ခဏလောက် ဘုရားအာရုံ ပြုပါရစေဦး" ဟု အချိန်ကို ဆွဲထားလိုက်သည်။ သူ၏ အစေအပါးများကိုလည်း ဆေးကြောလက်စ မြောက်မြားစွာသော ရုပ်ပွားဆင်းတုတော်များကို အလျင်အမြန် ဆေးကြောသုတ်သင်ခိုင်းထား၏။ ပြီးလျှင် နေရာတကျ တည်ထားကိုးကွယ်စေသည်။

တိဿဘုရင်လည်း ပထမလွှတ်လိုက်သော မင်းချင်းများ မရောက်လာသဖြင့် နောက်ထပ်မင်းချင်းများစွာကို ဖမ်းဆီးခေါ်ဆောင်ရန် လွှတ်လိုက်ပြန်လေသည်။ သို့နှင့် တလထော်သည် ဘုရင့်ရှေ့တော်မှောက်သို့ ရောက်ရှိလာရ၏။ ရှေ့တော်ရောက်လျှင် အဖြစ်မှန်အတိုင်းပင် မေးသမျှ သံတော်ဦးတင်ရာ တိဿဘုရင်မှာ သာ၍ပင် ဒေါသအမျက် ခြောင်းခြောင်းထွက်လေတော့သည်။

"အမောင်တို့၊ ဒီ အမိုက်မကို ဆင်တင်းကုတ်ရှိ ဆင်ရိုင်းတွေဆီ ယခု ခေါ်သွားကြ၊ ဆင်နှင့်နင်း၍ မသေမချင်း သတ်စေ"

အနီးရှိ မင်းချင်းများလည်း အမိန့်တော်အရ တလထော်အား ဆင်ဖြင့် နင်းသတ်ရန် ဆွဲခေါ်သွားကြလေသည်။

ထိုအခါ တလထော်သည် (အဗ္ဗုတ္တိကသာသနာ=ခေါ် ကိုယ်ပိုင်အင်အားကို အသုံးပြုရမည့်အချိန်ဟု ယူဆသည့်အတိုင်း)--

၁။ ဒေါသဖြစ်နေသော ရှင်ဘုရင်ကြီးကိုလည်းကောင်း၊

၂။ မုန်ယိုနေသော ဆင်ရိုင်းကြီးများကိုလည်းကောင်း၊

၃။ ဆင်ထိန်းအာဏာသား မင်းချင်းများကိုလည်းကောင်း မေတ္တာဓာတ်များ ပို့လွှတ်ကာ ညင်သာပျော့ပျောင်းအောင် ဆွဲဆောင်ညှို့ယူလိုက်လေသည်။ ဆက်လက်၍လည်း.....

"တပည့်တော်မ..... ဘုန်းတော်အနန္တ ကြီးမြတ်တော်မူလှသော မြတ်စွာဘုရားရှင်အား အစဉ်ကိုးကွယ် ဆည်းကပ်ပါသည် ဘုရား" ဟု လျှောက်ထားလိုက်၏။ အာဏာသားများ ဆွဲခေါ်ရာသို့ လိုက်ပါရင်း.....

"ဗုဒ္ဓံ သရဏံ ဂစ္ဆာမိ၊ ဓမ္မံ သရဏံ ဂစ္ဆာမိ၊ သံဃံ သရဏံ ဂစ္ဆာမိ" ဟုလည်း သရဏဂုံသုံးပါးကို ထပ်မံ ဆောက်တည်လိုက်လေသည်။ နင်းသတ်ရန် လွှတ်လိုက်သော ဆင်ရိုင်းကြီးသည် တလထော်အား မနင်းသတ်ရဲဘဲ စုံစုံကြီးရပ်ကာ အသံကုန်အော်မြည်၍သာနေတော့၏။ အာဏာသားများလည်း နင်းသတ်စေရန် မည်သို့မျှ ချွန်းအုပ် မောင်းနှင်၍ မရကြလေ။

ဆင်တင်းကုပ်မှ အခြားဆင်များကို တစ်ကောင်ပြီးတစ်ကောင် ဆွဲထုတ် နင်းသတ်စေသော်လည်း ဆင်များမှာ တစ်ကောင်မျှ မနင်းသတ်ဝံ့ဘဲ ရှိနေကြလေ၏။

သို့နှင့်.....အာဏာသားများလည်း ဘုရင့်ထံ သွားရောက်၍ ကြောက်ကြောက်

ရွှံ့ရွှံ့ သံတော်ဦးတင်ကြရလေသည်။ ဘုရင်လည်း အကြောင်းစုံ ကြားသိတော်မူလျှင်.....

"အမောင်တို့.....မိစ္ဆာဒိဋ္ဌိ မိန်းမယုတ်ကို ကောက်ရိုးများ ဖုံးအုပ်ပြီး မီးတင်ရှို့သတ်စေ" ဟု အမိန့်တော်ချပြန်လေ၏။

## ဂုဏ်တော်နှင့် မေတ္တာသစ္စာ

တလထော်သည် ရှင်ဘုရင်နှင့်တကွ လူများအားလုံးအပေါ် နောက်တစ်ဖန် အထူးအာရုံပြုကာ စူးစိုက်စွာ မေတ္တာအအေးဓာတ်များ ပွားများပို့လွှတ် ခွင့်ရပြန်သည်။ သရဏဂုံသုံးပါးကိုလည်း ထပ်မံ၍ ရွတ်ဆိုဆောက်တည်လိုက်ပြန်၏။

အာဏာသားများမှာ တလထော်အား မီးရှို့သတ်ရန် အမိန့်အရ ပြင်ဆင်၍ နေကြရသော်လည်း စိတ်ထဲကမူ တလထော်အား ရှိန်း၍ ကြောက်၍ပင်နေကြလေ၏။ နောက်ဆုံး ကောက်ရိုးပုံများ ဖုံးအုပ်ကာ မီးတင်ရှို့ကြသော်လည်း မီးရှို့၍ မရဘဲ ရှိကြရပြန်သည်။ ထိုအကြောင်းကို ဘုရင်ကြီးထံ ကြောက်ရွံ့စွာ သံတော်ဦးတင်ကြပြန်ရာ ဘုရင်ကြီးက တလထော်အား ရှေ့တော်သို့ ခေါ်ဆောင်ခဲ့ရန် အမိန့်ချလိုက်၏။

တလထော်ရှေ့တော်သို့ရောက်လျှင် ဘုရင်ကြီးသည် တလထော်အား မြေမြှုပ်၍ ဖို့သတ်ရန် ချက်ချင်း တူးထားသော တွင်းကြီးအနီး၌ ခက်ထန်စွာ ရပ်တည်လျက်က တလထော်အား တွင်းကြီးထဲချကာ ဟိန်းဟောက်ပြောဆိုနေတော့သည်။

"ဒီမှာ.....သူငယ်မ၊ နင့်ဆရာ ဗုဒ္ဓရုပ်ပွားတော်များ ခုနစ်ခုဖြစ်ဖြစ်၊ ရှစ်ခုဖြစ်ဖြစ် တန်ခိုးနဲ့ ကောင်းကင် ပျံတက်တာကို ငါ ကိုယ်တော်မြတ် မြင်ရလျှင် သင့်အသက် ချမ်းသာခွင့်ပေးမယ်၊ ဒီလိုမှ မမြင်ရလို့တော့ နင်လည်း ဒီတွင်းထဲမှာပဲ သေပေတော့၊ နင့်ဆရာ ရုပ်ပွားတွေကိုလည်း ခုနစ်ပိုင်း ခုတ်ထစ်ပြီး လွှင့်ပစ်ရလိမ့်မယ်၊ ကဲ..... ဘယ်လိုလဲ"

တလထော်လည်း ဘုရင်ကြီးအား မည်သို့မျှ စကားမပြန်တော့ဘဲ တွင်းထဲ၌ နေ၍ (နောက်ဆုံးလက်နက်အဖြစ် အင်အားများကို အစွမ်းကုန် အသုံးချလျက်) ဘုရားရှင်အား လက်အုပ်ချီဦးချကာ ရတနာသုံးပါးဂုဏ်ကို အာရုံပြုဆင်ခြင်ပြီးနောက် အောက်ပါအတိုင်း သစ္စာဆိုလိုက်လေ၏။

"အတုမဲ့ ငြိမ်းအေးရာ မဟာပရိနိဗ္ဗာန်စံလွန်တော်မူပြီး ဘုန်းတော်ကြီးသော မြတ်စွာဘုရား....."

"ဘုရားတပည့်တော်မသည် အရှင်မြတ်ကိုယ်စား ရုပ်ပွားဆင်းတုတော်များကို ကောက်ယူဆေးကြော၍ပင် ကိုးကွယ်ပူဇော်ခဲ့ပါသည်။

Buddha is Lord everywhere, his Law is lord everywhere, his Church is lord everywhere, and Buddha, his, law, his Church are everywhere Lord.

"ဗုဒ္ဓဂုဏော အနန္တော၊
ဓမ္မဂုဏော အနန္တော
သံဃဂုဏော အနန္တော။"

"ဘုန်းတော်ကြီးသော မြတ်စွာဘုရား၊ ဘုရား, တရား, သံဃာ ရတနာမြတ်သုံးပါးသည် ပိုင်းခြားမထင် ဂုဏ်အင်အနန္တ ဘုန်းတန်ခိုးတေဇော် ကြီးမြတ်တော်မူလှပါပေသည်ဘုရား"

So may eight images of Buddha
fly up into heaven
at the king's hall !

"ဤမှန်သောသစ္စာစကားကို ဆိုရခြင်းကြောင့် အရှင်မြတ်ကိုယ်တော် စားရုပ်ပွားတော် ရှစ်ဆူတို့သည် တိဿဘုရင့် နန်းရင်ပြင်ပေါ်၌ ကောင်းကင်ထက်မှ ကြွလာစံပယ် တည်နေတော်မူလှည့်ကြပါစေသား.....အရှင်မြတ်ဘုရား။"

မျက်စိတစ်မှိတ်ခန့်အတွင်း ရုပ်ပွားရှစ်ဆူတို့သည် နန်းရင်ပြင်ပေါ် ကောင်းကင်ထက်၌ ကြွလာစံနေတော်မူကြရာ တိဿဘုရင်ကြီးနှင့်တကွ လူပေါင်းများစွာ အံ့အားသရဲ ဖူးတွေ့ကြရလေ၏။ ထိုသတင်းမှာ ခဏချင်း ဥက္ကောဋ္ဌေယျ ဖြစ်သွားသည်။

## တလထော်မှ ဘဒြာဒေဝီ

ထို့နောက် တလထော်က တိဿဘုရင်အား အောက်ပါအတိုင်း ရှင်လင်းပြောပြလေ၏။

"အရှင်မင်းကြီး၊ ကျွန်ုပ်တို့၏ ဆရာမြတ်စွာသည် ယခု ပရိနိဗ္ဗာန် စံလွန်တော်မူပါပြီ။ အသင်မင်းကြီးသည် ဘုရားရှင့် ကိုယ်တော်စား ရုပ်ပွားဆင်းတုတော်များကို ကောင်းကင်၌ ပျံကြွလာသည်ကိုသာလျှင် ဖူးတွေ့နိုင်ပါတော့သည် အရှင်မင်းကြီးသည် အသက်ထင်ရှားရှိနေကြသော မိစ္ဆာဒိဋ္ဌိ ဆရာကြီးများကို ကိုးကွယ်လိုက်နာခဲ့သူဖြစ်သည့်အတိုင်း သူတို့ကို ကောင်းကင် ပျံကြွခိုင်းလျှင် ပို၍ လျော်ကန်သင့်မြတ်ပါလိမ့်မည်။ အရှင်မင်းကြီး၏ ထိုမိစ္ဆာ ဒိဋ္ဌိဆရာကြီးများ ကောင်းကင် ပျံကြွသည်ကို ဘုရားကျွန်တော်မ မြင်တွေ့ချင်လှပါဘိ။"

တိဿဘုရင်လည်း မနေသာတော့ဘဲ သူ့ဆရာကြီးများအား ကောင်းကင်၌ ပျံတက်ရန် အမိန့်ပေးရာ မပျံနိုင်ကြသဖြင့် ဟံသာဝတီ နေပြည်တော်တစ်ခွင်မှ

မိစ္ဆာဒိဋ္ဌိ ဆရာ(ဆာဒူး)ကြီးများအားလုံးကို နှင်ထုတ်လိုက်လေတော့သည်။ တလထော်ကိုလည်း နံ့သာဖြင့် ရေမိုးချိုးစေပြီးနောက် 'ဘဒြာဒေဝိ' ဘွဲ့မည်ဖြင့် မိဖုရားခေါင်ကြီးအဖြစ် တင်မြှောက်လိုက်လေတော့သည်။

ထိုအခါမှစ၍ တိဿဘုရင်သည် တလထော်အား ကျေးဇူးတင်မဆုံး ရှေးထုံးစဉ်လာ သမ္မာဒိဋ္ဌိ ထေရဝါဒသာသနာတော်၌ သက်ဝင်ကိုးကွယ်မြဲ ကိုးကွယ်သွားတော့သတည်း။

[ ပဲခူးမြို့၌ တိဿရာဇာနှင့် ဘဒြာဒေဝီတို့ တည်ထားကိုးကွယ်ခဲ့သော 'ဘုရား ခုနစ်ဆူ' ရှိရာ ယိုယွင်းပျက်စီး၍ မွန်ကေရီ ဘုရင်မကြီး 'ရှင်စောပု' က သက္ကရာဇ် ၈၃၂–ခုနှစ်က ထပ်မံပြင်ဆင်ခဲ့သည်။ မွန်ဘာသာဖြင့် 'ဘုရား ခုနစ်ဆူကျောက်စာ' ၌ ရှုပါ။ ဝံသဒီပနီနှင့် 'ဘားမား ဂေဇက်တီးယား' (ပဲခူးဒိစတြိတ်) တို့ကိုလည်း ကြည့်ပါ။]



၁၄။ ဂျပန်စစ်ဘက်အရာရှိကြီးနှင့် မိုးညှင်းဆရာတော်

မေတ္တာအကြောင်းကိုရေးရာ၌ အထူးသဖြင့် မိုးညှင်းဆရာတော် အကြောင်းကို မဖော်ပြလျှင် ပြည့်စုံသော မေတ္တာကျမ်းတစ်ဖွဲ့ဟု မဆိုနိုင်ချေ။

မိုးညှင်းဆရာတော် (၁၂၄၄-၁၃၂၆) သည် မြန်မာနိုင်ငံ ပဋိပတ္တိ သာသနာဝင်၌ အထူးထင်ရှားသော ဆရာတော်တစ်ပါး ဖြစ်ရုံသာမက အထူးသဖြင့် မေတ္တာရှုပွားပုံ၊ မေတ္တာအကျိုးတရား ခံစားရပုံ (မေတ္တာပေါက်မြောက်ပုံ)တို့နှင့် စပ်လျှင် ဆရာတော်၏ ထေရုပ္ပတ္တိတွင် အပေါ်လွင်ဆုံး ရှုမြင်ရသော ဆရာတော်ဖြစ်သည်။ ထို့ကြောင့်လည်း ဆရာတော်သည် ပဋိပတ္တိ သာသနာတော်ကို ဖြန့်ချိရာ၌ ခေတ်ဦးပိုင်းတွင် အထင်ရှားဆုံး အအောင်မြင်ဆုံး ဖြစ်တော်မူ၏။

နွားရိုင်းများ ၊ မြွေဆိုးများ၊ အမနုဿများနှင့် ပက်ပင်း ရင်ဆိုင်ရရာတွင် ဆရာတော်၏ မေတ္တာအင်အားကို ပို၍သိသာစေခဲ့၏။

ဂျပန်ခေတ်တွင် အိမ်ထောင်သည်ပေါင်း ထောင်ချီ၍ စစ်ပြေးဒုက္ခသည် အဖြစ် ဆရာတော်၏ မေတ္တာကို ခိုလှုံနေကြရာ မည်သည့်အန္တရာယ်မျှ မရှိခဲ့ကြ။

### ဖုံး ၊ သေနတ် ပြီးသော ဆရာတော်

'ဖုံးခိုကျင်း မတူးရ၊ တရားကိုသာ ကြပ်ကြပ်နှလုံးသွင်းကြရမယ်၊ ဒါမှ ဘုရားတပည့် အရိယာ သာဝကဖြစ်မယ်"ဟု မိန့်ကာ ဒုတိယကမ္ဘာစစ် တစ်ခေတ်လုံး တရားဟော၊ တရားပြ မပျက်ခဲ့ပေ။ မိုးညှင်းတိုက်ပေါ်သို့ ချထည့်သော ဖုံးသုံးလုံး

မှာလည်း ကျမှန်းပင် မသိခဲ့ကြ။ သမ္ဗုဒ္ဓေစေတီတည်ရန် စုပုံထားသော သဲပုံထဲ၌သာ မြုပ်ဝင်သွားခဲ့ကြသည်။

အင်္ဂလိပ်များ ပြန်ဝင်အလာတွင်ကား ဗုံးဆံတစ်လုံးသည် ဆရာတော် စကြံန်လျှောက်နေစဉ် ဖွပ်ဝင်၍ ထိမှန်ရာ စကြံကျောင်းမှာ စိစိညက်ညက် ကျေမွသွား၏။ ဆရာတော်လည်း ထိုနေရာ၌ပင် မတ်တတ်က လဲကျသွားရာ ဖုန်မှုန့်နှင့် မီးခိုးလုံးကြီးကြားတွင် မြုပ်ကွယ်သွား၏။

လူအများကမူ "ဆရာတော်တော့ သည်တစ်ခါ ပျံလွန်တော်မူရပါပြီ" ဟုဆိုကာ စိုးရိမ်တကြီး ဝိုင်းအုံလာကြရာမှ ဆရာတော်မှာ ဖုတ်ဖက်ခါ ထလာသည်ကို ဖူးတွေ့ကြရသဖြင့် အံ့သြ ကြည်ညိုကြရပြန်သည်။

## ထိထိနိုက်နိုက် မေတ္တာစာတ် ပို့လွှတ်နည်း

ဂျပန်စစ်ဘက်ဆိုင်ရာ အရာရှိကြီးနှင့် ဆရာတော်တွေ့ဆုံပုံအကြောင်းကို မပြမီ မေတ္တာစာတ်ပို့လွှတ်ပွားများပုံနှင့်စပ်၍ ဆရာတော် မည်သို့ပြုလုပ်လေ့ ရှိကြောင်း ဤ၌ ဦးစွာ ဖော်ပြသင့်၏။

ဆရာတော်၏ မေတ္တာပွားနည်းမှာ စိတ်ဝင်စားဖွယ် ကောင်း၏။ ယေဘုယျ အားဖြင့် ဆရာတော် သင်ပြပေးလေ့ရှိသည်မှာကား အောက်ပါအတိုင်းဖြစ်သည်။

၁။ "တို့အိမ်တွင်းမှာ များသတ္တာ၊ ချမ်းသာကိုယ်စိတ် မြဲပါစေ"
(တို့ရွာတွင်းမှာ ၊ တို့မြို့တွင်းမှာ၊ တို့နိုင်ငံတွင်းမှာ၊ တို့ကမ္ဘာတွင်းမှာ၊ တို့စကြဝဠာတွင်းမှာ၊ အနန္တစကြဝဠာအထိ ဖြန့်၍ပို့ရသည်။)
အရပ်လေးမျက်နှာနှင့်စပ်၍မူ–

၂။ အရှေ့အရပ်မှာ၊ များသတ္တာ၊ ချမ်းသာကိုယ်စိတ် မြဲပါစေ"
(အထက်အောက်ပါ အရပ်ဆယ်မျက်နှာစေ့အောင် မိမိလိုရာ အရပ်သို့ စိတ်ကို စူးစိုက်ရည်မှတ်ပြီး ပို့လွှတ်ရသည်။)

ဤကား တရားပွဲများ၌ ဆရာတော် သင်ကြားရွတ်ဆို ပေးလေ့ရှိသော ယေဘုယျ ပွားပို့နည်းဖြစ်၏။ ဆရာတော်ကိုယ်တိုင် ပွားပို့ရာတွင်ကား ထို့ထက် လေးနက်သော လုပ်ထုံးနည်းစနစ်များကို တွေ့ရသည်။

## တရုတ် ကုလားများအား နည်းပေးပုံ

၁၃၀၁–ခုနှစ်၊ နတ်တော်လဆန်း သုံးရက်နေ့တွင် တရုတ်ပြည်၊ ပီကင်းမြို့၊ အမျိုးကျောင်း 'တရုတ်ပြည်လုံးဆိုင်ရာ ဗုဒ္ဓဘာသာ ဥက္ကဋ္ဌ တရုတ်ဘုန်းတော်ကြီး' ဦးထိုင်ဆူးက လူကြုံမှတစ်ဆင့် လှူဖွယ်တန်းရံ ပစ္စည်းများနှင့်တကွ မိုးညှင်း

ဆရာတော်ထံ စာတစ်စောင် ဆက်ကပ်ဖူးသည်။

ဦးထိုင်ဆွေးကား ၁၉၂၈–ခုနှစ်က အင်္ဂလန်နှင့် ပြင်သစ်နိုင်ငံတို့၌ သာသနာပြုသူ ဖြစ်သည်။ ဆရာတော်ထံ လျှောက်ထားသော သူ၏စာ၌–

"သာသနာပြုရာ၌ အစစအရာရာ အောင်မြင်ရန်နှင့် တရုတ်ပြည်ကြီး၌ မကြာခဏ ကျရောက်လေ့ရှိသော ဘေးရန်များမှ ကင်းဝေး၍ သတ္တဝါအများ ချမ်းသာကြစေရန် တရားနည်းလမ်းကောင်းများ ပေးသနား ချီးမြှင့်ပါရန်" ဟူ၍ ပါရှိသည်။

ထိုစာအရ ဆရာတော်သည် မေတ္တာဘာဝနာ ပွားပို့ပုံကို အတိုချုပ် ရေးပေး လိုက်၏။ အထူးအားဖြင့် အောက်ပါအတိုင်း အချက်လေးချက်ကိုပါ ဖော်ပြ နည်းပေးတော်မူလိုက်သည်။

၁။ မိမိ သွားရောက်လိုသော ဌာနနှင့်၊

၂။ ပြုလုပ်လိုသော ကိစ္စများအတွက် မသွားရောက် မပြုလုပ်မီကပင် ထိုဌာန၊ ထိုကိစ္စနှင့်စပ်ဆိုင်ရာ (လူရော နတ်ပါ) သတ္တဝါများအား ဝဲယာရှေ့နောက် ထက်အောက်ဖီလာ ကြိုတင်၍ မေတ္တာစိတ်ဓာတ်များ ပို့လွှတ် ပွားများသွားရန်၊

၃။ မည်သည့်နေရာမဆို တစ်ဦးနှင့်တစ်ဦး တွေ့ကြုံရလျှင် ထိုမြင်တွေ့ရသူ အပေါ်၌ မိမိက အလျင်ဦးအောင် မေတ္တာပွားရန်၊

၄။ ဆရာတော်ထံမှ မေတ္တာဓာတ်များ အပြည့်အဝ ပေးပို့လိုအပ်လျှင် ဦးထိုင်ဆွေး၏ဓာတ်ပုံ (ကိုယ်လုံးပေါ်)တစ်ပုံ ပေးပို့လိုက်ရန် အထူး ထည့်သွင်း မိန့်မှာတော်မူလိုက်သည်။

ထိုအချက်များကား အလွန်မှတ်သားနာယူဖွယ် ကောင်းလှပါပေ၏။ အနည်းငယ် ရှင်းပါဦးမည်။

ရဲ့ထွင်သုံးသပ် ကြည့်ဦးစို့

၁–၂ အချက်များအရ မိမိသွားရမည့် ခရီးလမ်း တစ်လျှောက်နှင့် နောက်ဆုံး သွားရောက်နေထိုင်ရမည့် ဌာနအထိ မသွားမီ တစ်ရက်နှစ်ရက်က ကြိုတင်မေတ္တာပို့ လွှတ်ထားရ၏။ မော်တော်ပီကယ် လမ်းရှင်း လမ်းစောင့်များ ကြိုတင်ချထားသကဲ့သို့ မှတ်ယူသင့်သည်။

အကယ်၍ ကြိုတင်ချိန် မရသာလျှင် စ၍ ခရီးထွက်ကတည်းက လမ်း တစ်လျှောက် ရှေ့သွားရမည့် ခရီး၊ ကျန်ခဲ့သည့် ခရီး၊ ရောက်ဆဲနေရာ၏

ဝဲယာထက်အောက်ရှိ မြင်ရ၊ မမြင်ရသော သတ္တဝါများအားလုံးအပေါ် မေတ္တာပွားရင်း သွားနေရမည်။ (ကြည်း၊ ရေ၊ လေတပ်များ ပတ်ပတ်လည် အစောင့်ချထားသည်ထက် လုံခြုံ၏။)

ပဓာန တွေ့ဆုံရမည့်သူကိုမူ ပို၍ ဦးစားပေးပွားပို့ရမည်။ ခရီးလမ်း တစ်လျှောက် စောစောင့်တောင်စောင့်နတ်များ၊ မြို့ ရွာ အိမ်ရောက်လျှင် ထို မြို့ရွာ၊ အိမ်စောင့်နတ် များကိုလည်း ပဓာနတွေ့ဆုံရမည့် သူတို့ကဲ့သို့ မေတ္တာပို့၍ အမျှလည်း ပေးဝေရမည်။

### လူချင်းတွေ့လျှင် တစ်ခုခုဖြစ်တော့မည်

၃–အချက်အရ 'လူချင်းတွေ့လျှင် ကိုယ်က ဦးအောင် မေတ္တာပို့ရမည်' ဆိုရာ၌ အလေ့အကျင့် လုပ်ထားမှ ပို့ပြီးသား ဖြစ်နိုင်၏။ ပို့မိလျက်သား ဖြစ်နိုင်၏။ ပို့စတွင် လွှတ်လွှတ် သွားတတ်သည်။ လွှတ်မှန်းသိလျှင် တော်လာပေပြီ။

ဤအချက်လည်း အလွန်မှတ်သားဖွယ်ကောင်းလှ၏။ လူတို့သည် စိတ်ကို ပေါက်လွှတ်ပဲစား ထားကြသည်။ အထိန်းအကွပ် ဘာမျှ မရှိ။ တောင်လေလာ မြောက်ဘက်ယိမ်း၍ မြောက်လေလာ တောင်ဘက်ယိမ်း၏။ ကိုယ့်ခြေထောက် ပေါ် ကိုယ်မရပ်တည်နိုင်ကြ။ ထို့ကြောင့် လမ်းဆုံလမ်းမ၌ ခွေးချင်းကိုက်တာ ကအစ 'ဘာလဲ၊ ဘာဖြစ်တာလဲ'ဟု တစ်ယောက်ကတစ်ရာ ဝိုင်းအုံလာကြသည်။

ကိုယ်ပိုင်အာရုံ မရှိ (အမှတ်သတိ မရှိ) ကြသဖြင့် အာရုံခေါ်ရာ ချက်ချင်းထ၍ လိုက်ပါမျောပါ နေကြရ၏။ အထူးအဆန်း (ဥပမာ –ကားချင်း တိုက်မှု (တစ်စုံတစ်ရာဖြစ်လျှင်မဆိုမဆိုင် ဝိုင်းအုံလာရောက်ရုံမျှမက အာရုံဆွဲခေါ် ချက်အရ တဘက်ဘက်၌ ပါဝင်ကာ အချောင် တရားခံ၊ အငှား တရားခံ ဖြစ်သည်အထိ မျောပါနေကြလေသည်။ စားစုတ်ရာ လက်လျှိုမိကြရ၏။

လောကဥပဒေအရ မည်သည့်အပြစ် တစ်စုံတစ်ရာမျှ မဖြစ်စေဦး၊ အဘိဓမ္မာ စိတ္တနိယာမ အရကား စိတ်ကိုအထိန်းမရှိဘဲ လွှတ်ထားသဖြင့် ထိုမြင်ရ၊တွေ့ရ၊ ကြားရသောအာရုံ (မြင်ကွင်း)ကပင် မိမိလည်ပင်း၌ ကြိုးကွင်းစွပ် ဖမ်းယူ ခေါ်ဆောင်သွားလေပြီ။

ထိုမြင်ရ၊ ကြားရသည့်အတွက် အလကားနေရင်း မဆိုမဆိုင် လောဘ၊ သို့မဟုတ် ဒေါသ, ဒေါမနဿ စသည် တစ်ခုခု ဝင်လာသည်မှာ သေချာ လှပေ၏။ အာရုံအတိုက်ကြမ်းလျှင် ကြမ်းသလောက် စူးဝင်လေသည်။ ဆော်ဒီဂဒ်ပမာ ကိုယ့်အာရုံနှင့်ကိုယ် မသွားလာနိုင်ကြသဖြင့် ရန်သူများ ဝင်ရောက်သတ်ဖြတ်ခြင်း ခံရလေတော့၏။ (မေတ္တာ, သတိပဋ္ဌာန်အလုပ် မည်မျှ အရေးပါကြောင်း သတိပြုပါ။)

လူတစ်ဦးက တစ်ဦးကို လမ်းမှာတွေ့ရာ၌ပင်လျှင် မိမိမှာ မဆီမဆိုင် အကုသိုလ်ဝင်၏။ ကြိုက်ဖွယ်ရာဖြစ်လျှင် ကြိုက်၏၊ (လောဘ)။ မုန်းစရာတွေ့လျှင် မုန်း၏၊(ဒေါသ)။ ရံခါ တွေ့ရသူအပေါ် ဘာမျှမဆိုင်ဘဲလျက် အလိုလိုနေရင်းက မျက်မုန်းကျိုးနေမိတတ်၏။ အမျိုးသမီးများ၌ ပို၍ ထင်ရှားသည်။ ဝတ်ကောင်းစားလှနှင့် လာသူကို တွေ့လျှင် (လိင်တူချင်းပင်) သမင်လည်ပြန် ကြည့်နေတတ်၏။ ရံခါ 'သူ့ရုပ်နဲ့များ ဝတ်လာလိုက်တာ ညွန့်လို့' ဟု မဆီမဆိုင် မေးငေါ့ နှာခေါင်းရှုံ့၏။

ရံခါ ခဏခေတ္တ တွေ့ရသူကိုပင် အထင်သေး၏။ အဖက် မလုပ်လို၊ ရွှတ်ချက်ရဲ့၏။ ရံခါ မိမိထက်သာသူကို တွေ့လျှင် (ဥပမာ–လမ်းလျှောက်ရင်း ကားကောင်းကောင်းစီးလာသူကို တွေ့လျှင်) မနာလို၊ ရံခါ အောက်ကျို့မာန် (ဟီနမာန်)ဖြင့် အန်တု၏။ ဆုံးရှုံးစေလို၏။ ဂျောက်ကျစေလို၏။

ရံခါ ရှက်ခြင်း၊ ကြောက်ရွံ့ခြင်း၊ ရှိန်ခြင်း၊ ဖက်ပြိုင်ခြင်း၊ ကြွားဝါခြင်း၊ ဟန်ဆောင်ခြင်း (မာယာ သာဌေ ယျ)စသည်ဖြင့် မကောင်းသည့် စိတ်ဓာတ်တွေသာ တစ်ခုမဟုတ်တစ်ခု တစ်ခုပြီးတစ်ခု ဝင်လာတော့၏။ လူချင်းတွေ့လျှင် 'သူက ဘယ်လိုလူစား၊ ငါက ဘယ်လိုလူ' ဟု ဆုံးဖြတ်ချက် ချပြီးသည်အထိ စိတ်ကို လွှတ်ထားကြရာ ခဏတဖြုတ် တွေ့ကြုံရာမှ ဝင်လာသော အကုသိုလ်တို့ကား မနည်းချေ။

ထိုလျှပ်တစ်ပြက် စိတ်ကလေးများကား နှယ်နှယ်ရရ မဟုတ်ချေ။ ချက်ချင်းလည်း ဆင်းရဲရ၍ ငရဲထိအောင်လည်း တွန်းချနိုင်သော စိတ်ပွမျိုးများချည်း ဖြစ်ပေသည်။ မေတ္တာစသော ဘာဝနာ၏ အတွင်းရန်သူများဟုခေါ်၏။

ထိုစိတ်များသည် ရံခါ သတ်ဖြတ်လုယက်သောက်စားသော အပြစ်များထက် ကြီးလေးသွားတတ်လေသည်။

ထို့ကြောင့် 'လူချင်းတွေ့လျှင် ကိုယ်က ဦးအောင် မေတ္တာပို့ပါ' ဆိုသော ဩဝါဒသည် စကားတိုတောင်းသလောက် အကျိုးရှည်လျားလှပေ၏။

ကား, ရထား စသည်ဖြင့် ခရီးသွားရလျှင် "ဒီ ခရီးသွားဖော်များဟာ တစ်သက်မှာ ဒီတစ်ခါ တစ်ခဏပဲ ဆုံစည်းရတဲ့ လူတွေပဲ" စသည် ဆင်ခြင်၍ မေတ္တာပို့ကြရ၏။ ကာယကံ၊ ဝစီကံဖြင့် သွားရင်းဟန်လွဲ ကူညီစောင်မ ကြရ၏။ လေ့ကျင့်လျှင် မခက်၊ အကျိုးသက်ရောက်မှုကား လုပ်ကြည့်မှသာ သိနိုင်၏။ အနန္တပင်တကား။

### ပစ်ကွင်းကို မြင်ရမှ

နံပါတ် ၄–အရ ကိုယ်လုံးပေါ် ခေတ်ပုံတစ်ပုံ ပို့လိုက်ရန် မှာထားခြင်းအားဖြင့် ပုဂ္ဂိုလ်တစ်စုံတစ်ယောက်အား ဩဓိသ (သီးခြားကွက်၍၊ ရည်စူး၍) မေတ္တာပို့ရာ၌ မေတ္တာခံယူမည့်သူ၏ မျက်လုံးမျက်နှာ ကိုယ်နေကိုယ်ဟန် အကုန်လုံး ခြေဆုံးခေါင်းဆုံး သိမ်းကျုံးလွှမ်းခြုံ၍ အာရုံငုံမိဖို့ အရေးကြီးသည်။

လူကိုယ်တိုင် အနီးမှာ ထိုင်နေသကဲ့သို့ ပီပီပြင်ပြင် မြင်ရပြီးမှ ထိုသူ့အပေါ် မိမိ၏ မေတ္တာစိတ်ဓာတ် အအေးဓာတ်များ စူးစူးစိုက်စိုက် လွှတ်နိုင်မည် ဖြစ်၏။ မမြင်ရသော (အဒိဋ္ဌ)ပုဂ္ဂိုလ်ထက်၊ မြင်ရသော (ဒိဋ္ဌ)ပုဂ္ဂိုလ်ကို ပို့ရာ၌ ပို၍ ထိခိုက် သက်ရောက်စေနိုင်သောကြောင့်ဖြစ်ပေသည်။

ယင်းသို့ မေတ္တာ၏ အာရုံပစ်ကွင်းဖြစ်သော မေတ္တာခံပုဂ္ဂိုလ်အား အနီးကပ် အသေးစိတ် မြင်နေရသကဲ့သို့ ပွားများသူ၏ စိတ်ထဲ၌ ထင်းထင်းကြီး မြင်နေရလျှင်ပင် "မိမိ၏ မေတ္တာဓာတ်များ ထိုသူ့ထံ မှုချရောက်ရှိ လွှမ်းခြုံသွားပြီး သူ့မှာ ချမ်းသာ ရသွားပြီ"ဟု မလွဲမသွေ မှတ်ယူရမည်။ ခြွင်းချက်မရှိ ယုံကြည်နေရမည်။

### မမျှော်နှင့် မကြောက်နှင့်

တစ်စုံတစ်ရာ ကိုယ်ကျိုးစီးပွားရေး၊ ကိုယ်ကျိုးမျှော်စိတ် အလျဉ်း မရှိစေရ၊ မေတ္တာခံယူသူအတွက် ကောင်းစား ချမ်းသာစေချင်သည့် စိတ်သာ ထားရှိရမည်။

သင့်စိတ်ကသာ သင့်အား အကျိုးပေးမည်။ ထိုလူက ပေးမည် မဟုတ်။ ကွဲအောင်ကြည့်၊ မမျှော်နှင့်၊ မကြောက်နှင့်။

ရန်အောင်ခြင်း၊ လာဘ်ရခြင်း စသည်မှာ မည်သူမည်ဝါက ကယ်သည်၊ ပေးသည်ဟု ရံခါ ပုဂ္ဂိုလ်လိုက်၍ ဆိုရမည်ရှိသော်လည်း စင်စစ် မည်သူမည်ဝါ သည် ပဓာန မဟုတ်ချေ။ မိမိထားရှိသော၊ ပို့လွှတ်သော မေတ္တာကပင် အနုအရင့် အလိုက် အကျိုးပေးခြင်း ဖြစ်ပေသည်။

တစ်ဖန် ထိုနှစ် တန်ဆောင်မုန်းလဆန်း ၁၅–ရက်နေ့တွင်လည်း ရန်ကုန်မြို့ 'ဂရုတ်တိ နိဒိသဘာ' ဟိန္ဒူဘာသာဝင်တို့ အချင်းချင်း ချစ်ခင်ညီညွတ်မှု ရရှိကြ စေရန် ဩဝါဒတရား တောင်းခံလျှောက်ထားရာတွင်လည်း ဆရာတော်သည်–

"ကိုယ်ရော နှုတ်ရော စိတ်ပါလက်ပါ တစ်နေ့ ၁၀ကြိမ်, ၁၅ကြိမ် ထက် မနည်း အကျိုးစီးပွား လိုလားသောစိတ်ဖြင့် မေတ္တာပွားများရန် " ပြန်ကြားတော် မူလိုက်သည်။

## စစ်ပွဲကြီးများအတွက် မေတ္တာ

အထက်ပါ တရုတ်၊ အိန္ဒိယ ဘာသာရေးခေါင်းဆောင်ကြီးများအား နည်းပေးပုံကို ကြည့်ခြင်းအားဖြင့် ဆရာတော်သာသနာပြုရာ၌ ဘေးရန်ကင်းရှင်း၍ အဘက်ဘက်က ကြီးမားသော အောင်မြင်မှု ရတော်မူရာတွင် အဘယ်တရားကို လက်ကိုင်ပြုတော်မူသွားကြောင်း သိသာလှပေသည်။ အတုယူကြကုန်။

ကမ္ဘာပေါ်၌ တစ်ပြည်နှင့်တစ်ပြည် စစ်ပွဲကြီးများ မကြာခဏ ဖြစ်ပွားလေ့ရှိရာ ထိုအခါမျိုးတွင် သမာဓိအင်အားရှိသော ယောဂီများ၊ ဗုဒ္ဓဘာသာဝင်များအနေဖြင့် အမှုမဲ့ အမှတ်မဲ့ မနေကြဘဲ တစ်ဦးတည်းဖြစ်စေ၊ စုပေါင်း၍ဖြစ်စေ မေတ္တာအအေး ဓာတ်များ ပို့လွှတ်ပေးရန် လိုအပ်ပေသည်။

ထိုကိစ္စနှင့် စပ်၍လည်း မိုးညှင်းဆရာတော် အသုံးပြုသော နည်းသည် စိတ်ဝင်စားဖွယ်ကောင်းလှ၏။

ဒုတိယကမ္ဘာစစ် မဖြစ်မီလေးတွင် အီတလီနှင့် အဗက်ဆီးနီးယား (ယခု အီသီယိုပီးယား) နှစ်ပြည်ထောင် စစ်မက်ဖြစ်ပွားကြရာ လူအများ သေကျေပျက်စီး ကြကြောင်း ဆရာတော် ကြားသိတော်မူရာ တပည့်ကြီးဖြစ်သူ နေရင်း ဦးကောဝိဒ အား ထိုနေ့ ညဦးယံ၌ပင် အနားသို့ ခေါ်၍ (ကမ္ဘာမြေပုံကြီးတစ်ချပ်ကိုလည်း ရှေ့မှာဖြန့်ခင်းလျက်)–

"ဟောဒီမှာကြည့်စမ်း ဖိုးကောရ၊ အီတလီနဲ့ အဗက်ဆီးနီးယား စစ်ဖြစ် နေကြလို့ သတ္တဝါတွေ သေကျေပျက်စီးလိုက်ကြတာ အလွန်သနားစရာ ကောင်းတယ်၊ သူတို့ အဲဒီဘေးက လွတ်အောင် မေတ္တာပို့ကြရမယ်ကွယ့်၊ ထိုစစ်ဘေးကြီး တစ်နည်းနည်းနဲ့ အေးသွားတယ်ဆိုရင်ပဲ ကိုယ့်ရဲ့မေတ္တာ အောင်ပြီလို့ မှတ်ရမယ်" ဟု အမိန့်ရှိကာ နေ့ရောညပါ မေတ္တာပွားပို့ တော်မူလေသည်။ တပည့်များကိုလည်း ပွားပို့စေတော်မူ၏။

မေတ္တာပွားပို့၍ ၅–ရက်အရတွင် ထိုစစ်ပွဲကြီး ပြေငြိမ်းကြောင်း သတင်းစာများ၌ ကြေးနန်းသတင်း ပါလာသည်ကို ဖတ်ရှုကြည့်နှုးကြရ၏။

"ဆရာတော့် မေတ္တာပို့လို့ စစ်ပြေငြိမ်းတာ မဟုတ်ပါဘူး ၊ အဲဒီအချိန်က အင်္ဂလိပ်နဲ့ အမေရိကန် ခေါင်းဆောင်တွေက ဘာဖြစ်လို့၊ ညာဖြစ်လို့" စသည်ဖြင့် မိမိတို့ သဘောပေါက်သလောက်ကလေးကို အခိုင်အမာပြု၍ သူတော်ကောင်းတရား များကို မပဟန့်တားမိအောင်လည်း သတိပြုကြရာ၏။

အထက်ပါ ဖြစ်ရပ်ကိုထောက်၍ လူတစ်ဦးတစ်ယောက်ထံ မေတ္တာဓာတ်များ ပို့လွှတ်ပွားများရာ၌ ထိုသူ၏ ကိုယ်နေကိုယ်ဟန် ပီပြင်ထင်ရှားစွာ စိတ်ထဲ၌ မြင်နေရန် လိုအပ်သဖြင့် ဓာတ်ပုံကို သုံးသင့်က သုံးရသကဲ့သို့ အရပ်ဒေသတစ်ခုဆီသို့

ပွားပို့ရာ၌လည်း မိမိစိတ်ထဲ၌ တတ်နိုင်သမျှ ထိုအရပ်ဒေသကို ခြင့်၍ ထင်မြင်မှုရရှိရန် အထူးလိုအပ်လှပေသည်။ ထိုအတွက် မြေပုံကို သုံးသင့်က သုံးရကြောင်း ဆရာတော် သင်ခန်းစာ ပေးတော်မူခဲ့လေသည်။

## ဂျပန်စစ်ဘက်အရာရှိကြီးနှင့် ဆရာတော်

ဒုတိယကမ္ဘာစစ်ကြီးအတွင်း မုံရွာမြို့ပေါ်သို့ တာဝန်အရ ရောက်ရှိလာသော ဂျပန်စစ်ဘက် အရာရှိကြီးတစ်ဦးက မိုးညှင်းဆရာတော်ထံ လာရောက်တွေ့ဆုံပုံ ဖြစ်ရပ်တစ်ခုမှာလည်း စိတ်ဝင်စားဖွယ်ကောင်းသော ဖြစ်ရပ်တစ်ခုဖြစ်ခဲ့၏။

အဆိုပါ အရာရှိကြီးသည် စစ်ပြေးဒုက္ခသည် နှစ်ထောင်ခန့် ခိုအောင်း နေသော မိုးညှင်းတောရတိုက်ကြီးအား စစ်အရာရှိတစ်ဦးအမြင်၌ မည်သို့ရှုမြင်၍ မည်သို့စီမံခန့်ခွဲရန် အကြောင်းကိစ္စရှိသည် မသိ၊ မိုးညှင်းဆရာတော်နှင့် တွေ့ဆုံပေးရန် မြို့အုပ်ချုပ်ရေးပိုင်း လူကြီးများအား ဆင့်ဆိုအမိန့်ပေးလိုက်သည်။

သွားရောက်မတွေ့ဆုံမီ ဂျပန်စစ်ဘက်အရာရှိကြီးသည် ဆရာတော်ထံ မြို့ခံ လူကြီးများအား ပထမ စေလွှတ်၍ အကြောင်းကြား၏။ စာတစ်စောင်ကိုလည်း ရေးပေးလိုက်သည်။

ထိုစာ၌ ဆရာတော့်ထံ သူလာရောက်တွေ့ဆုံသောအခါ ဆရာတော်က လိုက်နာခွင့် ပေးရမည့် အချက်သုံးချက်ကို တင်ပြတောင်းခံထား၏။

၁။ ဖိနပ်၊ ဦးထုပ် မချွတ်ဘဲ လက်နက်ဖြင့် ဝင်ခွင့်ပြုရန်၊

၂။ အရိုအသေမပေး (ရှိမခိုး)ဘဲ တွေ့ခွင့်ပြုရန်၊

၃။ တန်းတူ ကုလားထိုင်ဖြင့် ထိုင်ခွင့်ပြုရန်။

မြို့ခံလူကြီးများမှာ စာကို ယူဆောင်ပြီး စစ်မိန့်ဖြစ်၍သာ မလွှဲမရှောင်သာ သွားကြရ၏။ ဆရာတော်ကိုမူ လျှောက်ထားရန် မရဲ့မရဲ ရှိနေကြ၏။

မိုးညှင်းတောရသို့ ရောက်သောအခါ ဆရာတော်က.....

"သြော်...ဒီကိစ္စလား၊ အရေးမကြီးပါဘူး ၊ သူ စိတ်ချမ်းသာသလို လာလိုတဲ့ အချိန် လာပါစေ"ဟု အမိန့်ရှိခါမှ လူကြီးများ စိတ်အေးသွားကြသည်။

နောက်တစ်ရက် အဆိုပါ စစ်ဘက်အရာရှိကြီးနှင့်အတူ မြို့ခံလူကြီးများ မိုးညှင်းတောရတိုက်ကြီးသို့ သွားကြရာ မြို့ခံလူကြီးများအားလုံး အံ့အားသင့်ကုန်ကြ တော့သည်။

အကြောင်းကား.....

၁။ အရာရှိကြီးသည် ဆရာတော်ကို မဖူးတွေ့ရမီ မိုးညှင်းတောရ အဝင်က ပင် ဦးထုပ်ဖိနပ်များ သူ့အလိုလို ချွတ်၍ လက်နက်ကိုပင်

မကိုင်ဆောင်ဘဲ ဝင်သွား၏။

၂။ ဆရာတော်ကို တွေ့လျှင် မြန်မာများကဲ့သို့ ကုန်း၍ ဦးချ၏။

၃။ အသင့်ယူဥ်ချထားသော ကုလားထိုင်ကို ဆရာတော်က ထိုင်ရန် လက်ညှိုး ထိုးပြ၍ ခွင့်ပြုသော်လည်း အများနည်းတူ နိမ့်ရာကပင် ထိုင်၍ တစိမ်စိမ့် ကြည့်ရှုနေတော့သည်။

အနည်းငယ် အာလာပ သလ္လာပစကား ပြောဆိုပြီးနောက် ပြန်ခါနီးတွင်– "ကျွန်တော်တို့ နိပ္ပွန်လူမျိုးများ စစ်နိုင်အောင် ဆုတောင်းပေးပါ" ဟု လျှောက်ရာ ဆရာတော်က .....

"ကောင်းပါပြီ၊ သတ္တဝါအားလုံး ချမ်းသာအောင် မေတ္တာပို့ပေးပါ့မယ်"ဟု (ပရိယာယ်အားဖြင့်) မိန့်တော်မူလိုက်လေသည်။

စကားပြန်ကမူ မည်သို့ ဘာသာပြန်လေသည် မသိ။ ဂျပန်စစ်ဘက် အရာရှိကြီးမှာ မြန်မာလို ဦးချရှိခိုးပြီး ဝမ်းသာအားရ ပြန်သွားတော့၏။ မည်သို့မျှ စိမ်ခန့်ခြင်း မပြု။

လိုက်ပါလာသူ မြန်မာများအားလုံးမှာလည်း ဆရာတော်၏ သီလ၊ သမာဓိ၊ ပညာနှင့် မေတ္တာအင်အားကို ကြည်ညိုမဆုံး ရှိကြရလေတော့သည်။

ယင်းသို့ဖြစ်ရသည်မှာ မိမိချမ်းသာအောင်၊ အနှောင့်အယှက် မရှိအောင်၊ မိမိ အသာရအောင် စသော စိတ်မျိုးနှင့် ထူထောင်သော မေတ္တာ မဟုတ်ချေ။ သတ္တဝါ တစ်စုံတစ်ယောက်ကို မြင်ရုံကြားရုံမျှဖြင့် ထိုသူ၏ အခြေအနေကို သိမြင်တော်မူကြသည့် အားလျော်စွာ သူတော်ကောင်းကြီးများ၌ လွန်စွာ သနား စောင့်ရှောက်လိုစိတ် ဖြစ်တော်မူကြရလေသည်။

ထိုကရုဏာစိတ်ကို အရင်းခံ၍ သတ္တဝါများ ချမ်းသာကောင်းစားစေလိုသော စိတ်ထားများ အလိုလိုပင် ဖြစ်ပွားနေတတ်ကြ၏။ မည်သည့် လောကီ မျှော်လင့်ချက်မျှ မပါသော မေတ္တာဖြစ်ကြောင်း သတိပြု အတုယူကြရာ၏။



**၁၅။ စစ်ပွဲကြားက ဝေဘူဆရာတော်**

"ဆရာတော်ကို ဖူးလိုက်ရတာ ကျွန်တော့် ရင်ထဲကို အေးသွားတာပဲ"

ဝေဘူဆရာတော် (၁၂၅၇–၁၃၃၉) အား ဖူးတွေ့ရသူများ ပြောလေ့ပြောထရှိသော စကားဖြစ်သည်။ မည်သည့်တရားစကား တစ်လုံး တစ်ပါဒမျှ မကြားနာရသေးခင် ဖူးမြင်ရကာမျှဖြင့် အေးငြိမ်းမှုအရသာ ခံစားကြရသည်မှာ တူညီသော တွေ့ထိချက်ဖြစ်၏။

မေတ္တာရောင်ပြန်ဟပ်ခြင်းပင်တည်း။

အင်အားရှိသော သူတော်ကောင်းကြီးများ၏ သီလ မေတ္တာသည် တစ်ကိုယ်ရေအတွက်သာ သုံးစားလို့ ရသည်မဟုတ်။ ထိစပ်ခွင့်ရသူအားလုံးသို့လည်း ပျံ့နှံ့၏။ ထို့ကြောင့် သမာဓိထူထောင်နေကြသော ယောဂီတိုင်း နေ့စဉ် ဝတ်ထား၍ မေတ္တာအအေးဓာတ်များကို ကမ္ဘာတစ်ခွင်လုံးသို့ ပို့လွှတ်သင့်ကြသည်။

**လူမသေသော တိုက်ပွဲ**

ဆရာတော်သည် ဒုတိယကမ္ဘာစစ်အတွင်း ကျောက်ဆည် ဝေဘူချောင်နှင့် အင်ကြင်းပင် တောကျောင်း၌ သီတင်းသုံးရာ ထိုနှစ်ဌာနလုံး၌ပင် ဗုံး သေနတ်စသော လက်နက်ဘေးရန်များ မကျရောက်ခဲ့ပေ။ အထူးသဖြင့် ဂျပန်များ ဝင်လာသောအခါ ကျောက်ဆည်ဝေဘူချောင်၌ ဂျပန်နှင့် တရုတ် တပ်များ တောင်ပေါ်နှင့်တောင်အောက် အပြန်အလှန် တစ်နေကုန် ပစ်ခတ်ကြ၏။ မည်သူ တစ်ဦးတစ်ယောက်မျှ

ထိခိုက်ခြင်း မရှိ။

ကျောက်ဆည်မြို့ ဝေဘူချောင်၏ အနေအထားသည် စစ်ရေးစစ်ရာ အတွက် အကွက်အကွင်းကျသော ဌာနဖြစ်သည့်အတိုင်း ဝေဘူချောင် တောင်ဝှမ်းမြေပြန့်ရှိ လျှိုမြောင်အကြား၌ ဆရာတော်နှင့်အတူ ယောဂီများ နေထိုင်ကြစဉ် တရုတ်တပ်များကမူ သုံးဘက်သုံးတန် ဝန်းရံလျက်ရှိသော တောင်ရိုးအမြင့်ပေါ်၌ တပ်စွဲထားကြသည်။

ဂျပန်များမှာ ယောဂီများနေသော မြေပြန့်တောင်ဝှမ်း၌ တပ်စွဲကြကုန်၏။ တောင်ပေါ်နှင့် တောင်အောက် တပ်များ တစ်နေကုန် အမြှုန်အလုန် ပစ်ခတ်ကြရာ ကျည်ဆန်များ မိုးရွာသကဲ့သို့ရှိသည်။ ဆရာတော်နှင့် ယောဂီများမှာ မိမိတို့ တရားကျောင်းကလေး အသီးသီး၌ နေထိုင်ကြရာ ဆရာတော်နှင့် ယောဂီများသာမက နှစ်ဘက် စစ်သားများမှာ တစ်ဦးတလေမျှ ထိမှန်သေဆုံးခြင်း မရှိ၍ အားလုံး အံ့အားသင့်ကြရ၏။ ယခုတိုင် ပြောစမှတ်ကြီး တွင်နေတော့သည်။

ကျောင်းဒကာကြီး သူဌေးဦးပျော့တို့၏ မိသားစုလည်း စစ်အတွင်း ဝေဘူချောင်၌ ဆရာတော်၏ မေတ္တာရိပ်ကို ခိုလှုံနေကြရာ တစ်နေ့သောအခါတွင် ကျောင်းဒကာကြီး၏ သမီးကို ဂျပန်စစ်သားများက ဖမ်းဆီး ခေါ်ဆောင်သွားကြ၏။ ကျောင်းဝင်း အထွက်မှာပင် လွတ်မြောက်လာခဲ့လေသည်။

ဝေဘူချောင်သည် တောင်ဝှမ်းတောချုံများ ထူထပ်ရာအရပ်ဖြစ်၍ အစောပိုင်းက ကျားများ၊ မြွေဆိုးများ အလွန်ပေါသော ဒေသဖြစ်၏။ ယခုတိုင် မည်သည့်ယောဂီ တစ်ဦးတလေမျှ တောတိရစ္ဆာန်များကြောင့် အန္တရာယ် မရှိခဲ့ဖူးချေ။

**ခွေးနှစ်ကောင်က ဟောပြသောတရား**

ထို့ထက် အံ့သြဖွယ်ကောင်းသည်မှာ ဆရာတော်နှင့်တကွ သံဃာတော်များ ဆွမ်းခံကြွလျှင် ရှေ့ဆုံးမှ ကြေးစည်တီး၍ နိဗ္ဗာန်ဆော် လုပ်ရသူ ဦးမောင်ကြီး၏ ကိုယ်တွေ့ ဆရာတော်၏ မေတ္တာပင်ဖြစ်သည်။

ဦးမောင်ကြီးကား ဝေဘူချောင်နှင့် ကပ်လျက်ရှိသော ဖောင်ရွာ ဇာတိဖြစ်၏။ ဝေဘူဆရာတော်သည် နေ့စဉ် ထိုရွာကို ဖြတ်လျက် ဆွမ်းခံ ကြွမြဲဖြစ်သည့်အပြင် ဖောင်ရွာသည် ကျောင်းဒကာကြီး ဦးပျော့ နေထိုင်သော ရွာဖြစ်၏။ ဆရာတော်၏ ကျေးဇူးဂုဏ်ကို တစ်ရွာလုံးက သိရှိကြ၏။ ကုလားလူမျိုးများပင် ဆရာတော်ထံ ရဟန်းပြုသူ ပြုခဲ့ကြသည်။

ယင်း နှစ်ပေါင်းငါးဆယ်ကျော် တိုင်းပြည်နှင့်အဝန်း ကျော်ကြား၍ လူအများ စည်ကားသိုက်မြိုက်စွာ ဝင်ထွက်ပူဇော်နေကြသော်လည်း ဦးမောင်ကြီး တစ်ယောက်

ဆရာတော်ထံ ချဉ်းကပ်ဦးချရမှန်း မသိခဲ့ချေ။ မူးယစ်သောက်စား၍ ဖောက်ပြား ဟောက်ရမ်းနေသူလည်း မဟုတ်၊ ဘာသိဘာသာ နေလာခဲ့ရာ အသက် ငါးဆယ်ပင် ကျော်လာ၏။

တစ်နေ့တွင် ဦးမောင်ကြီးသည် ဖောင်ရွာတောင်ဘက် လမ်းမသို့ ထွက်အလာ နွားသိုးနှစ်ကောင်မှာ တစ်ကောင့်တစ်ကောင် အနိုင်မခံ အရှုံးမပေး ပြေးလိုက်ဇော့လိုက် လုပ်နေရာ နှစ်ကောင်စလုံး သွေးသံတရဲရဲ ဖြစ်နေ၏။ ဦးမောင်ကြီးလည်း တုတ်ခဲများဖြင့် နွားရန်ပွဲကို ဖျဉ်လေရာ မရဘဲ တစ်ရွေ့ရွေ့နှင့် ဝေဘူချောင်ဘက်သို့ ဦးတည်ကာ ပြေးလိုက်ဇော့လိုက် လုပ်နေကြ၏။ ဦးမောင်ကြီးလည်း နောက်မှလိုက်၍ ခဲနှင့်ပေါက်ရာ မရဘဲ ဖြစ်နေ၏။

နွားနှစ်ကောင်စလုံး ချောင်အတွင်း ကျောင်းဝင်းနယ်နိမိတ်သို့ ဝင်ရောက် သွားသောအခါ ဦးမောင်ကြီးမှာ လက်ထဲက ခဲပင် လွတ်ကျသွားကာ အံ့အားသင့်ပြီး ငေးကြည့်နေမိသည်။

သွေးသံတစက်စက်ကျနေသော နွားနှစ်ကောင်မှာ ချက်ချင်းပင် စိတ်ပြောင်းကာ တစ်ကောင့်တစ်ကောင် အချင်းချင်း အပြန်အလှန် သွေးစသွေးနများကို လျှာဖြင့် လျက်၍ နွားသားအမိ ကလူကျီစယ်နေသကဲ့သို့ တွေ့မြင်ရ၏။ ဦးမောင်ကြီးလည်း အနီးရှိ မန်ကျည်းပင်ရိပ်၌ ခိုနားကာ နွားနှစ်ကောင်ကိုကြည့်ရင်း အသိထူးတစ်ခု ဝင်လာလေတော့သည်။

“ဝေဘူချောင် နယ်နိမိတ်ထဲ ဝင်မိရုံနဲ့ အဟိတ်တိရစ္ဆာန်များကတောင် ဒေါသတွေ ပြေပျောက်ပြီး ဆရာတော်၏ မေတ္တာရိပ်ကို ခိုလှုံရကောင်းမှန်း၊ လေးစားရကောင်းမှန်း သိကြတယ်။ ဆရာတော်ရဲ့ မေတ္တာဓာတ်ဟာ ရိုင်းစိုင်း ကြမ်းကြုတ်တဲ့ တိရစ္ဆာန်တွေကတောင် ယဉ်ကျေးသိမ်မွေ့အောင် ဆွဲဆောင်တော် မူနိုင်ပါပေတယ်။ ငါ့မှာ ဖောင်ရွာသား ဖြစ်သော်လည်း နေ့စဉ် ဖူးမြင်နေရတဲ့ ဆရာတော်ရဲ့ ဂုဏ်ကျေးဇူးကို မသိလေခြင်း”။

ဦးမောင်ကြီးလည်း မန်ကျည်းပင်ရိပ်၌ သက်ပြင်းချကာ ထိုင်နေရာမှ ချက်ချင်းထ၍ ဆရာတော်သီတင်းသုံးသော ကမ္မဋ္ဌာန်းကျောင်းကလေးဆီသို့ ခေါင်းငိုက်စိုက်ကျကာ တရွေ့ရွေ့ လှမ်းသွားတော့၏။

နောက်တစ်ရက်မှစ၍ ဆွမ်းခံ သံဃာတန်းရှေ့၌ ဦးမောင်ကြီးတစ်ယောက် ကြေးစည်တီးကာ နိဗ္ဗာန်ဆော်အဖြစ် လိုက်ပါလာသည်ကို တွေ့မြင်ရသဖြင့် ရွာသား တို့ အံ့သြနေကြ၏။

ဦးမောင်ကြီးအား နွားနှစ်ကောင်က ဟောပြလိုက်သော ဝေဘူဆရာတော်၏ မေတ္တာတရားကိုမူ ဖောင်ရွာသားတို့ မကြားလိုက်ကြရပေ။

## သူတော်ကောင်းကြီးများ၏ လက်နက်

သီလ မေတ္တာ အခြေခံသော သူတော်ကောင်းတို့၏ အင်အားသည် ကြီးမားလှပေ၏။ စကားစပ်လာသဖြင့် ဝေဘူဆရာတော်၏ ကျေးဇူးဂုဏ်နှင့် စွမ်းအင်သတ္တိကို အနည်းငယ် ဆက်၍ပြဆိုပါဦးအံ့။

၁၃၁၄-ခုနှစ်၊ သီတင်းကျွတ်လပြည့်ကျော် ၆-ရက်နေ့က အဖြစ်အပျက် တစ်ရပ်ဖြစ်၏။

ထိုအချိန်ကား ဆရာတော် ကျော်ကြားကာစ သက်တော်(၅၆)နှစ် မျှသာ ရှိသေး၏။ ဝေဘူချောင်၌ အဆောက်အအုံများ ခမ်းခမ်းနားနား မရှိသေး။

ထိုနေ့ညနေတွင် ဆရာတော်အား ဖူးမြော်ရန် ရပ်ဝေးမှလာသော လူသုံးရာခန့် စုဝေးမိလျက်သား ဖြစ်နေ၏။ ဆရာတော်မှာ မိတ္ထီလာမြို့သို့ ကြွနေခိုက်ဖြစ်၍ အဝေးမှလာသော ဒကာ၊ဒကာမများ ငံ့လင့်နေကြရသည်။ ထိုပရိသတ်အတွင်း တောင်ငူမှ သစ်တောအရေးပိုင် ဦးလှမောင်နှင့် သစ်တောစာရေးကြီး ဦးလှမောင် (ယခု ဦးပဋ္ဌင်းကြီး ဦးဝီရိယ)တို့လည်း တရားအားထုတ်ရန် ရောက်ရှိနေကြ၏။ ရောက်စနေ့ဖြစ်၍ မဖူးတွေ့ရဘူးသေး။

မိတ္ထီလာမှ ကြွလာသောအခါ ရောက်လျှင်ရောက်ချင်း ငံ့လင့်နေသော ပရိသတ်ကြီးအား ထုံးစံအတိုင်း သီလပေးပြီး ငါးမိနစ်ခန့် တရားစကား အနည်းငယ် ပြောဟောတိုက်တွန်းသည်။ တရားစကားရပ်သွားပြီး ဆရာတော် ငြိမ်သက်စွာ အနားယူ (တရားနှလုံးသွင်း) နေသော်လည်း ပရိသတ်ကြီးမှာ ထပြန်သွားသူ မရှိ။ မတုန်မလှုပ် ငြိမ်သက်စွာပင် ကြည်ညိုနေကြ၏။

ထိုအချိန်၌ ဆရာတော်သည် တစ်ခုနှင့်တစ်ခု စကားအဆက်အစပ် မရှိ၊ စကားပလ္လင်ခံလည်း မပါသော စကားဝါကျ သုံးခွန်းကို ထူးထူးခြားခြားကြီး မိန့်တော်မူရာ တစ်ဝါကျနှင့် တစ်ဝါကျ ကြားတွင်လည်း အတန်ကြာ ရပ်ဆိုင်း၍ မိန့်တော်မူသည်။

ပရိသတ်ကြီးမှာ 'အကြောင်းမည်သို့' ဟု မသိ၊ တစ်ယောက်မျက်နှာ တစ်ယောက်ကြည့်ကာ အံ့အားသင့်နေကြ၏။

## ကြွေးဝါးသံ-သီဟနာဒ

"တို့က ရှာပါ၊ ဖွေပါ၊ အကုန်ပြနိုင်တယ်၊ တို့များဟာ ဘုရားအဆုံးအမ အတိုင်း နေတဲ့ တောထဲက ရဟန်းတွေပါ"၊ (စကား ရပ်သွားပြန်၏)။

"ယခု မင်း လုပ်နေတဲ့သူတွေဟာ တိုင်းသူပြည်သားတွေကို ဆင်းရဲအောင် လုပ်နေတယ်၊ ဒါ့ကြောင့် ဘုရားရှင် သာသနာတော်လည်း ညှိုးနွမ်းရတယ်၊

တိုင်းသူပြည်သားတွေ ချမ်းသာရင် သာသနာလည်း ထွန်းတောက်မှာ အမှန်ပဲ"၊ (စကား ရပ်သွားပြန်၏။ နိုင်ငံရေး အခိုးရခေတ်ကို ရည်ညွှန်း၍ မိန့်ဆိုခြင်းဖြစ်သည်။)

ထို့ပြင် ဒီနိုင်ငံကို အနီးအနား နိုင်ငံကြီးတွေက ဘာကြီးနဲ့ ပစ်လိုက်မယ်၊ ဘာကြီးနဲ့ ကြဲလိုက်မယ် စသည်အားဖြင့် ခြိမ်းခြောက်နေကြတယ်"။

"နိဗ္ဗာန်မဂ်ဖိုလ် ရရာရကြောင်း သူတော်ကောင်းတရားကို ကျင့်ကြံရတာ ခက်သလောက် လောကီအလုပ်ဟာ အင်မတန် လွယ်ပါတယ်"။

"ဘယ်လောက် လွယ်သလဲဆိုရင် (လက်ညှိုးကိုပင် ထောင်ပြ၍) တို့များက 'ဒီကနေ့ ရပ်ဟေ့' လို့ဆိုရင် ရပ်ရမယ်" (စကားများ မူရင်းအတိုင်း၊ တောင်ငူ ဦးပဥ္ဇင်းကြီး ဦးဝိရိယ အမိန့်ရှိချက်။)

ထိုအချိန်ကား အထူးသဖြင့် ဆရာတော် ကျော်ကြားခါစ ရှိသေး၍ အုပ်ချုပ်ရေး တာဝန်အရ စုံစမ်းထောက်လှမ်းသူများ ပရိသတ်ထဲ၌ ရှိနေဟန် တူလေသည်။ နိုင်ငံရေးအရ အရှေ့မြောက်တိုင်းအခြေအနေ (ကေ၊ တီ၊ အမ်) အရေးကိစ္စမှာလည်း အလွန်ရှုပ်ထွေးနေချိန်ဖြစ်သည်။

အမျိုးဘာသာ သာသနာအတွက် သူတော်ကောင်းကြီးများ ကြောင့်ကြမဲ့ မနေနိုင်ပုံ၊ သတ္တဝါအများက မသိသော်လည်း (အသိပေးရန်ပင် မလိုသော်လည်း) သတ္တဝါများ ချမ်းသာရေးအတွက် စွမ်းအားရှိသမျှ မနေမနား ဆောင်ရွက်တော်မူနေပုံ၊ ထိုအထဲ အလိုက်ကန်းဆိုး မသိသူများကြောင့် အနှောင့်အယှက်ဖြစ်ရပုံ စသည်များကို အပွင့်လင်းဆုံး မိန့်တော်မူနေရဟန် တူလေသည်။

## လောကကို ဘယ်လိုဆောင်ရွောက်

ဗကဖြဟ္မာလောင်းရသေ့ကြီးသည် ဂင်္ဂါမြစ်ကမ်းအနီး မိမိဂေါစရရွာ အား ဓားပြတိုက်ခံရစဉ် အဘိညာဉ်တန်ခိုးဖြင့် စစ်တပ်ဖန်ဆင်း၍ ဓားပြများ ပြန်လမ်းမှ ဆီးကြိုအရောင်ပြကာ ကယ်မ,ရပုံကို သတိရဖွယ်ရှိပေ၏။

ဂင်္ဂါမြစ်ကမ်း ရွာသားတို့ကား ရသေ့ကြီး၏ကျေးဇူးဟု မထင်၊ အရှင် ရသေ့ကလည်း 'ငါလုပ်လိုက်တာ' ဟု ပြောရန်ပင် မဆိုထားဘိ၊ အသိပေးရန်မျှ ပင် လိုလားတော်မမူ။

သတ္တဝါအများ အကျိုးရှိအောင် တတ်နိုင်သည့်ဘက်မှ ဆောင်ရွက်ရမည်မှာ သူတော်ကောင်းတို့၏ တာဝန်ပင်တည်း။

အင်အားအပြည့်ရှိသော အရိယာ သာဝကကြီးတစ်ပါးသည် စကြဝဠာ တစ်ထောင်ကိုပင်လျှင် နယ်နိမိတ်ပြုကာ သွားလာကျက်စား ထိတွေ့နိုင်စွမ်း လေသည်။ ထို့ကြောင့်လည်း–

"ယတ္ထ အရဟန္တော ဝိဟရတိ၊ တံဘူမိ ရာမဏီယကံ= ရဟန္တာ အရှင်မြတ်ကြီးများ သီတင်းသုံးရာဌာနသည် ငြိမ်းချမ်းသာစွာ မွေ့လျော်ဖွယ် ကောင်းလှသည်" ဟု ဟောတော်မူခဲ့သည်။

"မြတ်စွာဘုရားရှင် ကြွရောက် သီတင်းသုံးရာ မြို့ရွာဒေသ၌ တစ္ဆေ ခြေဘုတ်၊ နတ်ယုတ် မိစ္ဆာစသော အမနုဿသတ္တဝါတို့သည် ဒဏ၊ ဒဏမတို့ကို မညှဉ်းဆဲနိုင်" ဟု (သီလက္ခန္ဓဝဂ်သော ဏဒဏ္ဍသုတ်၌) ဟောတော်မူရာ အဋ္ဌကထာ ဆရာက (ဒီ၊ ဋ္ဌ၊ ၁။ ၂၅၆)-

"တန်ခိုးကြီးသော နတ်မင်းကြီးများက စောင့်ရှောက်ကြ၍သာ မဟုတ်၊ ပဓာနအားဖြင့် ဘုရားရှင်၏ မေတ္တာအာနုဘော်ကြောင့်လည်း မညှဉ်းဆဲနိုင်ကြပေ" ဟု ဖွင့်ဆိုတော်မူ၏။

သူတော်ကောင်းကြီးများ၏ ပဓာနအင်အားကို ရှုမြင်လိုက်နာကြကုန်ရာ၏။

## လူမျိုးက ညံ့လို့လား

တချိန်က မြန်မာနိုင်ငံအရှေ့မြောက်တိုင်း၌ တရုတ်ဖြူတပ်များ ထိပါး လာသဖြင့် ကချင်နှင့် ရှမ်းအမျိုးသားများ ဒုက္ခရောက်ခဲ့ကြရ၏။ ရွှေဘိုမြို့မှ ဆရာတော်၏တပည့် ဦးတင်အောင်သည် ထိုသတင်းများကို နေ့စဉ် ကြားသိ နေရသဖြင့် 'ဗမာလူမျိုးများသည် လေယာဉ်၊ ဒုံးပျံ၊ အဏုမြူ မလုပ်တတ်၍ ညံ့ဖျင်း၍ ယခုကဲ့သို့ ခံရကြောင်း 'ဆရာတော်အားလျှောက်ရာ-

"ဟဲ့..... လူမျိုးက ညံ့လို့ မဟုတ်ဘူးဟဲ့၊ ဝီရိယ နည်းနေကြလို့၊ ဘုရားစကား မယုံကြလို့၊ တို့လူမျိုးမှာ ကောင်းသထက်ကောင်းတာတွေ ရှိနေလို့၊ ဘာမဟုတ်တဲ့ ဥစ္စာကလေးကို (အဏုမြူ စသည်ကို ဆိုလိုသည်) မလုပ်တာ၊ နင် ဘာသိလို့လဲ" မိန့်တော်မူလျှင် ဒုက္ခရောက်နေသော သူ များကို ကယ်မ,ချင်ကြောင်း ထပ်၍ လျှောက်ပြန်သဖြင့်-

"ဟဲ့ ..... တင်အောင်၊ နင် ပန်းချီဆရာပဲ၊ လက်နှီးစုတ်ကို နင်ကြိုက်တဲ့ ဆေးရောင်ဆိုးကြည့်စမ်း၊ ရပါ့မလား၊ အဲ - နင့်ကိုယ်က ချေးကို အလျှင် ချွတ်အုံး၊ ပြီးတော့ သူတို့ကိုလည်း ချွတ်ပေး၊ အဲဒီတော့မှ နင်က သူတို့ကို ချမ်းသာပါစေလို့ လုပ်" ဟုမိန့်တော်မူလေသည်။

ဆရာတော်ဘုရားကြီး၏ စကားများမှာ ရောင်တခင် မိန့်ကြားချက်များ ဖြစ်သော်လည်း အလွန် အဓိပ္ပာယ်လေးနက်လှပေသည်။ မေတ္တာဝါဒ၊ ဗုဒ္ဓဝါဒ၌ ရေလဲအမျိုးမျိုးနှင့် သုံး၍ရသော မိန့်ခွန်းတော်များပါပေ။

(ရဟန္တာနှင့် ပုဂ္ဂိုလ်ထူးများ စာအုပ်၌လည်း ပြခဲ့ပြီ၊ ယင်းစာအုပ်၌

မဟာစရိယဦးဒွေးလှိုင်

'သပိတ်အိုင် တောရဆရာတော်' စသော သူတော်ကောင်းကြီးများ၏ မေတ္တာစွမ်းရည်များကိုလည်း ဖတ်ရှုကြည်ညိုနိုင်ကြပါသည်။)

ကမ္ဘာနှင့်အဝန်း ငြိမ်းချမ်းသာယာရေးအတွက် သတ္တဝါတို့၏ ကံတရားကိုသာ ထည့်၍ တွက်ရန် မရှိခဲ့လျှင် (ဝါ–ကမ္မနိယာမ၏ ဟန့်တားမှုသာ မရှိခဲ့လျှင်) သူတော်ကောင်းကြီးများ၏ အင်အားကို အဘယ် အတိုင်းအတာအထိ အားကိုးထိုက်ကြောင်း ရှုမြင်သုံးသပ်ကြရာ၏။

☆

အနှစ် ၄၀ –ကျော် တောပျော် နယ်ခြားသာသနာပြု

**၁၆။ ဆရာတော် အရှင် ဦးဥတ္တမသာရ၏**
**မေတ္တာတောင်တန်း**

ဆရာတော် အရှင်ဦးဥတ္တမသာရဆိုလျှင် တိုင်းပြည်၌ မသိသူ ရှား၏။ အင်္ဂလိပ်အုပ်ချုပ်စဉ် တောင်တန်းဒေသသို့ သွားရောက်ရန် ချုပ်ချယ်သော ခေတ်ကပင် မြန်မာသွေးရင်း၊ ညီရင်းနောင်မယ် ချင်း၊ ကချင်၊ နာဂ စသော တိုင်းစွန်များနှင့် အိန္ဒိယ၊ အာသံ၊ မဏိပူရ နိုင်ငံများသို့ သာသနာပြု ကြွတော်မူသော အာဇာနည် ဘုရားသားတော်တစ်ပါး ဖြစ်တော်မူ၏။သက်တော် ခုနစ်ဆယ်ကျော်သော်လည်း ယခုတိုင် တောင်တန်းနယ်ခြား၌ပင် ပျော်တော်မူနေဆဲ။

**မေတ္တာကိုယ်တွေ့ ပြောပါဆိုလို့**

"ဆရာတော်ဟာ ကြမ်းတမ်းလှတဲ့ အစားအစာ နေရာဒေသတွေမှာ နေပြီး ရေးလိုက်တဲ့စာတွေ ဖတ်ရတော့ နူးညံ့ငြိမ်းအေးလိုက်တာဗျာ" ဆရာတော့်စာများကို ဖတ်ဖူးသူတိုင်းလိုလို ပြောဆိုတတ်သောစကားဖြစ်၏။

'ဆရာတော့်စာများ၌ အဘယ်ကြောင့် နူးညံ့ငြိမ်းအေးသောဓာတ်များ ကိန်းဝင်တည်ရှိနေသနည်း' ဟုကား ဆက်၍စဉ်းစားသော် စာဖတ်သူများ ရှိကောင်းမှ ရှိပေမည်။

ဆရာတော်သည် ယမန်နှစ် ပြာသိုလပြည့်ကျော် (၆)ရက် ၊ (၁၉–၁–၇၈)

နေ က ရန်ကုန်သို့ ကြွလာရာ အထက်ပုစွန်တောင် ၃၂–မဟာသုခလမ်း၊ သာသနာ့ တမန်တော်ကြီး ဓမ္မဃောသက ဦးမောင်မောင်အိမ်၌ ဓမ္မမိတ်ဆွေအချို့ ဖူးတွေ့ကြ ရသည်။ အနှစ် ၄၀–ကျော် တောင်တန်း အတွေ့အကြုံများကို လျှောက်ထား နာယူကြ၏။ တောင်ဝှေးကို အဖော်ပြု၍ တစ်တောင်ကျော် တစ်တောင်တက် ခက်ခဲလှသော ခရီးကြမ်း၊ အသိအကျွမ်း မရှိသော ဒေသ၊ သစ်,ကျား,‌ မြွေ စသော အန္တရာယ်များလှသော အရပ်များတွင် အပတ်တကုတ် သာသနာပြုတော်မူရာ၌–

"လူနှင့်တိရစ္ဆာန်တို့၏ နှောင့်ယှက်မှုဆို၍ တစ်ခါဖူးမျှ မရှိခဲ့ဘူးသည်မှာ အဘယ်သို့သော တရားနှလုံးသွင်းမှု လက်ကိုင်ပြုခဲ့ပါသလဲ" ဟု လျှောက်ကြသူများ လည်း ရှိသည်။ ဆေးကောင်း၊ ဝါးကောင်း၊ ဂါထာ၊ အဆောင်ကောင်း ရှိအံ့ထင်၍ တောင်းသူလည်း မရှား။

## မေတ္တာစိတ်မွေး လေးကျွန်းသနင်း စကြာမင်းသို့

အထူးသဖြင့် သီတင်းသုံးဖော် ရဟန်းတော်များအချင်းချင်းလည်း ဆရာတော့်ထံ သာသနာပြုနည်းကောင်းများ မကြာခဏ တောင်းခံလေ့ရှိကြ၏။ ပရိတ်ကြီး ၁၁– သုတ် ရွတ်ဖတ်ကြောင်း၊ ဗုဒ္ဓါနုဿတိ, မေတ္တာဘာဝနာများကို အထူးပွားများကြောင်း မိန့်တော်မူလေ့ရှိရာ ထိုမျှဖြင့် မကျေနပ်နိုင်သေးသော ရဟန်းတော်များကမူ–

"ဒါဖြင့်ဘုရား၊ ဘယ်လို ကိုယ်တွေ့မေတ္တာ ထူးခြားချက်များ ရှိပါသလဲဟု ထပ်ဆင့်မေးမြန်းစူးစမ်းကြပြန်၏။ မေတ္တာပို့ပါ ဆိုရုံနှင့် စာတတ်သူများပင် ဘဝင် မကျ၊ အခွင့်အရေးကို မြင်မှသာ အလုပ်လုပ်လေ့ရှိသော လူညံ့တို့၏ဉာဉ်ကလေးက ရှိနေကြသည်ပင်။

အဆိုပါ မေးခွန်းများကို ရည်ညွှန်း၍ ဦးမောင်မောင်အိမ် အန္တရာယ်ကင်း ပရိတ်ရွတ်ပွဲ၌ ဆရာတော်သည် 'ကိုယ်တွေ့မေတ္တာနှင့် သာသနာပြု ဗဟုသုတများ' ကို ဟောကြားတော်မူရလေသည်။ ထိုဟောကြားချက်မှ လိုရင်းအချုပ်ကို ၁၃၄၀– ပြည့်နှစ် တပို့တွဲလပြည့်နေ့မှစ၍ 'ဗုဒ္ဓမေ့လောက' စာစောင်တွင် ဆရာတော်ကိုယ်တိုင် ပြန်လည်ရေးပြတော်မူရာ လွန်စွာအားကျဖွယ်၊ ကြည်ညိုအတုယူဖွယ် ကောင်းလှ ပေတော့သည်။

ဆရာတော်သည် ပြည်တွင်းပြည်ပ နှစ်ဌာနလုံး သလုံးမြင်းခေါင်း အားကိုးဖြင့် ခြေလျင်သာ သာသနာပြု ကြွတော်မူလေ့ရှိရာ မည်သည့် အန္တရာယ်မျှ မရှိ၊ 'ဗြဟ္မဝိဟာရ တရား လေးပါးဖြင့်နေသော စကြာမင်းကြီးသည် လေးကျွန်းသားတို့ထံ လှည့်လည်သွားရာ၌ သူ့ထက်ငါ ဝမ်းသာအားရ ကြိုဆိုလေးမြတ်ခြင်း ခံရသကဲ့သို့ လည်းကောင်း၊ ပြန်ကြွတော်မူလျှင်လည်း လေးကျွန်းသားတို့သည် လွမ်းဆွတ်

တ,သပြီး ကျန်ရစ်ရကာ နောက်တစ်ဖန် တွေ့မြင်ရန် ဆန္ဒရှိနေကြသကဲ့သို့ လည်းကောင်း အကြိမ်များစွာ ကိုယ်တွေ့ ကြုံရကြောင်း' အစချီကာ အောက်ပါအတိုင်း ရေးသားထားသည်ကို ဖတ်ရှုကြည်ညိုရပါသည်။

**အဆိပ်နှင့်မီး မနိုးသောမေတ္တာ**

ဤအရှင်ကို ပျား မတုပ်ပါ၊ ယခင် ၁၅-နှစ်ကျော်က ဤအရှင် နေထိုင်သော ကျောင်းသခ်ႋနှင့်အနီးရှိ ကျောက်တောင်ကြီးကမ်းပါး၌ လှည်းဘီး ပမာဏ ပျားကြီးအုံကြီးများ နှစ်စဉ်လာ၍ စွဲလေ့ရှိကြရာ တစ်နှစ်သော ဆောင်း ရာသီတွင် အစိုးရ စိုက်ပျိုးရေးခြံ အလုပ်သမား ချင်းလူမျိုးများက တက်ရောက်၍ မြက်ခြောက်တွေ မီးရှို့ပြီး ပျားအုံများကို ယူရန် ကြိုးစားကြသည်။ ပျားကောင်တွေမှာ မီးခိုးမွှန်၍ စိတ်ဆိုးပြီး ရပ်ထက်ဝန်းကျင်သို့ ပျံသန်းကြရာ တွေ့မြင်သူ လူများ၊ နွားများ၊ ခွေး၊ ဝက်၊ ကြက်ပါမကျန် ဒေါသကြီးစွာနှင့် လိုက်လံတုပ်ကြသည်။

အဆိပ်ပြင်းသော ပျားကြီးမျိုးဖြစ်၍ ပျားတုပ်ချက် အများဆုံးခံကြရသော ပျားဖွပ်သမားများအား ဆေးရုံတင်ပို့ ကုသကြရသည်။ ထိုအချိန်အတွင်း ဤ အရှင်သည် ထောင်ပေါင်းများစွာသော ပျားကောင်တွေ ရှုပ်ယှက်ခပ် ပျံသန်းနေကြရာ အောက်၌ သွားလာလှုပ်ရှားနေခဲ့ရာ ပျားတစ်ကောင်မျှ တုပ်ခြင်းမရှိချေ။ ဤအဖြစ်ကို ချင်းများနှင့် ဂေါ်ရခါး ဒကာများ အံ့သြကြဖူးသည်။

ထိုနည်းတူ ပဆုပ်ပနီသည်လည်း မတုပ်ပါ။ နယ်ခြား တောင်စဉ် တစ်လျှောက် လှည့်လည်နေစဉ်က တစ်နှစ်တွင် ခုနစ်ရွာဗိုလ်တဲနှင့် စာသင်ကျောင်းအနီးရှိ တောင်ရိုး ဆီးချုံ၌ ပဆုပ်ပနီအုံ ရှိနေရာ ဆီးသီး ဆွတ်ယူစားကြသော ကျောင်းသားများ အား ထွက်၍ တုပ်တတ်ကြသည်။

အချို့ဒေသက ပထုံးပနီခေါ်ကြသော အရည်မတည်သော ပျားတစ်မျိုး ဖြစ်၏။ ထိုပျားတုပ်လျှင် နာလွန်း၍ အော်သူအော်၊ ငိုသူငို၍ ပြေးလာတတ်ကြသည်။ တစ်နေ့တွင် 'ဘုန်းကြီးကို တုပ်မည်မဟုတ်ကြောင်း အနီးကပ်၍ ရပ်ပြမည်' ဟု ပြောရာ ကျောင်းသားများမှာ လက်တွေ့သိလိုကြ၍ ဝိုင်းအုံလာကြသည်။

ဆီးချုံနှင့် မလှမ်းမကမ်းရောက်လျှင် ပျားကောင်များ ထွက်လာကြပြီး ကျောင်းသားများအား တရကြမ်းတုပ်ကြ၍ အော်ဟစ်ပြေးသွားကြသည်။

ဤအရှင်တစ်ပါးတည်း ဣန္ဒြေမပျက် ရှေ့သို့တိုးသွားပြီး ဆီးချုံအနီး ကပ်၍ ရပ်ကြည့်နေသော်လည်း ပျားတစ်ကောင်မျှ မတုပ်။ ထိုအခါ ကျောင်းသား များက လက်တွေ့ အံ့သြကြပါသည်။

ထိုနည်းအတူ ဤအရှင်ကို ခွေး မကိုက်ပါ။ အလွန်ဆိုးသော ခွေးဖြစ်စေ၊

ဤအရှင်က ရဲရဲရပ်ပြကြည့်သည်။ လူစိမ်းဆိုလျှင် တွေ့မရှောင် ကိုက်လေ့ရှိသော ခွေးများကပင် ဤအရှင်ကို အနည်းငယ် ဟောင်ရုံသာ ဟောင်တတ်သည်။ အနီးသို့ ချဉ်းကပ်ခြင်းတောင် မပြုကြပါ။ ထို့ကြောင့် ဘယ်ခွေးကိုမျှ မကြောက်ပါ။

## မီးလည်းမလောင် တောင်စောင့်နတ်လည်း ကူမ

ထို့ပြင် ဤအရှင်၏ ကျောင်းပရိဝုဏ် (ကျောင်းဝင်း)အတွင်း၌ တောမီး မလောင်ပါ။ နွေရာသီကာလ ရောက်ပြီဆိုလျှင် နှစ်စဉ် တောမီးများ သုံးဘက်သုံးတန်မှ အဟုန်ပြင်းစွာ လောင်လေ့ရှိကြပေသည်။ သို့သော် ဤအရှင်၏ ကျောင်းပရိဝုဏ် အပိုင်းအခြား နယ်စပ်ရောက်လျှင် လူက မငြိမ်းသတ်ရဘဲ မီးမှာ အလိုလို ရပ်တန့်ပြီး ငြိမ်းစဲသွားလေ့ရှိကြပါသည်။

ဤအရှင်၏ ကျောင်းသခ်္ခန်းသည် တောင်ကြီးပေါ် တောအုပ်ကြီး အတွင်း၌ ရှိရာ တောလည်း တစပ်စာည်း မြက်၊ သစ်ရွက်ခြောက်များ ရောထွေးစပ်ယှက် လျက်ရှိနေကြပါသည်။ သဘာဝအတိုင်းဆိုလျှင် တောက်လျှောက် လောင်လာနိုင်ပါသည်။ ထူးထူးခြားခြား ဆက်မလောင်ဘဲ သူ့အလိုလို ရပ်တန့်၍ ငြိမ်းစွဲ သွားတတ်ကြပါသည်။ မီးကို သစ္စာရှိသည်ဟု ဆိုရမလို ထင်မိ၏။

နတ်များကလည်း ချင်ခင်ကြည်ညိုနေကြဟန် တူပါသည်။ ဤအရှင်၏ ကျောင်းအနီးရှိ ခင္တီနိတောင်ကြီးပေါ်၌ ဘုမ္မစိုးနတ်ကြီးရှိသည်။ သိသာအောင် ပြတတ်၍ ရှိကြောင်းသိကြသည်။

လွန်ခဲ့သော ဆယ်နှစ်ကျော်က အဆိုပါ တောင်စောင့်နတ်ကြီးသည် ဝတ်ဖြူ စင်ကြယ်နှင့် ပကတိ လူအသွင်ဖြင့် ညချမ်းအခါ ဤအရှင်ထံသို့ ခြောက်ကြိမ် တိုင်တိုင် လာရောက်ဖူး၏။

"အရှင်ဘုရား၊ တခြားအရပ်သို့ ကြွမသွားပါနှင့်၊ ဒီတောင်မှာပဲ အမြဲနေပါ၊ တပည့်တော် အရှင်ဘုရားကို အမြဲတန်းစောင့်ရှောက်ပါ့မယ်" ဟုလည်း လျှောက်ထား ဖူး၏။]

## အဋ္ဌကမ္ဘာမှ ကလျာဏကမ္ဘာသို့

"ပြည်မြို့ နိဗ္ဗိန္ဓဆရာတော်မှာ ခြင်ထောင်သုံးလေ့ မရှိဘူး၊ ဒါပေမယ့် ခြင်တွေဟာ ဆရာတော်နဲ့ တစ်လံကွာအတွင်းမှာ တစ်ကောင်မှ မဝင်ကြဘူး" ဟု အတွင်းသိ တပည့်များက ပြောဆိုသည်ကို ကြားသိမှတ်သားရဖူးရာ အရိယာ သူတော်ကောင်းကြီးများ၏ မေတ္တာအာနိသင်မှာ ယုံမှားသံသယဖြစ်ဖွယ် မရှိပါချေ။

မေတ္တာဖြင့် နေလေ့ရှိသူတစ်ဦးကြောင့် ပတ်ဝန်းကျင်ရှိ နတ်အများပင်

ညီညွတ်ရေးရကာ ငြိမ်းချမ်းသာယာစွာ နေကြရသဖြင့် နေရာဒေသ ပြောင်းရွှေ့မည်စိုး၍ ငိုယိုတောင်းပန်ကြောင်း သိဟိုဠ်ကျွန်း ဝိသာခမထေရ်အကြောင်း ပြခဲ့ပြီ။ ဆရာတော် ဦးဥတ္တမသာရ အရှင်မြတ်ကြီးကလည်း ထိုအချက်ကို ထပ်လောင်းထောက်ခံတော်မူလျက်ရှိပါပေသည်။

သူတော်ကောင်းတရားများ အစဉ်မှန်ကန်လျက်ရှိကြောင်း ကိုယ်နှင့်ရင်း၍ ထိန်းသိမ်းနိုင်သော ပုဂ္ဂိုလ်ထူးများ၊ သတ်ဖြတ်ညှဉ်းဆဲနိုင်မှ ချမ်းသာမည်ထင်သော အန္ဓကမ္ဘာကြီးအား ငြိမ်းချမ်းသော ကလျာဏ ကမ္ဘာကြီးဖြစ်အောင် ထာဝရ စောင့်မ, တော်မူနိုင်ကြပါစေသတည်း။

ဤစာအုပ် ပထမအကြိမ် ထွက်ပြီးစ ဓမ္မမိတ်ဆွေကြီး ဦးဘော်စံ၏ ဆောင်ရွက်ချက်အရ ဓမ္မဃောသက ဦးမောင်မောင်ထံမှ ၄င်းအိမ်၌ ဆရာတော် ဟောပြခဲ့သော အသံသွင်းကြိုးခွေကိုပါ ဆက်လက်နာယူရသဖြင့် အလွန်ဝမ်းမြောက် ခဲ့ရပါသည်။ ဆရာတော်၏ မေတ္တာတရားလည်း ပို၍ပြည့်စုံသွား၏။

"လောကကြီးထဲမှာ မေတ္တာလောက်ကောင်းတာ ဘာမှမရှိဘူး၊ မေတ္တာဟာ လောကကြီးတစ်ခုလုံးတွင် တန်ခိုးအထက်ဆုံး၊ အချမ်းသာဆုံး တရားကြီးပဲ၊ ချမ်းသာမှုတကာတို့တွင် ဘယ်ချမ်းသာနှင့်မှ မတူဘူး၊ မေတ္တာတရားကိုသာ စွဲစွဲမြဲမြဲလက်ကိုင်ထားနိုင်ရင် သံသရာ ကျင်လည်ရသည့်တိုင်အောင် ဘာမှ ကြောက်စရာ မရှိတော့ဘူး" စသည်ဖြင့် ဆရာတော် ဘုရားကြီး၏ လေးနက်အောင်မြင်သော အသံတော်ကို ကြားနာရရာ ပို၍ပင် အားတက်စရာကောင်းလှ၏။

## သေမင်းကြားက ရန်ကုန်သားတို့အတွက်

ဆရာတော်၏ အသံသွင်းကြိုးခွေတရားကို နာယူပြီးသောအခါ ' ဗုဒ္ဓ ဓမ္မလောက စာစောင်'၌ပါသော ဆောင်းပါးကို တစ်ကျော့ပြန်၍ ဖတ်ကြည့်ရာ တစ်မျိုး အရသာရှိလာပါသည်။

ဆောင်းပါးတွင် ယနေ့လူများစုနှင့် သက်ဆိုင်သော 'ခရီးသွားရာ၌ မေတ္တာ ပွားနည်း'မှာ အလွန်တန်ဖိုးရှိလှ၏။ လူတို့သည် နေထွက်မှနေဝင် အိမ်မှာပင် နေကြရသည် မရှိ၊ စားဝတ်နေမှုအတွက် တစ်နေရာမှ တစ်နေရာသို့ တရစပ် သွားလာလှုပ်ရှား နေကြရသည်။ အထူးသဖြင့် ရန်ကုန်မြို့ကြီးတွင် လူတိုင်းလူတိုင်း နေ့တွက်ကိုက်ရန် 'ဓာတ်ကိုက်'၍ သွားလာနေကြရာ ပူပန်ကြောင့်ကြမှု, လိုရာ ခရီးရောက်အောင် စိတ်စောနေမှုများက အမြဲနှိပ်စက်နေကြ၏။ အခေါက်ရေကိုက်ရန် အပြိုင်အဆိုင် ပြေးဆွဲနေကြသော သေမင်းတမန် ကားတန်းကြီးများအကြား

သွားလာနေကြရသော ရန်ကုန် လူထုသည် သေမင်းကြီးနှင့် လိုက်တမ်းပြေးတမ်း ကစားနေရသကဲ့သို့ ရှိနေတော့သည်။

ယင်းသို့ အသီးသီး အပူဇော်များ ကပ်နေကြသဖြင့် တစ်နေ့တခြား သွားရင်းလာရင်း လမ်းပေါ်မှာ သေရသော မသာက များလာလေသည်။ နေ့မြင် ညပျောက် အလွန်ကြောက်စရာကောင်းလှ၏။ စီးပွားရေး ကျဆင်း၍ အကျင့်စာရိတ္တ ညံ့ဖျင်းလာခြင်း၊ အကျင့်စာရိတ္တ ညံ့ဖျင်း၍ စီးပွားရေး ကျဆင်းခြင်း၊ စီးပွားရေးနှင့် အကျင့်စာရိတ္တ ညံ့ဖျင်း၍ လူနေမှုစနစ် စည်းကမ်း စသည်တို့လည်း ကျဆင်းလာကာ လေယာဉ်၊ ကား၊ ရထား၊ သင်္ဘောစသော ယာဉ်များကလည်း စီးနင်းမောင်းနှင်သူတို့ အပူဇော ကပ်သလောက် ဖြစ်ကတတ်ဆန်း မောင်းနှင်နေကြသော ယာဉ်များ ဖြစ်နေတော့၏။ ဘ၀အာမခံချက်နှင့် လူတို့ 'အသက်နေ' နည်းလှချေသည်။

ထိုပြဿနာတို့အတွက် ပထမဆုံး ဇောအပူချိန် လျှော့ချပေးရန် အထူး လိုအပ်လျက်ရှိရာ "အိမ်ကထွက်သည်နှင့် ဘုရားဦးချ၍ မေတ္တာ ပို့ပြီးသွားပါ" ဟုဆိုလျှင် 'အနာတခြား ဆေးတခြား' ဟု ထင်ဖွယ်ရှိ၏။ မဟုတ်ချေ။ လက်တွေ့ စမ်းသပ်လေ့ကျင့်သွားပါက အသက်အန္တရာယ် မတွေ့ကြုံရရုံမျှမက စီးပွားရေး၊ စာရိတ္တ၊ လူနေမှုစနစ်၊ စည်းကမ်း စသော ချွတ်ယွင်းမှု အားလုံးအတွက် တစ်ခွက်တည်းနှင့် မြစ်ချင်းပြီးသော ဆေးဖြစ်ကြောင်း သဘောပေါက်လာပါလိမ့်မည်။ တဖြည်းဖြည်းချင်း အလေ့အထ လုပ်ကြည့်ကြပါကုန်။

ကားစီးရာ၌ ရဟန်းသံဃာ လူကြီးမိဘ မထောက်ထား၊ မောင်နှမ သားချင်း မစာနာ၊ အရာရာတွင် ကိုယ်ကသာ 'အသာ' ရလိုသော စိတ်ရိုင်း ကလေးများကအစ အပူဇောများ တစ်စတစ်စ ပြေပျောက်ကာ အသက်အန္တရာယ် မကြုံတွေ့ရရုံမျှမက တစ်နေ့တခြား ကြီးပွားချမ်းသာလာမည်မှာ သေချာလှပါသည်။ 'ခရီးသွားမေတ္တာ' ကို မိုးညွှင်းဆရာတော် ဩဝါဒအရ ပြဆိုခဲ့ပြီ။ တစ်ဖန် ဆရာတော် အရှင်ဦးဥတ္တမသာရ၏ ခရီးသွားမေတ္တာကို မူရင်းအတိုင်း ထပ်မံ ဖော်ပြပါဦးမည်။ အိမ်မှထွက်သည်မှ ပြန်ရောက်သည်အထိ မိမိတို့ဘ၀နှင့် 'ခွင်' ကျအောင် သုံးစွဲသွားတတ်ဖို့သာ လိုပေတော့သည်။

## ခရီးသွား မေတ္တာ

[တစ်နေရာရာသို့ ခရီးတိုရှည်သွားမည့်အခါ ခရီးထွက်စတွင် .....

"ငါ၏ ရှေ့တူရူအရပ် (သွားမည့်နေရာ)၌ ရှိကြသော နတ်လူ သတ္တဝါ အားလုံးတို့သည် ဘေးရန်ကြောင့်ကြ ဆင်းရဲကင်း၍ ကိုယ်စိတ်နှစ်ဖြာ ချမ်းသာ ကြပါစေ။ ကောင်းကျိုး လိုရာဆန္ဒ ပြည့်ဝကြပါစေ" ဟု စိတ်ထဲက အာရုံညွှတ်စေပြီး

မနောက် မြောက်အောင် (စိတ်ပါလက်ပါ) မေတ္တာပို့ပါ။

ထို့နောက်.....

"ငါ၏ အနောက်အရပ်၌ ကျန်ရှိခဲ့ကြကုန်သော နတ်လူသတ္တဝါ အားလုံးတို့သည် ပြည့်ဝကြပါစေ" ဟူ၍ နည်းတူ မေတ္တာပို့ပါ။ တစ်ဖန်–

"ငါ၏ ဝဲ,အရပ်၌ ယာ,အရပ်၌ ရှိကြကုန်သော နတ်လူ သတ္တဝါ အားလုံးတို့သည် ပြည့်ဝကြပါစေ" ဟူ၍ ရှေးနည်းတူ သတ္တဝါတို့အပေါ် စိတ်ထဲက အာရုံညွှတ်၍ မနောက်မြောက်အောင် မေတ္တာပို့ပေးပါ။

အကျိုးကျေးဇူးကား ထိုခရီးတစ်လျှောက်လုံး မိမိအား ဘာအနှောင့် အယှက်မှ မရှိ။ ဘေးရန်အန္တရာယ် ကင်းမည်။ ကောင်းမွန်ချောမောစွာ ခရီး ပြီးဆုံးမည်။ ရောက်ရာဒေသတိုင်း၌ တွေ့ကြုံသူများက ချစ်ခင်လိုလားစွာနှင့် ကြိုဆိုနေကြသကဲ့သို့ တွေ့မြင်ရမည်။ ဤနည်းအတိုင်း စမ်းသပ်ကြည့်လျှင် ဟုတ်မှန်ကြောင်း လက်တွေ့ သိကြရပါလိမ့်မည်။

အထူးမှာ....မိမိသွားမည့်ခရီးစဉ်တွင် တွေ့ဆုံရမည့်သူကို အထူး စိတ်ညွှတ်၍ မေတ္တာပို့လွှတ်ပေးရသည်။ လူအများနှင့် တွေ့ကြုံရမည်ဖြစ်လျှင် အများကို ရည်မှတ်၍ မေတ္တာပို့လွှတ်ပေးပါ။ ထိုနည်းတူ သွားလိုရာ ဒေသတိုင်း၌ တွေ့ဆုံ သွားရမည့် (သွားရသည့်) သူများကို စိတ်ညွှတ်ပိုင်းခြား၍ အသီးအသီး ပို့လွှတ်ပေး သွားပါ။ မိမိလိုရာဆန္ဒ ချောမောစွာ ပြည့်စုံ၍ အံ့ဩလောက်အောင် ဝမ်းမြောက် ပြီးစီးခဲ့ပုံကို လက်တွေ့သိကြရပါလိမ့်မည်။

### တောရိုင်းတိရစ္ဆာန်တွေကတောင် မေတ္တာကို သိတယ်

ဘေးရန်ကင်းပုံနှင့် စပ်လျဉ်း၍ ပြောရလျှင် ဤအရှင်သည် ခရီးထွက်စဉ်း၌ ရှေ့တူရူသို့ ရည်မှတ်၍ မေတ္တာပို့သည်။ မိမိ၏ ရှေ့ခရီးတစ်လျှောက်တွင် ဘေးရန် အနှောင့်အယှက် ကင်းရှင်းစေရန်ဖြစ်သည်။ နောက်အဖို့၌လည်း ဘေးရန်လုံခြုံနေရစ် စေရန်အတွက် မေတ္တာပို့ထားခဲ့သည်။ မိမိ၏ ခရီးစဉ်တစ်လျှောက် ဝဲယာပတ်ဝန်းကျင် ၌လည်း ဘေးရန်ကင်းရှင်းစေရန်အတွက် မေတ္တာပို့လွှတ်၍သွားသည်။ အားလုံး ရှေ့နောက်, ဝဲ, ယာ, ထက်, အောက်ဝန်းကျင် ဘေးရန်ကင်းရှင်း၍ လုံခြုံစေခြင်း ဖြစ်သည်။

ဤပုံစံကား ဤအရှင်၏ လက်သုံးဖြစ်သည်။

လက်တွေ့ကျေးဇူးတရားကို ပြောရလျှင် ဤအရှင်သည် နှစ်ပေါင်း ကြာမြင့်စွာ (နှစ်ပေါင်း ၄၀ ကျော်) နယ်စွန်နယ်ဖျား တောကြီးတောင်ကြီး ကန္တာရ ခရီးမျိုးစုံကို သွားလာလှည့်ပတ်နေခဲ့ရာ ဘယ်သားရဲတိရစ္ဆာန်နှင့်မျှ မတွေ့ဖူးပါ။

ဘာရန်သူနှင့်မျှ ရင်ဆိုင် မကြုံရဘူးပါ။ တစ်ခါတစ်ရံတွင် ညဉ့်နက်သန်းခေါင် မှောင်မိုက်ကြီးထဲမှာ တောဝင့်ဇွေးကို အဖော်ပြု၍ လက်နှိပ်ဓာတ်မီးလည်း မပါ၊ လမ်းမမြင် ကမ်းမမြင် စမ်းရမ်းပြီး သွားခဲ့ရသည်။

တောရိုင်းသဘာဝအတိုင်းဆိုလျှင် တစ်ကြိမ်တစ်ခါဖြစ်စေ တွေ့ကြုံထိုက်သည်။ ကျားကိုက်၍ သေမည်ဆိုလျှင် အကြိမ်တစ်ရာထက်မနည်း သေခဲ့ရလောက်ပြီ။

တောတောင်ကြီးများအတွင်း၌ ကျားသစ်တွေ အလွန်ပေါသည်။ သေနတ်ထမ်း၍ သွားလေ့ရှိကြသော ချင်းလူမျိုးများမှာ နေ့ခင်းကြောင်တောင်ကြီး၌ပင် မကြာခဏ ကျားများ၊ ကျားသစ်များနှင့် ရင်ဆိုင်တွေ့လေ့ရှိကြသည်။ ဤအရှင်မှာ တစ်ကြိမ်တစ်ခါမျှ မတွေ့ကြုံရဘူးပါ။ အမှန်မှာ ကျားများ၊ ကျားသစ်များကတော့ ဤအရှင်ကို မြင်ကြပါလိမ့်မည်။ သူတို့က သနားစိတ်ဝင်ပြီး အလိုက်သိစွာ ရှောင်ရှားပေးကြခြင်း ဖြစ်နိုင်ရာသည်ဟု ယုံကြည်မိသည်။

## နတ်များကလည်း ဟန့်တားပေးနိုင်

တောတောင်များအတွင်း၌ ကျားကြီး၊ကျားငယ်များအပြင် ကျားသစ်ကြီးငယ်တွေ၊ ဝံပုလွေစသော တောခွေးဆိုးတွေလည်း ပေါများ၏။ ဝက်ဝံ၊ စပါးကြီးမြွေ စသည်တို့လည်း ရှိကြ၏။ ဘယ်သားရဲတိရစ္ဆာန်မျိုးကမှ အနှောင့်အယှက်ပေးဖူးခြင်း မရှိသည်မှာ မေတ္တာတန်ခိုး, ပရိတ်တန်ခိုးကြောင့် ဖြစ်ရမည်ဟု ယုံကြည်သည်။

တောတောင်ကန္တာရခရီးသာ မဟုတ်ပါ။ အိန္ဒိယ၊ မဏိပူရ၊ အာသံပြည်စသော နိုင်ငံရပ်ခြား (ခြေလျင်) ခရီးတစ်လျှောက်တို့၌လည်း ဘာအနှောင့်အယှက်မှ မတွေ့ရဘူးသလို ဘာရန်သူမှလည်း မတွေ့ကြုံဖူးချေ။ လိုလိုချင်ချင် အကူအညီ ပေးသူတို့သာ တွေ့ကြုံရသည်။ ရံခါ သွားလာရေး ခက်ခဲမှု စသည် ရှိတတ်သော်လည်း တစ်နည်းနည်းဖြင့် အဆင်ပြေ၍ ချောမောစွာ ပြီးဆုံးခဲ့ရသည်ချည်းပင်ဖြစ်သည်။

ဤသည်ကား ကိုယ်တိုင်လက်တွေ့အကျိုး တစ်စိတ်တည်း။

အကယ်၍ မေတ္တာတရား လက်လွတ်နေထိုင်သွားလာခဲ့လျှင် တောတောင်ခရီးသွားလာရာ တစ်ချိန်မဟုတ်တစ်ချိန်တွင် ကျားစာ ဖြစ်သွားလောက်ပေပြီ။ တောရိုင်းတိရစ္ဆာန်များသည် လွန်စွာသစ္စာရှိကြသည်။ သူတို့အပေါ်၌ မေတ္တာစိတ်ထားသူကို ရန်မူလေ့ မရှိကြပါ။ တောတောင်စောင့်နတ်များနှင့် ဘီလူးများကလည်း ဤအရှင်၏ မေတ္တာပို့လွှတ်ထားမှုကြောင့် ပြန်လည်စောင့်ရှောက်ပေးသည့်အနေဖြင့် တောရိုင်းတိရစ္ဆာန်များကို လမ်းခရီးမှ ဖယ်ရှားပေးထားခြင်း ဖြစ်ကောင်းဖြစ်လိမ့်မည်

ဟူ၍လည်း တွေးဆမိသည်။ အင်္ဂုတ္တိုရ်ပါဠိတော်၌ မြတ်စွာဘုရား ဟောကြားတော်မူသော မေတ္တာအကျိုးတရားများတွင် ' နတ်များက ချစ်ခင်ခြင်း၊ ဘီလူးများက ချစ်ခင်ခြင်း၊ နတ်များက စောင့်ရှောက်ခြင်း' ဟူ၍ ပါရှိလေသည်။

ထို့ကြောင့် လောကထဲမှာ ကျင်လည်နေကြရသူတိုင်း မေတ္တာတရားကို လက်ကိုင်ထားကြရန် အထူးသတိပေးရပါသည်။ မေတ္တာတရားလောက် ဘဝလုံခြုံရေးအတွက် အားကိုးလာက်သော အဆောင်လက်နက်ကောင်းသည် သတ္တလောကကြီးတွင် အခြားဘာမျှမရှိချေ။

မိမိကသာ ဖြောင့်မတ်သော မေတ္တာစိတ်ထားနေလျှင် ပတ်ဝန်းကျင်၌ ဆက်ဆံတွေ့ကြုံနေရသူများကလည်း အလိုလို မေတ္တာတုံ့ပြန်လာကြပုံကို လက်တွေ့သိကြရပါလိမ့်မည်။ လူက မေတ္တာထားလျှင် တောရိုင်းတိရစ္ဆာန်များကပင် ရှောင်ရှားပေးကြသေးသည်။ လူနှင့်လူချင်း မေတ္တာစိတ်ထားပါမူကား အဘယ်ဆိုဖွယ်ရာရှိပါမည်နည်း။ မေတ္တာတရား ဝမ်းထဲ၌ အမြဲသိုထား၍ တဖြည်းဖြည်း ခိုင်မာရင့်ကျက်လာသောအခါ မေတ္တာ၏တန်ခိုးတွေ ပေါ်လွင်လာလိမ့်မည်။ မေတ္တာ၏ အာနိသင်များ ရောက်ရှိလာပါလိမ့်မည်။

## အကြိတ်အနယ် ရန်မူလာလျှင် ရေမေတ္တာ

**မေတ္တာတရားကို လက်ကိုင်ထား၍ အထုံရနေပြီးသော ပုဂ္ဂိုလ်သည် လောကကြီးတစ်ခုလုံးကို မေတ္တာဖြင့် စိုးအုပ်နေနိုင်သည်။ ဘာပဲဖြစ်ဖြစ် တွေ့ကြုံလာသော လောကဒဏ်ဟူသမျှကို မေတ္တာစိတ်ဖြင့် ကျော်လွှားသွားလိမ့်မည်။ ပြဿနာဟူသမျှ မေတ္တာစိတ်ဖြင့် ပြေငြိမ်းသွားစေမည်။**

ရန်သူကိုပင် ကြည်လင်အေးမြသော မေတ္တာစာတ်ဖြင့် မိတ်ဆွေကောင်းအဖြစ် ရောက်စေနိုင်ပါသည်။

ဤတွင် နည်းပေးမည်။

ဥပမာ.....ဘာအကြောင်းကြောင့်ဖြစ်စေ တစ်စုံတစ်ယောက်သောသူက ရန်မူလာလျှင် ရန်မူသော ထိုသူကို စိတ်အာရုံညွှတ်၍.....

'သူ့ခမျာ ငါ့ကို ရန်မူနေတဲ့အတွက် စိတ်နှလုံး ပူလောင်နေရှာမှာပဲ' စသည်ဖြင့် ကရုဏာစိတ်ကို ဦးစွာဖြစ်စေပါ။ သနားထိုက်သော၊ သနားစရာကောင်းသော သတ္တဝါ အဖြစ်ထား၍ ကရုဏာစိတ် ဝင်စားပြီးလျှင် နောက်မှ တစ်ဆက်တည်း တကယ်ချမ်းသာကောင်းစားစေလိုသော စေတနာဖြင့် လှိုက်လှိုက်လှဲလှဲ မေတ္တာပို့လွှတ်ပေးရမည်။ အမြဲမပြတ် မလုပ်နိုင်သော်လည်း မေတ္တာပို့နေသော အခိုက်တွင် လှိုက်လှဲသော စေတနာ ထက်သန်မှု ရှိစေရမည်။ ထက်သန်မှုရှိမှ

ထိရောက်သည်။ တန်ခိုးထက်မြက်သည်။

အထူးသတိပြုရန်မှာ စိတ်ညွတ်၍ မေတ္တာပို့သော မိမိစိတ်ထဲသို့ ဒေါသ ဝင်မလာစေရပါ။ တစ်ဘက်သား ပျက်စီးစေလိုခြင်း၊ ဒုက္ခရောက်သွား စေလိုခြင်း စသော ဒေါသစိတ် (အာဃာတ- ရန်ငြိုးစိတ်၊ ဒေါမနဿ-မကျေ မချမ်း နာကျည်းစိတ်) ဝင်တတ်သည်။ ဝင်လာလျှင် လွတ်အောင် ဖယ်ထုတ်ပစ်ပါ။ ယင်းဒေါသစိတ်ကင်းအောင် ဖယ်ထုတ်ပစ်နိုင်လျှင် ရန်သူအပေါ် မိမိက အောင်နိုင်ပြီ ဟူ၍ မှတ်ပါ။

အကယ်၍ ရန်သူကို စိတ်အာရုံညွတ်၍ မေတ္တာပို့ရုံသက်သက်ဖြင့် အမြန် ပြေအေးသွားမည် မထင်လျှင် ဖန်ခွက်တစ်ခုကို ဆေးကြော၊ ရေအေးအေးသန့်သန့် ထည့်ပြီး အမှိုက်သရိုက် မကျအောင် အဖုံးဖုံး၍ ဘုရားစင်မှာ တင်ထား၊ ရန်မူသူ ကို ကိုယ်စားရည်မှတ်၍ ကျောက်ခဲကလေးကိုဖြစ်စေ၊ တုတ်ချောင်းကလေးကိုဖြစ်စေ ထိုရေဖန်ခွက်ထဲချပြီး စိမ်ထည့်ထား၊ 'သူ့ကို အေးချမ်းသွားစေရန် မေတ္တာရေ စိမ်ထားပြီ' ဟု စိတ်ရှင်းစွာထား၍ မေတ္တာ ပို့လွှတ်ပေးနေပါ။

## မီးကို ရေနှင့် ဖျန်းလိုက်သလို

ထိုရန်မူသူကို ကောင်းစား ချမ်းသာစေလိုသော မေတ္တာစိတ် ပို့လွှတ်နေလျှင် ခုနစ်ရက်အတွင်း မူပြောင်းလာလိမ့်မည်။ ထူးခြားသည်မှာ သူ့မှာ ဒေါသမရှိလျှင် ဒေါသနည်းလျှင် ချစ်ခင်လာလိမ့်မည်။ ကိုယ့်ကို သနားစိတ် ဝင်လာလိမ့်မည်။ သူပြောမှားရှိသမျှ ဝန်ချတောင်းပန်လာလိမ့်မည်။ အကယ်၍ လူကိုယ်တိုင် လာရောက် မတောင်းပန်စေကာမူ ဆက်လက်၍ ရန်မမူတော့ချေ။ မီးကို ရေနှင့်ဖျန်းလိုက်သလို ငြိမ်းသွားလိမ့်မည်။

သို့သော် သူ့မှာ မကျေနပ်နိုင် မအေးနိုင်လောက်အောင် ဒေါသရှိနေသေး လျှင်ကား ကိုယ့်အနားမှာ နေလို့မရ။ ဝေးရာသို့ တစ်နည်းနည်းဖြင့် ဖဲခွာသွားရ တတ်သည်။

အားလုံး ဤပုံစံချည်းပင်၊ ထုံးစံပင်တည်း။ မလွဲချေ။

ထိုမှတစ်ပါး အခြားမည်သည့်လုပ်ငန်းကိုစွမဆို တွေ့ကြုံရသော နှောင့်ယှက်သူ ကိုဖြစ်စေ၊ နေထိုင်စားသောက်ရေးကိစ္စ၌ တွေ့ကြုံရသူကိုဖြစ်စေ၊ တွေ့ကြုံရလေသမျှ အထက်ပါနည်းအတိုင်းသာ လိုက်နာလုပ်ဆောင်ပါ။ မေတ္တာစိတ်ဓာတ် ခိုင်မြဲသော အဆောင်တန်ခိုးဖြင့် ကြည်လင်အေးမြခြင်းကို ဖြစ်စေရမည်၊ အောင်နိုင်ရမည်ဟူ၍ ညွှန်ကြားအပ်ပါသည်။

အိမ်မှ စိတ်ကောက်ပြီး ထွက်သွားသူကိုလည်း ဤနည်းအတိုင်း လုပ်ဆောင်ပါ။

ဗုဒ္ဓအသံစာပေ

ပြန်ရောက်လာပါလိမ့်မည်။

သူတော်ကောင်းတို့မည်သည် မေတ္တာတရားကို လက်ကိုင်ထားရမည်။ 'အခြားနည်းကို လက်ကိုင်ထားလျှင် မှားရော' မှတ်ပါ။ မေတ္တာလောက် ကောင်းတာ လောကမှာ ဘာမှမရှိပါ။]

### အရာရှိတစ်ဦးနှင့် စာချဘုန်းကြီးတစ်ပါးတို့၏ ရေမေတ္တာ

အထက်ပါ 'ရေမေတ္တာ' နှင့်စပ်၍ အသံသွင်းကြိုးခွေတရားကို နာကြား ရသောအခါ ကိုယ်တွေ့ဖြစ်ရပ် (ဝတ္ထု) နှစ်ခုကိုပါ ကြားနာရသဖြင့် ပို၍ အားတက်ဖွယ်ကောင်းပါသည်။ နားဖြင့် မှတ်နာရသလောက်၊ မှတ်မိသလောက် တစ်ဆင့်ပြန်လည်ရေးပြရပါမူ အောက်ပါအတိုင်းဖြစ်သည်။

[ရန်ကုန်မြို့ နိုင်ငံခြားရေးဆိုင်ရာ ရုံတစ်ရုံးက အုပ်ချုပ်ရေးအရာရှိ ဒကာ တစ်ဦးဟာ အချင်းချင်း မသင့်မတင့် ဖြစ်ကြပြီး အကြီးအကဲ ဆိုယ် စိတ်မချမ်းမသာ ဖြစ်နေရရှာတယ်။ အဲဒီ ဒကာက မေတ္တာညွှတ်ပေးရန် ဘုန်းကြီးထံ စာရေးပြီး လျှောက်ထားတယ်။

ချက်ချင်းပဲ ဘုန်းကြီးလည်း စာပြန်လိုက်တယ်။ ရန်သူအပေါ် မေတ္တာညွှတ်ပုံ ရေးလိုက်တယ်။ အဲဒီလို မေတ္တာ လုပ်နေချိန်မှာ အထူးသဖြင့်–

၁။ အရက်သေစာ မသောက်စားဖို့၊
၂။ တတ်နိုင်လျှင် ဥပုသ်စောင့်ဖို့၊
၃။ သွေးသံရဲရဲ သားစိမ်း၊ ငါးစိမ်း မစားရ၊ (ငါးခြောက်လိုဟာမျိုး စားနိုင်တယ်။)
၄။ ရန်ရှာတဲ့လူအပေါ်ကို ဒေါသစိတ် အလျှင်းမထားနဲ့။ စကားကို ညင်ညင်သာသာပြော၊ သုံးလအတွင်း ထူးခြားလိမ့်မယ်လို့ ရေးလိုက်တယ်။

အဲဒီ အရာရှိဒကာလည်း ဘုန်းကြီးပြောတဲ့အတိုင်း လိုက်နာပြီး မေတ္တာပွားမည့် အကြောင်း ဝန်ခံလျှောက်ထားစာ ဘုန်းကြီးထံ ထည့်လိုက်တယ်၊ သုံးလရှိတယ်ဆိုရင်ပဲ နောက်ထပ် စာတစ်စောင်ရတယ်။

၁။ ပထမလမှာ ရန်သူဟာ ရာထူးမှ နုတ်ထွက်သွားရပြီ။
၂။ ဒုတိယလမှာ မိမိအတွက် ရာထူးတက်ရန် ကောင်းသတင်းများ ထွက်လာတဲ့အကြောင်း နှစ်သက်ဖွယ် မင်္ဂလာစကား ကြားရတယ်။
၃။ တတိယလမှာ ရာထူးတိုးတက်ခန့်ထားရတယ်လို့ ဝမ်းသာအားရ လျှောက်ထားတယ်။

နောက်တစ်ခုက .....ဘုန်းကြီးရဲ့မိတ်ဆွေ စာချဘုန်းကြီးကလေး တစ်ပါး။ ဟို.....သင်္ဂါယနာတင်နေချိန်က.....ဘုန်းကြီးက ဆဋ္ဌသင်္ဂါယနာမှာ ဩဝါဒါစရိယ အဖြစ်နဲ့ ပုဗ္ဗဝိဒေဟကျောင်းဆောင်မှာနေတယ်။

အဲဒီအချိန်က ပါဠိတက္ကသိုလ်တွေ မှိုလိုပေါက်နေတဲ့အခါဆိုတော့ စာချ ဘုန်းကြီးပေါက်စတွေ အလွန်စန်းပွင့်နေချိန်ပေါ့၊ ဟိုကျောင်းတိုက်က တက္ကသိုလ် ဖွင့်ချင်၊ ဒီကျောင်းတိုက်က တက္ကသိုလ်ဖွင့်ချင်နဲ့ စာတော်တဲ့ စာချ ဘုန်းကြီးကလေး များကို အထူးရှာဖွေ အရေးပေးပြီး မွေးကြရတယ်။

ခုနက မိတ်ဆွေ စာချဘုန်းကြီးကလေးဟာ ကျောင်းတိုက်ကြီးတစ်တိုက်က ကျောင်းထိုင်ဘုန်းတော်ကြီးနဲ့ တူတော်တယ်။ ရိုးသားတယ်။ စာတော်တယ်။ အနေအထိုင် ကောင်းတယ်။ သူ့ခမျာ အေးအေးပဲ နေလေ့ရှိတယ်။ သူနဲ့ လုပ်ဖော်ကိုင်ဖက် သုံးပါးက တစ်စုတစ်စနဲ့ သူ့ကို ရန်လုပ်ပြီး တခြားထွက်သွား အောင် လုပ်ကြတယ်။ သူ့ဦးလေး ဆရာဘုန်းတော်ကြီးက တားတာနဲ့ စိတ်ဆင်းရဲ နေပေမယ့် တခြားကို ထွက်မသွားနိုင်ခဲ့ဘူး။ အဲဒီအတောအတွင်း တစ်နေ့တော့ ဘုန်းကြီးဆီရောက်လာပြီး အကြောင်းစုံပြောပြ အကူအညီ တောင်းလာတယ်။ ဒီတော့ ဘုန်းကြီးက –

"ကိုယ်တော်.....ဒါ.....ဘာခက်လဲ၊ ဘုန်းကြီးပဲဟာ မေတ္တာလက်ကိုင် ထားရုံပေါ့၊ ဒါမျိုးမှာ တခြားနည်း လက်ကိုင်ထားရင် မှားရော ကိုယ်တော်၊ မေတ္တာသာ ထားနိုင်မယ်ဆိုရင် ကိုယ်တော် သံသရာလည်ရမှာတောင် မကြောက်နဲ့" ဆိုပြီး ဘုန်းကြီးက 'ရေမေတ္တာ' လုပ်နည်း ပေးလိုက်တယ်၊ စိတ်ချလက်ချ ယုံယုံကြည်ကြည်နဲ့ ရန်သူအပေါ်မှာ ကောင်းစားချမ်းသာလိုတဲ့ မေတ္တာစိတ် စစ်စစ်ကြီးဖြစ်အောင်ထားဖို့လည်း အထူးမှာကြားလိုက်တယ်။

အဲ.....မကြာပါဘူး၊ အဲဒီ စာချဘုန်းကြီးကလေးကို နှင်ထုတ်ဖို့ ရန်လုပ် နေကြတဲ့ ဘဝတူရန်သူသုံးပါးထဲက တစ်ပါးဟာ သူတို့ကြံစည်ပြောဆိုမိတာတွေ မှားတဲ့အကြောင်း တောင်းပန်လာတယ်။ အဲ.....ကျန်နှစ်ပါးကတော့ သူတို့ အချင်းချင်းပဲ ရတ်တရက် ရန်ဖြစ်ပြီး အဲဒီကျောင်းက သူတို့ဘာသာသူတို့ ထွက်သွားကြရတယ်။

ဒေါသမရှိတဲ့ ရန်သူဆိုရင် ခင်မင်လာတယ်။တောင်းပန်ဝန်ချလာတယ်။ ဒေါသရှိနေသေးရင်တော့ တစ်နည်းနည်းနဲ့ အဝေးကို ထွက်သွားရတတ်တယ်။ အားလုံး ဒီပုံစံချည်းနဲ့ပဲ သွားတယ်။

"နတ်လူသတ္တဝါအားလုံး ဘေးရန်ကြောင့်ကြ ဆင်းရဲကင်း၍ ကိုယ်စိတ် နှစ်ဖြာ ချမ်းသာကြပါစေ"

ဤကား တောင်တန်းသာသနာပြုဆရာတော် အရှင်ဦးဥတ္တမသာရ ရေးသား ဟောပြောချက်များမှ လျော်သလို ကောက်နုတ်ဖော်ပြခြင်းဖြစ်ပါသည်။

**အဘိဓဇ မဟာရဋ္ဌဂုရု**

**မစိုးရိမ် ပဌာန်းဆရာတော်ဘုရားကြီး မေတ္တာဆောင်ပုဒ်**

မန္တလေးမြို့ မစိုးရိမ်ကျောင်းတိုက်ကြီး၏ မဟာနာယက၊ အဂ္ဂမဟာ ပဏ္ဍိတ အဘိဓဇမဟာရဋ္ဌဂုရု မစိုးရိမ် ပဌာန်းဆရာတော်ဘုရားကြီး (အရှင် ဝိသုဒ္ဓါဘိဝံသ) အမြဲနှလုံးသွင်း ညွှန်ပြတော်မူလေ့ရှိသော စတုရာရက္ခ တရား လေးပါးနှင့်စပ်၍ မှတ်သားဖွယ်ဆောင်ပုဒ်လင်္ကာများကို ဤနေရာ၌ ဖော်ပြပါအံ့။ ကြိုးစားကျက်မှတ်၍ နှလုံးသွင်းကြပါကုန်။

၁။ နေထွက်နေဝင်၊ ကိုးဂုဏ်ရှင်၊ နေ့စဉ် ရှိခိုးမယ်။

၂။ အနန္တငါး၊ ဂုဏ်တော်များ၊ ညွှတ်တွား ကန်တော့မယ်။

၃။ မျက်နှာသစ်ရင် ၊ ရေကိုမြင်၊ မြင်စဉ် မေတ္တာပွားပါ့မယ်။

၄။ သစ်ပင်သစ်ရွက်၊ လျှော့ယိုယွင်း၊ ရုပ်ဆင်း သတိထားပါ့မယ်။

၅။ တန်းတူတွေ့ရင်၊ မေတ္တာဝင်၊ မဝင်နိုင်က ပြိုင်တတ်တယ်။

၆။ ပြိုင်မယ့်အစား၊ မေတ္တာပွား၊ စိတ်ထားပြုပြင် ပြောင်းပါ့မယ်။

၇။ ကိုယ့်အောက်တွေ့ရင်၊ ကရုဏာဝင်၊ မဝင်နိုင်က နိုင်တတ်တယ်။

၈။ နိုင်မယ့်အစား၊ ကရုဏာပွား၊ စိတ်ထားပြုပြင် ပြောင်းပါ့မယ်။

၉။ ကိုယ့်ထက်သာရင်၊ မုဒိတာဝင်၊ မဝင် ဣဿာ ယှိုင်တတ်တယ်။

၁၀။ ယှိုင်မယ့်အစား၊ မုဒိတာပွား၊ စိတ်ထားပြုပြင် ပြောင်းပါ့မယ်။

၁၁။ ရုပ်ကိုလည်းပြင်၊ စိတ်လည်းပြင်၊ ပြင်ဆင်တိုင်းရ၊ ပြုတိုင်းလှ၊ သုခနိဗ္ဗာန် တိုင်လိမ့်မယ်။



ဗုဒ္ဓဘာသာ မြန်မာနိုင်ငံနှင့် မေတ္တာဝါဒကို ထွန်းပြခဲ့သူ

**၁၇။ အီတာလျံ ဘုန်းတော်ကြီး ဦးလောကနာထ**

ဦးလောကနာထ ဟူသည် မြန်မာနိုင်ငံ မေမြို့၌ နှစ်ရှည်လများ နေထိုင်၍ ကမ္ဘာ့သာသနာပြုလုပ်ငန်းကို စွမ်းစွမ်းတမံ ဆောင်ရွက်တော်မူသွားသော ပုဂ္ဂိုလ်ထူး တစ်ပါးပင်ဖြစ်၏။

ဦးလောကနာထသည် မေတ္တာ၏ သာကေပြယုဂ်ကြီး တစ်ခုအဖြစ် ထွန်းပြနိုင်ခဲ့ရုံမျှမက ရိုမန်ကက်သလစ်ဘာသာမှ ဗုဒ္ဓဘာသာသို့ စွန့်စွန့်စားစား ကူးပြောင်းခဲ့ပုံ၊ ဘုရား အဆုံးအမတော် သာသနာပြန့်ပွားရေးအတွက် အသက်ကိုပင် ပဓာန မထားဘဲ ဖွဲလုံ့လကြီးမားပုံတို့မှာလည်း လွန်စွာ အံ့သြလောက်သော အရှင်မြတ်ပါပေ။ ယုံကြည်ချက်နှင့် ဖွဲလုံ့လနည်းသူများ သူ့အကြောင်း ကြားရလျှင် ချဲ့ကား၍ ရေးသည်ဟု ထင်လျှင်လည်း ထင်သွားနိုင်၏။ ယုံကြည်ပါကလည်း ကြက်သီးထ၍ ကြားရရုံမျှနှင့် စိတ်မောနေလောက်သည်။

**မွေးပဒကြောင့် ဗုဒ္ဓဘာသာ ဖြစ်လာသူ**

ဦးလောကနာထကား ၁၈၉၇–ခုနှစ် အီတလီနိုင်ငံ မီလန်မြို့၌ ခရစ်ယာန် မိဘတို့မှ မွေးဖွားသူဖြစ်၏။ ငယ်နာမည်မှာ 'ဆာဗာတိုရေစီအိုဖီ' (Salvatore Cioffi) ဖြစ်သည်။ မိဘနှစ်ပါး အမေရိကန်သို့ ပြောင်းရွှေ့နေထိုင်ရာ အမေရိက၌

ကြီးပြင်း၍ ကိုလံဗီယာ တက္ကသိုလ်မှ ဘီ–အက်စ်–စီ ဘွဲ့ ရခဲ့၏။ စက်ရုံကြီးတစ်ခု၌ ဓာတ်ခွဲဆရာအဖြစ် အလုပ်လုပ်စဉ် သူလေ့လာထားသော သိပ္ပံပညာက မိရိုးဖလာ ခံယူခဲ့သော သူ့ဘာသာနှင့် အနာဂတ်ဘဝ ရပ်တည်မှုကို ဓာတ်ခွဲပေးလေတော့သည်။

ထိုအကြောင်းကို ဤသို့ ထုတ်ဖော်ရေးသားတော်မူခဲ့၏။

"ကျွန်ုပ်သည် အီတလီ၌ မွေးဖွားသည်။ အမေရိကန် နယူးယောက်မြို့၌ ကြီးပြင်းသည်။ ပညာသင်ကြားသည်။ ကျွန်ုပ်သည် ဝိဇ္ဇာနှင့်သိပ္ပံပညာ နှစ်ရပ်စလုံးကို သင်ကြားသည်။ သို့ရာတွင် ဓာတုဗေဒပညာကို အထူး ဝါယမစိုက်ပြီး သင်ကြား သည်ဖြစ်၍ ဘီ–အက်စ်–စီ (ဓာတုဗေဒ)ဘွဲ့ကို ရရှိခဲ့သည်။

"ကျွန်ုပ်၏ သိပ္ပံပညာအသိသည် ကျွန်ုပ်၏ အမြင်ဟောင်းဖြစ်သည့် ရိုမန်ကက်သလစ်အမြင်နှင့် တိုက်ခိုက်ကြတော့သည်။ ချက်ချင်း သိပ္ပံပညာက အပေါ်စီးရ၍ ရိုမန်ကက်သလစ်ဝါဒက နောက်ဆုတ်သွားသည်။ ကျွန်ုပ် ဘာသာတရားကား တဖြည်းဖြည်း သိပ္ပံပညာ၏ ဘာသာတရား ဖြစ်လာခဲ့လေသည်။ သို့ရာတွင် ကျွန်ုပ်သည် ယေရှုခရစ်နှင့် စိန်ဖရန်စစ်ကိုမူ ကြည်ညိုနေတုန်းပင်။

"တစ်နေ့တွင် (၁၉၂၂–ခုနှစ်) ကျွန်ုပ်သည် အမေရိကန်ရှိ စက်ရုံကြီးတစ်ခု၏ ဓာတ်ခွဲခန်း၌ ဓာတ်ခွဲသည့်အလုပ်ကို အာရုံစူးစိုက်နေစဉ် မိတ်ဆွေ ဓာတုဗေဒအရာရှိ တစ်ဦးက စာအုပ်ကြီးတစ်အုပ် ကျွန်ုပ်ကို ပေးလာ၏၊ ထိုစာအုပ်တွဲကြီးထဲ၌ အခြား စာသားများအပြင် ပါမောက္ခ **မက်စ်မျူလာ** ဘာသာပြန်ထားသည့် ဓမ္မပဒ ပါဠိတော်နှင့် အဿဃောသရေး ဗုဒ္ဓဝင် နှစ်အုပ်လည်း ပါရှိ၏။ ကျွန်ုပ်၏ မိတ်ဆွေသည် ထိုစာအုပ်ကို ဖတ်သည်။ သို့ရာတွင် သူသည် ခရစ်ယာန်အဖြစ်က ပြောင်းလဲမသွား။ ကျွန်ုပ်သည် ထိုစာအုပ်ကို ဖတ်သည်။ ကျွန်ုပ်ကမူ ဗုဒ္ဓဘာသာဖြစ်လာခဲ့၏။

"ကျွန်ုပ်သည် သိပ္ပံနည်းကျသော ဘာသာတရားကို အစဉ်တစိုက် စုံစမ်းရှာဖွေနေလာခဲ့ရာ နောက်ဆုံးတွင် ကျွန်ုပ် လိုလားနေခဲ့သော အရာကို တွေ့ရလေ၏။ ဗုဒ္ဓဘာသာသည် ကျွန်ုပ် ကြာမြင့်စွာ တောင့်တလာခဲ့သော အရာကို ဖြည့်တင်းပေးလိုက်၏။ ကျွန်ုပ် ဗုဒ္ဓဘာသာဝင်တစ်ဦး ဖြစ်လာခဲ့လေပြီ။

"ကျွန်ုပ်သည် ဗုဒ္ဓစာပေကျမ်းဂန်အမျိုးမျိုးကို စိတ်အားထက်သန်စွာ ရှာဖွေဖတ်ရှုသည်။ ကျွန်ုပ်ကားရေဆာလောင်ငတ်မွတ်နေသည့် သဲကန္တာရခရီးသည်နှင့်ပမာတူ၏။ နောက်ဆုံး၌ ကြာမျိုးစုံပေါက်နေသည့် ရေကန်ကြီးတစ်ခုကို တွေ့ရသည်နှင့် ကြည်လင်အေးမြနေသောရေကို အားပါးတရ သောက်ပစ်လိုက်တော့သည်။"

ဦးလောကနာထ လောင်းလျာ ဆာဗာတိုရေတစ်ယောက်.....

ဗုဒ္ဓဘာသာဝင်တစ်ဦး ဖြစ်လာသည်ဆိုရာ၌ ပြောရ,ရေးပြရတာ

လွယ်ကူသလောက် တကယ်လက်တွေ့တွင် ခက်ခဲကျပ်တည်းစွာ စွန့်စားရန်းကန်ခဲ့ရရှာလေသည်။ တကယ် တော့ သူ၏မိသားစု ပတ်ဝန်းကျင်သည် သာမန်ခရစ်ယာန် အသိုင်းအဝိုင်းမျှ မဟုတ်ပါချေ။ ခရစ်ယာန်ဘာသာကို လွန်စွာကိုင်းရှိုင်းကြ၏။ အစ်ကိုတစ်ဦးမှာမူ ရိုမန်ကက်သလစ် ဂိုဏ်းအုပ်ဘုန်းကြီးအဖြစ်ကိုပင် ခံယူထားသူဖြစ်လေသည်။

သို့နှင့် ဆာဗာတိုရေသည် ဗုဒ္ဓ ကျမ်းစာများကို အိမ်မှာဖတ်ဖို့ပင် အခက်အခဲဖြစ်လာ၏။ တက္ကသိုလ်ကျောင်းဆောင်တစ်ခုမှာ ငှားရမ်း၍ ပြောင်းရွှေ့နေထိုင်ရင်း ဖတ်ရှုလေ့လာခဲ့ရသည်။ ၃–နှစ်မျှ လေ့လာမိလျှင် လူဝတ်ကြောင်ဘဝနှင့် နေရသည်ကိုပင် အားမရတော့။ လွတ်မြောက်ရေးအတွက် အကြံသစ်ထုတ်၍ အားသစ်မွေးရပြန်သည်။

## 'စာထဲက ရဟန်း' ဖြစ်လိုသူ၏ စွန့်စားခန်း

"ဘုရားအလောင်းတော် သိဒ္ဓတ္ထဟာ ၂၉–နှစ်မှာ ကြီးကျယ်သော မင်းစည်းစိမ်ကိုတောင် စွန့်လွှတ်ပြီး အမှန်တရားနောက်သို့ ပြတ်သားစွာ လိုက်ပါခဲ့တယ်။ ယခု..... ငါ ၂၇–နှစ်ဟောင်ရှိနေပြီ" စာကြည့်ရင်း စဉ်းစားကာ ဆုံးဖြတ်ချက်တစ်ခုရသည်နှင့် စာရှည်ကြီးတစ်စောင် ရေးချလိုက်၏။ စုဆောင်းထားသော ငွေများထဲက လမ်းစရိတ်လောက်ကိုသာ ယူ၍ ငွေများအားလုံး မိခင်ကြီးအတွက် လျာထားလိုက်၏။ နံရံ၌ ချိတ်ဆွဲထားသော သူ အလွန်မြတ်နိုးသည့် တယောပြားကလေးကိုလည်း သူကဲ့သို့ပင် ဝါသနာပါသော သူ့ဖခင်ကြီးအတွက်ဟု သတ်မှတ်လိုက်၏။ ဤနည်းဖြင့် သူသည် လျှို့ဝှက်ပိရိစွာ အင်္ဂလန်မှတစ်ဆင့် အိန္ဒိယသို့ သင်္ဘောဖြင့် တိတ်တဆိတ်ထွက်လာခဲ့သည်။

ဗုဒ္ဓပွင့်ရာ သာသနာအောင်မြေဌ် ဆုတောင်းဆုပန် ဆန္ဒဓာတ်ကြီးနှင့်အတူ အားသစ်အင်သစ်များကို ထူထောင်မွေးမြူလိုက်၏။ ထို့နောက် သီဟိုဠ်သို့ကူးကာ ဥပုသ်ရက်ရှည်စောင့်၍ ဗုဒ္ဓစာပေများကို စာတွေ့လက်တွေ့လေ့လာ၏။ ထိုသို့နေစဉ် ရန်ကုန်မြို့ အလယ်တောရ ဆရာတော် ဦးဇောတနှင့် တွေ့ဆုံရာမှ ဆာဗာတိုရေ မြန်မာနိုင်ငံသို့ ထွက်ခွာခဲ့သည်။ ၁၉၂၅–ခုနှစ်၊ ၂၈–နှစ်အရ အလယ်တောရ ဆရာတော်ကြီး ဦးကောသလ္လကို ဥပဇ္ဈာယ်ပြု၍ ရဟန်းဘောင် တက်လိုက်၏၊ မှုလဘွဲ့တော်မှာ ဦးဇဝနတိက္ခဖြစ်သည်။

ရဟန်းဖြစ်သည်မှစ၍ နေရာအတည်တကျ မထား၊ စာထဲက ရဟန်းတော်များကို သိထားပြီးဖြစ်သည့်အတိုင်း ထိုသို့ပင် ကျင့်ကြံနေထိုင်၏။ ပထမဆုံး ရန်ကုန် ဗောဓိကုန်း ရှိ တရုတ်သင်္ချိုင်း၌ အများဆုံးနေထိုင်၍ သုသာန်ဓုတင်ဝင်၏။

ရောက်လေရာ စာနှင့်လက်တွေ့ ပူးတွဲဆည်းပူးကာ တစ်ဘက်ကလည်း သာသနာပြု တရားများကို လှည့်လည်ဟောကြားလေတော့သည်။

နာမည်ကျော် မန္တလေး မစိုးရိမ်ကျောင်းတိုက်ကြီးမှ အဂ္ဂမဟာပဏ္ဍိတ၊ ပထမကျော် ဦးဉာဏ (လယ်တီဒီပနီများကို အင်္ဂလိပ်ပြန်ဆိုသူ) သည် ဦးလောကနာ၏ ပရိယတ္တိဆရာတစ်ပါးဖြစ်၏။ ၁၉၃၂–ခုနှစ်လောက်တွင် မစိုးရိမ်ကျောင်းတိုက်ကြီး၌ ဝါဆို၍ ဆရာတော် ဦးဉာဏထံတွင် မဇ္ဈိမ ပဏ္ဏာသ အဋ္ဌကထာကို သင်ယူခဲ့လေသည်။

ဦးလောကနာထသည် ဗုဒ္ဓဝါဒတွင် အခြေခံအကျဆုံးဖြစ်သည့် ခန္တီ, မေတ္တာ, သီလ စသော ဗုဒ္ဓဓမ္မကို အလေးအနက် သက်ဝင်သည်နှင့်အမျှ ဗုဒ္ဓ ရှင်တော်မြတ်အပေါ် မမှိတ်မသုန် ယုံကြည်သူဖြစ်၏။ ဗုဒ္ဓကို ယုံကြည် အားထားသည်နှင့်အမျှ ဗုဒ္ဓကိုပြုစု၍ သမ္ဗောဓိ ဆုကြီးကိုပင် ပန်ဆင်ကာ လောက လူသားတို့၏ အကျိုးကို စွမ်းအားရှိသမျှ ကြိုးစားဆောင်ရွက်သွားတော်မူလေသည်။

ဦးလောကနာထသည် ဗုဒ္ဓနှင့် ဗုဒ္ဓဓမ္မကို လေးမြတ်သည်နှင့်အမျှ ဓမ္မဘဏ္ဍာ တိုက်ကြီးဖြစ်သော မြန်မာနိုင်ငံကိုလည်း သေရာညောင်စောင်း လျောင်းသည်အထိ အချိန်အများဆုံး သီတင်းသုံးတော်မူသွား၏။ သီဟိုဠ်နှင့် အထူးအားဖြင့် မြန်မာနိုင်ငံကို ဗဟိုဌာန ပဓာနစခန်းပြုကာ ကမ္ဘာတစ်ခွင်လုံး လှည့်လည်သာသနာပြုတော်မူခဲ့၏။ ဦးလောကနာထကြောင့် ဗုဒ္ဓဘာသာ ဖြစ်လာသူများပင် အမြောက်အများရှိခဲ့သည်။

ဦးလောကနာထကား အနောက်တိုင်းသား ရဟန်းများတွင် မြန်မာပညာရှိ ရဟန်းရှင်လူတို့၏ ချီးကျူးမှုကို အများဆုံး ခံယူရသူဖြစ်၏။ မြို့တွင်း ရွာတွင်း သွားလာနေထိုင်သောအခါ ဖိနပ်မစီး၊ ထီးမဆောင်၊ အမြဲ သက်န်းရုံလျက် တည်ငြိမ်စွာနေလေ့ရှိ၏။ ရောက်လေရာ ဆွမ်းခံစားခြင်း၊ တစ်နေရာတည်း၊ တစ်ထပ်တည်း၊ တစ်ခွက်တည်းသာ စားခြင်း၊ သုသာန်၌နေခြင်းစသော ဓုတင်များကို ပြင်းပြင်းထန်ထန် လေ့ကျင့်လေ့ရှိ၏။ ရဟန်းဘဝတစ်လျှောက်လုံး နိသဇ်ဓုတင်ကို လည်း ဆောင်သည်၊ အိပ်စက်လဲလျောင်းခြင်း မရှိ။ ကုလားထိုင်၌ စွပ်ခြင်ထောင် လုပ်ပေးရသည် ဟုဆို၏။

ဟိမဝန္တာတောင်ခြေ၌လည်း ခုနစ်နှစ်တိုင်တိုင် သမထဝိပဿနာတရား များကို အားထုတ်ခဲ့သည်။ ဗုဒ္ဓရှင်တော်မြတ်ကို အားကျကာ 'စရထ ဘိက္ခဝေ= တရားဟော လှည့်လည်ကြကုန်လော့' ဩဝါဒတော်ကိုလည်း ဦးထိပ်ရွက်ပန်ကာ ဘဝတစ်လျှောက်တွင် ခြေလျင်ခရီးကို အများဆုံး အသုံးပြုတော်မူခဲ့သည်။ တကယ့် အာဇာနည်ယောကျ်ားမြတ်ပါပေ။

## တစ်ကမ္ဘာလုံး သင်္ကန်းရောင် လွှမ်းဖုံးအောင်

'ကမ္ဘာတစ်ဝန်းလုံး သင်္ကန်းရောင် လွှမ်းဖုံးစေအံ့' ဟူသော ရည်ရွယ်ချက်ဖြင့် ၁၉၃၃–ခုနှစ်တွင် မြန်မာရဟန်းတော် ၂၂၇–ပါးကို စုစည်း၍ ရွှေတိဂုံစေတီတော်ကြီး၌ 'စုရပ်' လုပ်ပြီးလျှင် ပြည်မြို့မှတစ်ဆင့် ရခိုင်ရိုးမကြီးကို ခြေလျင်ဖြတ်ကျော်ကာ အိန္ဒိယပြည် ဗုဒ္ဓဂယာသို့ ရှစ်ရက်တိုင်တိုင် ခရီးပြင်းနှင်ခဲ့ဖူးသည်။

တစ်ဖန် မြန်မာသာသနာပြု ရဟန်းတော်များအား လက်ထောက် တစ်ပါးနှင့် လွှဲအပ်ထားခဲ့ပြီးနောက် ၁၉၃၄–ခုနှစ်တွင် ယိုးဒယား ရဟန်းတော် ၁၅၀–တို့ကို စုစည်း၍ ရွှေတိဂုံစေတီတော်ကြီးကို ဦးတိုက်ကာ ဟိမဝန္တာသို့ ခြေလျင်ကြွတော်မူပြန်၏။ ထိုအဖွဲ့ကိုလည်း လက်ထောက်တစ်ပါးအား အုပ်ချုပ်ရစ်စေ၍ ဦးလောကနာထ သီဟိုဠ်သို့ ကြွရောက်စည်းရုံးပြန်သည်။ ၁၉၃၅–ခုနှစ်တွင် သီဟိုဠ်ရဟန်းတော် ၂၀–နှင့်အတူ အိန္ဒိယတောင်ပိုင်းသို့ ကြွချီတော်မူလာပြန်၏။

ဗုဒ္ဓဝါဒအပေါ် သူ၏ယုံကြည်ချက်နှင့် ဖွဲလုံ့လတို့မှာ ပေါ်လွင်လှပေ၏။ တစ်ခါကလည်း ဥရောပတောင်ပိုင်းနှင့် အေရှမိုင်းနားကို ဖြတ်ကျော်ကာ တိုင်းပြည် ပေါင်း, ခရီးမိုင်ပေါင်းများစွာကို တစ်တောထွက် တစ်တောဝင် ရှစ်လကျော်ကြာ တစ်ကိုယ်တော် သာသနာပြုခရီးကြမ်းနှင်ခဲ့ဖူးလေသည်။

တစ်ကမ္ဘာလုံး သင်္ကန်းရောင် လွှမ်းဖုံးစေလိုသော အကြံကြီးသည် ဒုတိယ ကမ္ဘာစစ် မီးစာ ဖြစ်သွားရရှာ၏။ သို့ရာတွင် ဆင်,ကျား,မြွေပေါသော တောတောင် အထပ်ထပ်၊ လူရိုင်းများနေသော ဒေသအရပ်ရပ်ကို လှည့်ပတ်သွားလာ၍ သာသနာပြုရာမှ ကိုယ်တွေ့ ရရှိလာသော ဗုဒ္ဓဓမ္မအနှစ်သာရများမှာမူကား မည်သည့်အရာကမျှ ဖျက်ဆီးနိုင်စွမ်း မရှိ။ ဗုဒ္ဓဘာသာဝင် သားစဉ်မြေးဆက်တို့အတွက်ပါ သုံးစားလို့ မကုန်နိုင်သော ဓမ္မအမွေအဖြစ် ပေးအပ်နိုင်ခဲ့လေသည်။

ယင်းဓမ္မအမွေကား အခြားမဟုတ်။

ဘေးအတန်တန် ရန်အသွယ်သွယ် အန္တရာယ်အမျိုးမျိုးက အကြိမ်ကြိမ် ထောက်ခံချက်ပေးလိုက်သော မေတ္တာဝါဒ ဓမ္မရတနာကြီးပင်တည်း။

## ရှစ်လကျော် ခြေလျင်ခရီးကြမ်း

ဦးလောကနာထသည် သမထဝိပဿနာတရားကို ကျကျနန အားမထုတ် ရသေးမီ အစောပိုင်းက မေတ္တာဘာဝနာ၏ အာနိသင်ကို ကောင်းစွာ ကိုယ်တွေ့ ကြုံခဲ့သူဖြစ်၏။ အစောပိုင်းက မြန်မာနှင့်သီဟိုဠ် မကြာခဏ ကူးလူးနေထိုင်ရာ သီဟိုဠ်ရောက်နေစဉ် ဝမ်းကိုက်ရောဂါ စွဲကပ်လေရာ တော်တော်နှင့်မပျောက်။ 'အနေအစားနှင့် ရာသီဥတုလည်း အပြောင်းအလဲဖြစ်စေတော့' ဟု ကြံရွယ်၍

ဖာတိမြေ အီတလီနိုင်ငံသို့ ခေတ္တပြန်ကြွခဲ့သည်။

အီတလီတွင် ဦးလေးတော်သူ၏ အိမ်၌ ခေတ္တနေထိုင်ရာ အားလုံးက အထူးအဆန်း ဖြစ်နေကြ၏။ ရဟန်းဘဝ၏ အသွင်အပြင်နှင့် ပြုမူနေထိုင်ပုံ စသည်တို့မှာလည်း သူတို့အတွက် အားလုံး အဆန်းချည်းဖြစ်နေ၏။ 'စိတ်မှ ကောင်းရဲ့လား' ဟူသော အကြည့်မျိုးဖြင့် ကြည့်ကာ နယူးယောက်ရှိ မိဘများထံသို့ပင် ပို့ရန် စိမ်ကြသည်။ ဦးလောကနာထက လက်မခံ။ မြန်မာနိုင်ငံသို့ ပြန်ကာ ကမ္ဘာလှည့်၍ သာသနာပြုမည် ဆိုသည်ကိုလည်း သူတို့က လက်မခံ။ ဗုဒ္ဓနှင့် ဗုဒ္ဓဓမ္မများ၏ အကြောင်း ဖျောင်းဖျ ဟောပြောရာတွင်ကား သာ၍ပင် လက်မခံ။ အားလုံးက ငြင်းဆန်ကြ၏။ နောက်ဆုံး ဆွေမျိုးများက ကြံရာမရ ဘယ်မှ ထွက်သွားခွင့် မပေးတော့ဘဲ အကျယ်ချုပ်သဘောမျိုးထားလိုက်သည်။

ဦးလောကနာထကလည်း အစာမစားဘဲ သုံးရက်ခန့်နေ၍ ဆန္ဒပြမှ ဦးလေးလုပ်သူက ဒေါသတကြီး လက်ဆွဲပေါက်ငန်း၍ ဆွေမျိုးတော်သူ မြို့ဝန်တစ်ဦး၏ အကူအညီဖြင့် အိန္ဒိယသွားရန် လက်မှတ်ကို ထုတ်ပေးလိုက်၏။ သို့ရာတွင် တစ်ဆွေမျိုးလုံးကို ဆန့်ကျင်သူဖြစ်၍ ခရီးစရိတ်တစ်ပြားတစ်ချပ်မျှ မထောက်ပံ့ကြ။ သပိတ်တစ်လုံး၊ သုံးထည်သောသင်္ကန်းဖြင့် ပြင်သစ်ပြည် မာဆေးမြို့သို့ ဦးစွာ ခြေလျင်ထွက်ခွာလာခဲ့သည်။

'ဗုဒ္ဓ ဖ, ဘုရားကဲ့သို့ သားတော်ဖြစ်သော ငါလည်း ခြေလျင်ခရီးကို ပျော်ပျော်ကြီး သွားတော့မည်' ဟု ဗုဒ္ဓဂုဏ်ကို အာရုံပြုကာ ပြင်သစ်ပြည်မှ ဆွစ်ဇာလန်၊ ဩစတြီးယား၊ ယူဂိုစလားဗီးယား၊ ဘူလ်ဂေးရီးယား၊ တူရကီ၊ ဆီးရီးယား၊ ပါလက်စတိုင်းတို့ကို ခြေလျင်ဖြတ်သန်းပြီးနောက် အိန္ဒိယ ဗုဒ္ဓအောင်မြေသို့ လာခဲ့ရ၏။

မိုင်ပေါင်းများစွာ ရှစ်လကျော် ကြာခဲ့လေသည်။

## တူရကီတောင်ကြားက မေတ္တာ

ထိုခရီးကား မြစ်ချောင်းလျှိုမြောင် တောတောင်အထပ်ထပ် ဖြတ်ကျော်ခဲ့ရသဖြင့် အန္တရာယ်ကြီးမားလှပေသည်။ ဦးလောကနာထသည် တူရကီတောင်ပိုင်း တောင်တန်းတစ်ခုကို ဖြတ်ကျော်စဉ် တူရကီ တောပုန်းဓားပြများနှင့် သေဝနီးပါး ရင်ဆိုင်ခဲ့ရရာ မေတ္တာဖြင့် အသက်ဘေးမှ လွတ်မြောက်ခဲ့ပုံကို ဤသို့ ကိုယ်တွေ့ မှတ်တမ်း ရေးသားဖော်ပြထားလေသည်။

"ကျွန်ုပ်သည် ဆိုးသွမ်းမှုအရာတွင် နာမည်ကြီးလှသည့် တူရကီ တောင်ပိုင်းရှိ တိုးရပ်(စ်)တောင်တန်းကို ဖြတ်ကျော်စဉ် တူရကီ

ဒေသာပုန်းဓားပြများ၏ ဖမ်းဆီးခြင်းကို ခံခဲ့ရ၏။ သူတို့သည် ချောင်ကျသော တစ်နေရာသို့ ကျွန်ုပ်ကို ခေါ်ဆောင်သွားသည်။ ထို့နောက် သူတို့၏ ဓားသွားများ မည်မျှ ထက်သည်ကို စမ်းသပ်သည့်အနေဖြင့် ကျွန်ုပ်၏ လည်မျိုကို ခုတ်ပိုင်းရန် ပြင်ဆင်ကြ၏။ ကျွန်ုပ် သေရပေတော့မည်။

"ထိုအချိန်၌ ဘုရားဂုဏ်ကို အာရုံပြု ထားလိုက်၏။ '၁၁-ဘုံ၌ ကျင်လည်ကြရကုန်သော သတ္တဝါအပေါင်းအား လိုက်လိုက်လှဲလှဲ မေတ္တာ ထားသူကို ဓားလက်နက်တို့ မစူးဝင်နိုင်၊ မီးလည်း မလောင်၊ အဆိပ်လည်း မထိရောက်နိုင်' ဟု ဟောတော်မူသော ဘုရားရှင်၏ စကားတော်ကို ကြား ယောင်မိသည်။ သို့ဖြင့် ကျွန်ုပ်သည် သန့်စင်မြင့်မြတ်လှသော မေတ္တာ လက်နက်ကို အသုံးပြုမိတော့သည်။ ဦးစွာ မြေပေါ်၌ တင်ပျဉ်ခွေ ထိုင် လိုက်၏။ မျက်လုံးအစုံကို မှိတ်ထားလိုက်သည်။ ရန်သူ လူဆိုးဓားပြ များအပေါ် စူးစိုက်လှိုက်လှဲစွာ မေတ္တာပို့လွှတ်နေ၏။

"မိခင်သည် မိမိ၏ တစ်ဦးတည်းသော သားကို အသက်စွန့်၍ စောင့်ရှောက်သည့်နည်းတူ သတ္တဝါတို့၏အပေါ်၌ ခကန့်အသတ် အပိုင်း အခြားမရှိသော မေတ္တာစိတ်ထားရမည်"ဟု ဗုဒ္ဓရှင်တော်မြတ် ဆုံးမခဲ့သည် မဟုတ်ပါလော။ သို့ဖြင့် ကျွန်ုပ်သည် မိမိကိုယ်ကို မိခင်နေရာ၌ ထားလျက် ကျွန်ုပ်အား သတ်မည်ပြုသော ဓားပြနှစ်ဦးကို ကျွန်ုပ်၏ သားအရင်းနှစ်ဦးပမာ သဘောထားလျက် 'ငါ့သားနှစ်ဦးသည် ချစ်ခင်နှစ်လိုဖွယ် ကောင်းလှပေသည် တကား၊ ငါ့သားနှစ်ဦးအတွက် ငါ့အသက်ကို ကြည်ဖြူစွာ ပေးအပ်တော့မည် တကား' ဟူ၍ အာရုံပြုထားပါသည်။

"ထိုသို့ အာရုံပြုရင်း သူတို့နှစ်ဦးအပေါ် စူးစိုက်လှိုက်လှဲစွာ မေတ္တာပွားနေမိပါသည်။ ထူးခြားသည်ကား ကျွန်ုပ်သည် ယခင်က ကမ္မဋ္ဌာန်းကို ကျနစွာ မထိုင်ဖူးပါ၊ ယခုမှသာ အလိုလို ကျနစွာ ကမ္မဋ္ဌာန်း ထိုင်မိပြီး မေတ္တာဘာဝနာ ပွားနေနိုင်ခြင်းဖြစ်ပါသည်။

"ဤ၌ ကျွန်ုပ်၏ ယုံကြည်ချက်ကို ဖွင့်ဟပြောလိုပါသည်။ အကယ်၍ သင်သည် သေဘေးကြီးနှင့် ရင်ဆိုင်ကြုံတွေ့ရမည် ဆိုပါက တစ်ခုတည်းသော လက်နက်ဖြစ်သည့် မေတ္တာကိုသာ စူးစိုက်ပွားများပါလေ။ ထိုဘေးမှ မုချ သင် လွတ်ပါလိမ့်မည်။ ယခုအရေးတွင်လည်း ကျွန်ုပ်သည် မေတ္တာကိုသာ ပွားနေခဲ့ ပါသည်။ ထိုသို့နေစဉ် လည်ကုပ်ပေါ်၌ ဓားသွား ကျအလာကိုလည်း စောင့်မျှော်နေမိပါသည်။ ထိုစဉ်က တစ်မိနစ်သည် အနှစ်တစ်သန်းလောက် ကြာရှည်သည်ဟု ထင်မိပါသည်။ နောက်ဆုံး၌ လည်ကုပ်ပေါ်၌ ဓားသွား

ကျမလာတော့ပါ။ ခွေးပြများက ကျွန်ုပ်အား နေရာမှ ထခိုင်းပြီး 'သွားတော့' ဟု ဆိုလိုက်ပါသည်။

"မေတ္တာတန်ခိုးကား ကြီးမားလှပါဘိ။ တကယ်တော့ ခွေးပြများသည် သူတို့၏ မိခင်ကို မသတ်နိုင်ကြပါ။ ထို့အတူ မိခင်မေတ္တာ ထားနေသော ကျွန်ုပ်ကိုလည်း သူတို့ မသတ်နိုင်ကြတော့ပါ။ ဗုဒ္ဓရှင်တော်မြတ်၏ မေတ္တာလက်နက်သည် ကျွန်ုပ်၏ အသက်ကို ချမ်းသာရာ ရစေခဲ့ပါသည်။ ကျွန်ုပ်အတွက် မေတ္တာအောင်ပွဲကို ဖြစ်စေခဲ့ပါသည်။"

ဦးလောကနာထသည် ထိုအချိန်မှစ၍ သီလ၊ ခန္တီနှင့် မေတ္တာ စသော ကမ္မဋ္ဌာန်း ဘာဝနာများကို ကိုယ်တိုင်လည်း တိုး၍ဖြည့်ကျင့်ကာ ရောက်လေ့ရာ၌လည်း ပို၍ အလေးအနက် နိုးဆော်တိုက်တွန်းလာဟန် ရှိလေသည်။

တစ်ခါကလည်း ရန်ကုန်မြို့ သရက်တောကျောင်းတိုက်ကြီးအတွင်း ကျောင်းတစ်ကျောင်း၌ ယိုးဒယား ဘုန်းကြီးတစ်ပါးက သူ့အား ရန်ငြိုးထားပြီး တုတ်ကြီးဖြင့် အားကုန်ရိုက်နှက်ဖူး၏။ ဦးလောကနာထကား အပြုံးမပျက်၊ မျက်စိမှိတ်လျက် ထိုဘုန်းကြီး အပေါ် မေတ္တာပွား၍နေလိုက်ရာ သေသေချာချာချိန်၍ ရိုက်သော်လည်း တုတ်မှာ လွဲချော်သွားသည်ဟု မျက်မြင်ကိုယ်တွေ့ ပုဂ္ဂိုလ်တစ်ဦးက ပြောပြဖူး၏။

ဦးလောကနာထသည် ကိုယ်တိုင်လည်း အသက်လွတ်ဘုဉ်းပေး၍ အသက်လွတ်စားရန်လည်း အထူးဟောကြားလေ့ရှိသည်။ အသက်လွတ်စားခြင်းသည် မေတ္တာဘာဝနာအတွက် အကျိုးပြုသည်ဟု ယုံကြည်သောကြောင့်ဖြစ်လေသည်။

## ကမ္ဘာ့ငြိမ်းချမ်းရေးအတွက် မေတ္တာအသံလွှင့်ရုံကြီး

ဦးလောကနာထကား မေတ္တာဝါဒကို လက်ကိုင်ထားသူပီပီ ၁၉၃၉–ခုနှစ် ဒုတိယကမ္ဘာစစ်ကြီး ဖြစ်လာသောအခါ ထိုအချိန် ကမ္ဘာ့စစ်ဘုရင်များ ဖြစ်ကြသော ဟစ်တလာ၊ မူဆိုလိုနီ၊ စတာလင်၊ ချိန်ဘာလိန်၊ ချာချီ၊ ရုစဗဲ၊ အင်္ဂလိပ်ဂျော့ဘုရင်၊ ဂျပန်ဘုရင်၊ ပြင်သစ်သမ္မတနှင့် ချန်ကေရှိတ်တို့ထံ စစ်မတိုက်ကြရန် မေတ္တာရပ်ခံခဲ့၏။ သို့ရာတွင် ကန္တာရထဲမှ တစ်ယောက်တည်း ဟစ်အော်နေသူပမာ အချည်းနှီးဖြစ်ခဲ့ရုံသာမက အီတာလျံလူမျိုးဖြစ်၍ အိန္ဒိယရှိ ဗြိတိသျှ စစ်သုံ့ပန်းစခန်း၌ပင် ကြွရောက်နေထိုင်ခဲ့ရလေ၏။

၁၉၄၈–ခုနှစ်တွင် မန္တလေးမြို့၌ နိုင်ငံခြားဗုဒ္ဓသာသနာပြုအဖွဲ့ကြီး၏ ဆုံးဖြတ်ချက်အရ အမေရိကန် လော့အိန်ဂျလိမြို့၌ သာသနာပြုစခန်း ဖွင့်ကာ တတိယကမ္ဘာစစ် မဖြစ်ပွားရေး မေတ္တာရပ်ခံချက်များ ထုတ်ပြန်ခဲ့၏။

"နိုင်ငံအားလုံးသည် ငြိမ်းချမ်းခြင်းကို လိုလားတောင့်တကြ၏။ ထိုသို့ ငြိမ်းချမ်းရေးကို တောင့်တနေစဉ်မှာပင် ကြောက်မက်ဖွယ် စစ်ဒဏ် ခံနေကြရသည်။ လူတို့သည် လောဘကြောင့် တိုက်ခိုက်နေကြခြင်း ဖြစ်သည်။ လူသားတို့၏ ဒေါသ အာဃာတစိတ်လည်း အဆုံးအစ မရှိ။ လူသားတို့၏ ပျက်စီးမှုကြောင့်ပင် လူသားမျိုးနွယ်များ ဆုံးရှုံးပျက်စီး လုလေပြီ" ဟု လည်းကောင်း၊

"ကမ္ဘာသူကမ္ဘာသားအပေါင်းတို့.....ဘာသာတရားကို အလေးထား ကြကုန်လော့၊ စစ်ကို ဘာသာရေးကသာ တားဆီးနိုင်သည်။ဘာသာရေးမှ တစ်ပါး စစ်မီးငြိမ်းရန် မျှော်လင့်ချက် မရှိ။ ကမ္ဘာပေါ်တွင် အအောင်နိုင်ဆုံး ပုဂ္ဂိုလ်မှာ ဗုဒ္ဓသာလျှင်ဖြစ်သည်။ တုဖက်ပြိုင်ကင်းသော အောင်နိုင်သူကြီး ဖြစ်၏။ အယ်လက်ဇန္ဒြား၊ ဆီဇာ၊ နပိုလီယန် စသော စစ်ဘုရင်တို့ကား ကမ္ဘာကို ဒေါသဖြင့် အနိုင်ကျင့် အုပ်စိုးသူများသာဖြစ်သည်။ ဗုဒ္ဓကား ကမ္ဘာကို မေတ္တာဖြင့်သာ အုပ်စိုးသူဖြစ်သည်။ ကျွန်ုပ်တို့ ဗုဒ္ဓလမ်းစဉ်ကို လိုက်ကြပါစို့" ဟုလည်းကောင်း၊

"ကျွန်ုပ်တို့ကိုယ် ကျွန်ုပ်တို့အားလုံး မေတ္တာ ဒိုင်နမို၊ မေတ္တာ ဘက်ထရီ၊ မေတ္တာ အသံလွှင့်ရုံကြီးများအဖြစ် ပြောင်းလဲကာ စကြဝဠာတစ်ခုလုံး မေတ္တာဖြင့် လွှမ်းဖုံးကြပါစို့-

ဟု လည်းကောင်း ဖော်ပြထားပေသည်။ အဏုမြူလက်နက်များ တားဆီးရေးနှင့် ပတ်သက်သော မေတ္တာရပ်ခံချက်ကိုလည်း ဖြန့်ဝေပြန်ရာ သိပ္ပံပညာက ကမ္ဘာနှင့် လူသားမျိုးနွယ် ပြုတ်ပြုတ်ပြိုးအောင် ဖျက်ဆီးတော့မည်ဖြစ်၍ အချိန်မနှောင်းမီ ဗုဒ္ဓလမ်းစဉ်အရ ငါးပါးသီလကို စောင့်ထိန်းခြင်းအားဖြင့် ကမ္ဘာ့ငြိမ်းချမ်းရေးကို တည်ဆောက်ကြရန် နှိုးဆော်ခဲ့လေသည်။

ဦးလောကနာထသည် မြန်မာနိုင်ငံ၌ အချိန်ကြာမြင့်စွာနေ၍ 'မြန်မာ ပြည်တွင် ရဟန္တာအရှင်မြတ် ငါးဆယ်ခန့်ရှိသည်' ဟု ကြားသိထားသည်ဆိုကာ စွန်းလွန်းဆရာတော်၊ ဝေဘူဆရာတော် စသော ပဋိပတ်အကျော် ဆရာတော် ကြီးများ ခြေတော်ရင်းသို့လည်း မပြတ်သွားရောက် ပူဇော်ဖူးမြော်နည်းခံလေ့ရှိ၏။ ကွယ်လွန်သူမိဘများကို ရည်စူး၍ အလှူဒါနပြုကာ အမျှအတန်း ပေးဝေလေ့ရှိသည်။

"မြန်မာပြည်တွင် ရဟန္တာပေါ်ထွန်းသည့်အတွက် ကမ္ဘာတွင် မြန်မာက ဂုဏ်ယူဖွယ်ဖြစ်ပါသည်။" စသည်ဖြင့်လည်း ဟောပြောရေးသားကာ ဗုဒ္ဓသာသနာအား အင်အားပါပါကြီး နှိုးဆော်လေ့ရှိပေသည်။ ၁၃၁၉-ခုနှစ်က ဝေဘူဆရာတော် ဘုရားကြီးအား သီဟိုဠ်ဝန်ကြီးချုပ်၏ အစ်ကို ဖြစ်သူ ဂျက်ဆင်ဝွတ္တလားဝါလားနှင့်

သမီးဖြစ်သူ အာရောမတို့က သီဟိုဠ်သို့ ပင့်ဖိတ်သည့်ကိစ္စတွင်လည်း ဦးလောက နာထ၏ သတင်းပေး ရေးသားလမ်းညွှန်မှုသည် အဓိက အကြောင်းဖြစ်၏။ ဦးလောကနာထကိုယ်တိုင်ပင် ဆရာတော်အား လာရောက်လျှောက်ထား ပင့်ဆောင် ပေးခဲ့ရလေသည်။

## သိပ္ပံနည်းကျ ဘာသာဝင် ဖြစ်ရေး

ဦးလောကနာထကို အကြောင်းပြု၍ ကသိုလ်ကဲထုံးသူ၊ ဗုဒ္ဓဘာသာ ဖြစ်လာသူ များကား များလှပေသည်။ မန္တလေးမြို့၌ ကိုယ်တိုင် ဗုဒ္ဓကျမ်းစာများကို အင်္ဂလိပ်လို ရေးသား၍ ပစ္စည်းလေးပါးဖြင့် ကမ္ဘာ့အထိ သာသနာပြုနေသူ နာမည်ကျော် ဒေါက်တာဆိုနီသည် ဦးလောကနာထကြောင့်ပင် ဗုဒ္ဓဘာသာဖြစ်၍ ဦးလောက နာထ၏ သာသနာပြု ရဲဘက်တော်ကြီးလည်းဖြစ်ပေသည်။

> "ဗုဒ္ဓဘာသာသည် သိပ္ပံနည်းကျ ဘာသာဖြစ်၍ ယခုရော နောင်ပါ ဗုဒ္ဓတရားတော်သာလျှင် တစ်ခုတည်းသော အမှန်တရား ဖြစ်သည်" ဟု အစဉ်တစိုက် လှည့်လည်ကြွေးကြော်ရင်း "ဗုဒ္ဓဘာသာသို့ ကူးပြောင်းလာသူ များသည် ယုံကြည်မှု၊ စိတ်အားထက်သန်မှု ပြင်းထန်သူ များဖြစ်ကြပါ သည်။ဆင်းရဲသားသည် ငွေတန်ဖိုးကို ကောင်းစွာသိသကဲ့သို့ ဗုဒ္ဓဘာသာဝင် အဖြစ် ကူးပြောင်းလာသူများသည်လည်း ဗုဒ္ဓတရားတော်၏ တန်ဖိုးကို ကောင်းစွာသိကြပါသည်။ **ဗုဒ္ဓ၏ ပထမဆုံးသော တပည့်ရဟန်း သံဃာများ သည်လည်း မူလက အခြားဘာသာဝင်များ ဖြစ်ကြပါသည်။** ဗုဒ္ဓနှင့် တွေ့သောအခါတွင်မှ ဗုဒ္ဓဘာသာသို့ ကူးပြောင်းလာကြသူများဖြစ်ပါသည်။ ဗုဒ္ဓသည်ပင်လျှင် မူလက ဟိန္ဒူဘာသာဝင် ဖြစ်ပါသည်။ ထို့နောက်မှ မိမိအလိုလို ကိုယ်တော်တိုင် ဗုဒ္ဓဝါဒကို ပြောင်းလဲတည်ထောင်လာသူ ဖြစ်ပါသည်"

စသည်ဖြင့်လည်း ဘာသာအယူဝါဒ အပြောင်းအလဲနှင့်စပ်၍ မရှုံ့မရဲ မရှိသင့်ကြောင်း၊ ဗုဒ္ဓဘာသာဝင် ဖြစ်ရသည်မှာ တစ်သံသရာလုံးအတွက် ဂုဏ်ယူဖွယ်ဖြစ်ကြောင်း ပြတ်သားရဲရင့်စွာ အကြောင်းယုတ္တိ ခိုင်ခိုင်မာမာဖြင့် တစ်ဘဝတာလုံး လှည့်လည် အားပေးကြွေးကြော်ခဲ့သော ပုဂ္ဂိုလ်ထူးကြီးကား ၁၉၆၆–ခုနှစ် ၊မေလ ၂၅–ရက်နေ့၊ သက်တော် ၆၈–နှစ်အရ မေမြို့၌ ပျံလွန်တော်မူခဲ့လေပြီ။

ကမ္ဘာတစ်ရိုး တိုးလျှိုးပေါက်မျှ ခြေထောက်အားကိုး နှိုးဆော်အားပေး ကြွေးကြော်သံတို့ကား ဆရာတော်၏ မေတ္တာဝါဒနှင့်အတူ ဆက်လက်ကြေညာ၍ သာသနာပြုနေကြပေဦးမည်သာတကား။

**စတုတ္ထအကြိမ်**

[ ၁၉၈၀၊ ဒီဇင်ဘာလထုတ် ရတနာ့မွန်မဂ္ဂဇင်း၊ ပါရဂူရေး 'သာသနာခရီးသည် ဦးလောကနာထ' ဆောင်းပါးနှင့် ၁၉၈၀–ဇွန်လ၊ နှလုံးလှတိုက်ထွက် မင်းယုဝေရေး 'အတ္တုပ္ပတ္တိထူး' (နိုင်ငံခြားသား ဗုဒ္ဓသာသနာပြုများ အတ္တုပ္ပတ္တိ) စာအုပ်တို့မှ အကြောင်းအရာ ရရှိပါသည်။ ဆရာတော်၏ ဘ၀နှင့် ဟောပြောချက်မှုရင်းအချို့ကို စင်္ကာပူနိုင်ငံ Ngai Seong Press ရိုက် The Light of Truth စာအုပ်၌ ကြည့်ကြပါကုန်။]



**၁၈။ အရေးပိုင် ဦးဘိုးစနှင့် လှူဆိုးများ**

ရန်ကုန် အရေးပိုင်ဟောင်း ဦးဘိုးစ။

ဦးဘိုးစသည် အရေးပိုင်ပင်စင်ယူပြီးနောက် ရန်ကုန်မြို့ အင်းလျားအနီး၌ နေ့စဉ် ရတနာသုံးပါးအာရုံနှင့် အေးဆေးစွာနေသူဖြစ်၏။ မြန်မာ့ပြည်သူ့ဘဏ်၌လည်း မန်နေဂျင်းဒါရိုက်တာအဖြစ် တာဝန်ယူလျက်ရှိသည်။

**ငွေငါးသိန်းနှင့် ပြန်ပေးဆွဲခြင်း**

လွတ်လပ်ရေး ရပြီးစ ၁၉၅၂–ခုနှစ် ပတ်ဝန်းကျင်ကာလ၌ လူပြန်ပေးဆွဲသော အလေ့ဆိုးများ ဒုတိယကမ္ဘာစစ်ကြီး၏ အမွေအဖြစ် ကျန်နေခဲ့သည်။ ၁၉၅၂–ခုနှစ်၊ မေလ ၂၂–ရက်နေ့ထုတ် သတင်းစာများ၌ ငွေငါးသိန်း တောင်းရန်အကြံဖြင့် လူဆိုးများက ဦးဘိုးစအား ပြန်ပေးဆွဲသွားကြောင်း သတင်းပါလာ၏၊ သို့ရာတွင် ထိုသတင်းကား မည်သည့်အခါမျှ မမေ့ပျောက်ကောင်းသော သတင်းတစ်ပုဒ် ဖြစ်သွားသည်။

ဦးဘိုးစသည် မတ်လ ၂၁–ရက်နေ့ နံနက်ပိုင်း ထုံးစံအတိုင်း လမ်းလျှောက်ပြီး ပြန်လာ၏။ 'ထုံးစံအတိုင်း လမ်းလျှောက်သည်' ဆိုခြင်းမှာ အိမ်က ထွက်သည်မှ ပြန်သည်အထိ အသွားအပြန် ဘုရား၊ တရား၊ သံဃာ ရတနာသုံးပါးဂုဏ်တော်၊ ၂၄–ပစ္စည်း စသည်ကို ရွတ်ဆို၍ အထူးအားဖြင့် မေတ္တာဘာဝနာပွားရင်း လမ်းလျှောက်သည်ကို ဆိုလိုသည်။

## မေတ္တာဝစီကံ = ချမ်းသာစေလိုသော နှုတ်

ဦးဘိုးစ လမ်းလျှောက်ပြန်သောအခါ အင်းလျားလမ်း မိမိတိုက်အနီး လမ်းဘေး၌ လူရွယ်သုံးဦး ဂျစ်ကားပျက်၍ ပြင်နေသည်ကို တွေ့ရ၏။ လူရွယ်နှစ်ယောက်က ကားကို နှိုက်၍ တစ်ယောက်ကမူ လူသွားလူလာ အကူအညီမျှော်ဟန်ဖြင့် ကားဘေးတွင်ရပ်ကာ စိတ်ညစ်နေပုံရသည်။

ဦးဘိုးစသည် ဒုက္ခရောက်နေသော ထိုလူရွယ်တစ်စုကို မြင်လျှင် မေတ္တာအာရုံကို ပြောင်းရွှေ့လိုက်သည်။ စောစောက "အရှေ့လောကဓာတ်ရှိ သတ္တဝါအားလုံး ချမ်းသာကြပါစေ" အစရှိသဖြင့် အရပ်ဆယ်မျက်နှာ စကြဝဠာအနန္တ ရှိ သတ္တဝါအနန္တအပေါ် တစ်လှည့်စီ ကြိမ်ဖန်ထပ်ထပ် မေတ္တာဓာတ် ပို့လွှတ်ပွားများရင်း လမ်းလျှောက်ပြန်လာရာ ထိုလူရွယ်တစ်စုကိုမြင်သောအခါ မိမိ၏ မေတ္တာဓာတ်များကို ထိုလူရွယ်တစ်စုအပေါ်၌သာ စူးစိုက်ပို့လွှတ်၍ ပွားများလေတော့သည်။

'အင်း.....ကားပျက်လို့ ဒုက္ခရောက်နေကြပါပကောလား၊ လူငယ်များ ချမ်းသာကြပါစေ၊ ချမ်းသာကြပါစေ'

ထိုလူရွယ်များကို စတင်တွေ့မြင်ရသည်နှင့် တစ်ပြိုင်နက် စိတ်ထဲက အလိုအလျောက် မေတ္တာဓာတ်များ ပို့လွှတ်ပွားများပြီးဖြစ်နေ၏။ အမြဲလေ့ကျင့်ပွားထုံထား၍ အထူးကြိုးစားနေရသည် မဟုတ်ချေ။

ဦးဘိုးစသည် မေတ္တာပွားရင်း ကားပျက်နေသော ထိုလူရွယ်တစ်စု အနီးသို့ သွားလျက် .....

"ဪ.....မောင်တို့ ကားပျက်နေလို့လား၊ ဦး ဘယ်လိုအကူအညီ ပေးရမလဲ" ဟုပင် ချိုသာအေးမြသော အသံဖြင့် အကူအညီတောင်းခံရန် ဖိတ်မန်လိုက်၏။ ဦးဘိုးစ၏ နှလုံးသားက ထိုက်တွန်း၍ ထွက်လာသော မေတ္တာဝစီကံကို ကြည့်လျှင် မြင်သာလှပါ၏။

စင်စစ် မေတ္တာဟူသည် စိတ်ထဲက 'ချမ်းသာပါစေ' ဟု သာမန်နှလုံးသွင်းပွားများရုံမျှနှင့် မလုံလောက်ချေ (စိတ်ထဲက ပွားများရမည့် မေတ္တာဘာဝနာ) မနောကံအလုပ်ကို 'အဝေရာဟောတု' စသည်ဆိုခြင်းကား ပြောဖွယ်မရှိချေ။

အရေးကြုံလျှင် တကယ့်ကို ချမ်းသာကောင်းစားစေလိုသော စိတ်ထားအပြည့်ဖြင့် နှုတ်ရောကိုယ်ပါ အလွယ်တကူ ကူညီဆောင်ရွက်မှသာလျှင် ပြည့်စုံသော မေတ္တာ ဖြစ်နိုင်သည်။

ကားအနီးရပ်နေသော လူရွယ်သည် မမျှော်လင့်ဘဲ ချိုသာရွှင်ပျစွာ မေးလာသော ဦးဘိုးစ၏ စကားကြောင့် ရုတ်တရက် အဖြေမပေးနိုင်ဘဲရှိရာ အခြားတစ်ယောက်က .....

"ဟုတ်ကဲ့၊ ကျွန်တော်တို့ လိုချင်တဲ့ အကူအညီကတော့ ယခု ကားပေါ်တဆိတ် တက်ပြီး ဦး လိုက်ခဲ့ဖို့ပါပဲ" ဟုဆိုကာ ခြောက်လုံးပြူးနှင့်တေ့ပြီး ကားပေါ် အတင်းတက်ခိုင်းတော့သည်။

ဦးဘိုးစအား ကားပေါ်၌ ညှပ်ထိုင်ကာ ကမာရွတ်ဘက်သို့ ဦးလှည့်ပြီး အထွက် အမေရိကန်သံရုံးမှ အရာရှိတစ်ဦး မောင်းလာသောကားနှင့် ဆုံမိရာ ရုပ်ပျက်ဆင်းပျက် ယောက်ယက်ခတ်နေသည်ကို အကဲခတ်မိသော သံရုံးအရာရှိက လူဆိုးများ ဂျစ်ကားနောက်သို့ အမီလိုက်ပါသွား၏။ ကမာရွတ်ဂါတ်ကိုလည်း ဝင်၍ တိုင်တန်းခဲ့သေးသည်။

## ပြေးရင်းလွှားရင်း ယားယံနေကြ

ဂျစ်ကားမှာ ကမာရွတ်မှ တံတားကလေးဘက်သို့ မောင်းနှင်သွားရာ သံအရာရှိ ကားလည်း နောက်က လိုက်ပါသွား၏။

သက်န်းကျွန်းနှင့် ရန်ကုန်ရဲများကလည်း ပူးပေါင်း၍ လိုက်ပါဖမ်းဆီးကြ သည်။ လူဆိုးများမှာ မချော်လင့်ဘဲ ဝိုင်းဝန်းလိုက်လံဖမ်းဆီးကြသည့် အခြေအနေနှင့် ရင်ဆိုင်နေကြရကြောင်းသိသည်နှင့် ဂျစ်ကားကို လမ်းမကြီးပေါ် တည့်မတ်အောင်ပင် မမောင်းတော့ဘဲ ဒယီးဒယိုင် ကသုတ်ကရက် ဖြစ်နေကြ၏။

ဦးဘိုးစမှာ မေတ္တာပို့၍ ပွားပို့ရင်းသာ လိုက်ပါလာရ၏။ ပို့၍ အံ့ဖွယ် ကောင်းသည်မှာ လူဆိုးများ 'အကြောင်းဘာယ်သို့' ဟု မသိရဘဲ ရုတ်တရက် တစ်ကိုယ်လုံး ယားယံလာကြသဖြင့် ပို၍ အမူအရာပျက်နေကြသည်။

တံတားကလေးရွာဘက်သို့ ရောက်သောအခါ ရဲကား၊ သံအရာရှိကားနှင့် ဂျစ်ကားမှာ မှီလုမှီခင်ဖြစ်ကာ ပို၍ ရုတ်ရုတ်သဲသဲဖြစ်လာ၏။ တံတားကလေးရွာ မီးကင်းသမားများကလည်း သံချောင်း တဒေါင်ဒေါင်ခေါက်ကာ ဂျစ်ကား နောက်သို့ ဝိုင်းအုံလိုက်ပါသွားကြသည်။

## လူဆိုးကို ဖမ်းဆီးပေးသော မြွေကြီး

ဂျစ်ကားမှာ တံတားကလေး လမ်းမပေါ်မှ ဆင်းကာ ငမိုးရိပ်ချောင်း (ယခု မြောက်ဥက္ကလာပ)ဘက် ဦးတည်၍ လယ်ကွင်းထဲသို့ ဖြတ်မောင်းသွားရာ လိုက်လံ ဖမ်းဆီးသော ကားများမှာ လမ်းကြမ်းလှ၍ ဂျစ်ကားကို မမီနိုင်ဘဲရှိ၏။

လူဆိုးသုံးဦးမှာ ငမိုးရိပ်ချောင်းရောက်လျှင် ကားဆက်သွား၍ မရတော့သဖြင့် ကားပေါ်မှ ဦးဘိုးစကို ဆွဲချကြသည်။ ချောင်းကို ဖြတ်ကူး ခေါ်ဆောင်ရန် ခရာတောကို ဖြတ်၍ ရွှံ့နွံပြင်သို့အဆင်း ရေထဲ၌ မြွေဟောက်ကြီးတစ်ကောင်က

ရှေ့မှ ဆီးကြိုနေသည်ကို တွေ့ရပြန်သဖြင့် ချောင်းရေကို ရတ်တရက် ဖြတ်မကူးရဲဘဲ အံ့အားသင့်ကာ ဆုတ်ဆိုင်းဆိုင်း ဖြစ်နေကြစဉ် အရပ်သားများ မီလာ၍ လူဆိုးများ အားလုံး ရိုက်နှက်ဖမ်းဆီးခြင်း ခံရလေတော့၏။

သံရုံးအရာရှိက ၎င်း၏ကားဖြင့် ဦးဘိုးစအား တင်ခေါ်လာခဲ့လေသည်။

နောက်တစ်ရက် (မေလ ၂၂–ရက်)သတင်းစာများတွင် ထိုသတင်း ပါလာရာ 'တိုးတက်ရေး သတင်းစာ' တွင် ဦးဘိုးစသတင်း နောက်ကွယ်၌ လူကိုယ်တိုင် တွေ့ဆုံမေးမြန်းရရှိချက်အရ သတင်းထောက်က အောက်ပါအတိုင်း ထိုသတင်းနိဂုံးချုပ် ဖော်ပြသည်ကို ထူးထူးခြားခြား ဖတ်ရှုကြရသည်။

> "ဦးဘိုးစတို့မှာ ဗုဒ္ဓဘာသာ တရားတော်ကို အထူးလေးစားသော ပုဂ္ဂိုလ်များဖြစ်၍ လူဆိုးများ ခေါ်သွားစဉ်က တရားတော်များကို နှလုံးသွင်းကာ မေတ္တာပွားပို့ခဲ့သော တန်ခိုးကြောင့် ဤကဲ့သို့ လွတ်မြောက်လာရခြင်း ဖြစ်သည်ဟု ဆိုလေသည်"

[မှတ်ချက်။ ။ဦးဘိုးစ၏ဖြစ်ရပ်ကို သင့်ဘဝ ဦးလေးကြီး ဦးတင်မောင် က သင့်ဘဝမဂ္ဂဇင်း (စက်တင်ဘာ၊ ၁၉၅၄)၌ မှတ်တမ်းတင်ဖော်ပြသည်ကို အခြေခံ၍ ဦးဘိုးစနှင့် လမ်းအတူလျှောက်လေ့ရှိသူ ဘဏ္ဍာရေးဝန်ကြီးဟောင်း မြန်အောင်ဦးတင်၏ ဖြည့်စွက် ပြောပြချက်အရ တင်ပြပါသည်။ တိုင်းပြည်နှင့် လူမျိုး တိုးတက်ကြီးပွား၍ လိမ္မာရေးခြား ရှိစေရန် ထိုသတင်းဆောင်းပါးမျိုးကို ဖော်ပြလေ့ရှိသော 'သင့်ဘဝ' အား ကျေးဇူးတင်ရပါသည်။]

### တောရဘုန်းကြီးအား ပြန်ပေးဆွဲခြင်း

ပြန်ပေးဆွဲခြင်းနှင့်စပ်၍ တောရဘုန်းကြီးတစ်ပါးအား လူဆိုးများက ပြန်ပေး ဆွဲပုံအကြောင်း 'ရဟန္တာနှင့် ပုဂ္ဂိုလ်ထူးများ' စာအုပ် ပခုက္ကူ သဲပုံစေတီတောရ ဆရာတော် ဦးကိတ္တိအခန်း၌ ပြဆိုခဲ့သည်ကို အနည်းငယ် ဆက်၍ ကြည့်ညှိပါဦး။

ဆရာတော် ဦးကိတ္တိမှာ ပခုက္ကူမြို့နယ်၌ တစ်ချိန်က ရဟန္တာဟု ကျော်ကြား၍ မြို့ပေါ်ရှိ သူဌေးများ ကိုးကွယ်ဆည်းကပ်သော ဆရာတော်ဖြစ်၏။ လူဆိုးများက ထိုအချက်ကိုကြည့်၍ တစ်နေ့သောအခါ ဆရာတော်အား အလှူအတန်းပင့်လေဟန် အယုံသွင်းလျှောက်ထားကာ တောရကျောင်းသို့လာ၍ ထမ်းစင်နှင့် ပင့်ခေါ်ကြသည်။

တစ်နာရီ၊ နှစ်နာရီ ချွေးဒီးဒီးကျအောင် ထမ်းဆောင်လာကြရာ မိမိတို့ ကြိုတင်စီမံထားသည့်အတိုင်း လုံခြုံသောနေရာသို့ ရောက်ပြီထင်၍ ထမ်းစင်ကို ချကြရာ တစ်ဧက မရှိတရှိ တောရကျောင်းဝင်းကလေး၏ အပြင်သို့ မထွက်နိုင်ဘဲ ကျောင်းဝင်းထဲ၌သာ တစ်နာရီ၊ နှစ်နာရီ တဝဲလည်လည် ထမ်းနေကြရသည်ကို

သတိပြုမိကြလေတော့၏။ ထိုအခါကျမှ ဆရာတော်အား လွှန်သမျှ ဝန်ချကန်တော့ကာ လူဆိုးများ ထွက်ပြေးသွားကြလေတော့သည်။

မေတ္တာစသော သူတော်ကောင်းတို့ တရားကား အရေးကြုံလျှင် ကာယကံရှင် သိအောင် ဖော်ပြတတ်ပေ၏။ ကာယကံရှင်က မသိသော်လည်း သူတို့ကား စောင့်ရှောက်သူကို ပြန်၍ အမြဲစောင့်ရှောက်နေကြပေသည်။ အကျိုးကို မမျှော်၊ သူတော်ကောင်းတို့တာဝန်ကား တရားကို စောင့်ရခြင်းပင်တည်း။



၁၉။ မဟာစည် ယောဂီမကြီး၏မေတ္တာ

မေတ္တာနှင့်စပ်၍ ဤနေရာ၌ ကိုယ်တွေ့ဖြစ်ရပ်တစ်ခုကို ဖော်ပြလိုပါသည်။ အချိန်ကာလမှာ ၁၃၃၅–ခုနှစ်က ဖြစ်၏။

ရန်ကုန်မြို့ ကျေးဇူးရှင် မဟာစည်ဆရာတော်ဘုရားကြီးရိပ်သာ၌ ယောဂီ ဒကာမကြီးတစ်ဦး လာရောက်၍ တရားအားထုတ်၏။ သတိပဋ္ဌာန် ပွားမရသဖြင့် မေတ္တာကမ္မဋ္ဌာန်း ဦးစွာပေးသည်။

အိမ်နီးချင်းကို မျက်မုန်းကျိုးသူ

တရားစစ်ခံလာသောအခါ 'သတ္တဝါများကို မေတ္တာပွားပို့လို့ ရသော်လည်း စီးပွားပြိုင်ဘက် ရန်သူ အိမ်နီးချင်း ဒကာမတစ်ဦးကိုမူ မည်သို့မျှ ပွားပို့၍ မရကြောင်း' ရိုးသားစွာ တရားစစ်ခံ၏။

"ချစ်သူနှင့် မုန်းသူကို နောက်ဆုံးမှ ပို့ရတယ်" ဟု ခိုင်းသော်လည်း မရဘဲ ရှိနေ၏။

သို့နှင့် ဆရာတော်က "သံသရာ၌ ဆွေမျိုးမိဘ မတော်စပ်ဖူးသူ မရှိပုံ၊ အနေနီး၍ ကျေးဇူးခံ ကျေးဇူးစား ရှိသူများ ဖြစ်၍သာလျှင် အခိုက်အတန့်အားဖြင့် ရန်သူဖြစ်ရပုံ၊ သူ့ကျေးဇူးကိုချည်း ရှုပြီး သည်းခံရပုံ" စသည်တို့ကို ပြောပြပြီး ထပ်မံ အပွားခိုင်း၏။

ထိုယောဂီ ဒကာမကြီးသည် သုံးရက်လောက်ရှိသောအခါ ဆရာတော်အား

အောက်ပါအတိုင်း ဝမ်းသာအားရ လျှောက်ထား၏။

**တရားထိုင်ရင်း တွေ့ရသောရန်သူ**

"ဆရာတော်ဘုရား၊ တပည့်တော်မ ယခု မေတ္တာပို့လို့ရပါပြီ၊ ရရုံသာ မဟုတ်ဘူး၊ ထူးဆန်းလွန်းလို့ ဆက်ပြီးလျှောက်ပါရစေ။

"တပည့်တော်မ လပြည့်အဖိတ်နေ့ညက မေတ္တာပွားတာ စောစောက ပို့လို့မရတဲ့ အိမ်နီးချင်း ဒကာမကို မျက်နှာကအစ တစ်ကိုယ်လုံးမြင်အောင် ခြေဆုံးခေါင်းဆုံး ကြည့်ပြီး ပို့ပါတယ်ဘုရား။

"ပို့ရင်းပို့ရင်းနဲ့ သူ့မျက်နှာဟာ ပြုံးရွှင်လာပြီး တပည့်တော်မကို သူက တောင်းပန်တယ်။ 'အဒေါ်ရယ် ကျွန်မတို့ ရှေးက ပြောမှားဆိုမှားတာတွေ သည်းခံပါနော်တဲ့။အဒေါ် ရိပ်သာမှာသွားပြီး တရားထိုင်နေတယ်ကြားလို့ ကျွန်မတို့လဲ ဝမ်းသာနေပါတယ်တဲ့၊ ကျွန်မတို့လဲ ရိပ်သာဝင်ဖို့ အားခဲနေတာပါပဲ' လို့ တပည့်တော်မရဲ့ လက်ကိုဆွဲပြီး ပြောပါတယ်။

"စိတ်ထဲမှာ ပေါ်လာပုံ လျှောက်တာပါဘုရား။

"ဒီလောက်နဲ့ တပည့်တော်မ မအံ့သြသေးပါဘူး။ တပည့်တော်မတို့ဟာ ခပ်ငယ်ငယ်ကတည်းက လပြည့်လကွယ်နေ့တိုင်း ရွှေတိဂုံဘုရားသွားပြီး ဆွမ်းပန်း လှူနေကျမို့ မနေ့ကလဲ လပြည့်နေ့ဖြစ်လို့ ဘုရားကို သွားပါတယ်ဘုရား။

"ဘုရားပေါ်လဲ ရောက်ရော၊ အဲဒီဒကာမက အူယားဖားယားနှင့် တပည့် တော်မဆီ ပြေးလာပါတယ်။ တပည့်တော်မရဲ့ လက်ကိုဆွဲပြီး ကမ္မဋ္ဌာန်း ထိုင်ရင်း ထင်ရကြားရတဲ့ စကားအတိုင်းပဲ ပြောလာတော့ တပည့်တော်မဖြင့် ဝမ်းသာလိုက်တာ၊ 'ငါ့ မေတ္တာအောင်ပြီ' ဆိုပြီး ဝမ်းသာလိုက်တာဘုရား။

"ပိုပြီး အံ့သြစရာကောင်းတာက .....

"တရားအာရုံထဲမှာ မြင်ရတဲ့အတိုင်း အင်္ကျီလုံချည်ရော၊ တဘက်ရော တဆင်တည်း တထေရာတည်း ချွတ်စွပ်တူနေတာ တပည့်တော်မဖြင့် အံ့သြလို့ မဆုံးပါဘုရား၊ တရားဟာ အလွန်ဆန်းကြယ်ပါကလားဘုရား"ဟု လျှောက်သည်ကို ယောဂီအများပင် ကြားကြရ၏။

ထိုဖြစ်ရပ်သဘောတရား အမှန်များကို လက်တွေ့အားထုတ်ခြင်းမှတစ်ပါး အဘယ်ကိရိယာဖြင့် စမ်းသပ်နိုင်ပါမည်နည်း။

ထို့ကြောင့် 'မေတ္တာပို့လျှင် ရောက် မရောက်' စဉ်းစားစရာ မရှိတော့ပြီ။ မမြင်ရသော အနှောင့်အယှက်များအပေါ် မေတ္တာသက်ရောက် ဒေးရန်ပျောက်သည်မှာ လည်း ယုံမှားစရာ မရှိတော့ပြီ။



**စတုတ္ထအကြိမ်**

## မေတ္တာစွမ်းအင်

တစ်နေ့သုံးခါ ၊ အိုးတစ်ရာဖြင့်၊ ချက်ကာထမင်း၊ ကျွေးမွေးခြင်းထက်၊ မယွင်းစင်စစ်၊ နို့တစ်ညှစ်စာ၊ ကြိမ်သုံးခါမျှ၊ မေတ္တာပွားများ၊ ကျိုးကြီးမားသည်၊ ဘုရားမြွက်ဟ မိန့်ခွန်းတည်း။

အိပ်–နိုး–ချမ်းသာ၊ ကောင်းစွာအိပ်မက်၊ ချစ်လျက်လူ့နတ်၊ စောင့်လတ် နတ်များ၊ မီး၊ဆိပ်၊ဓား၊တို့၊ ရှောင်ရှားကိုယ်မှာ၊ လျင်စွာစိတ်တည်၊ ရွှင်ကြည်မျက်နှာ၊ သေခါမတွေ၊ လားလေဗြဟ္မာ၊ ဆယ့်တစ်ဖြာသည်၊ မေတ္တာပွားမှု အကျိုးတည်း။



# အခန်း (၄)

# တိရစ္ဆာန်တို့၏ မေတ္တာရောင်ပြန်

**တိရစ္ဆာန်တို့၏ မေတ္တာရောင်ပြန်**

- မုဆိုးဝန်ထောက်ကြီးအား ဆုံးမသော ငှက်များနှင့် ဒေါ်မမကြီး၏ မေတ္တာ
- စာမတတ်သော ဒေါ်ရွှေ၏ မေတ္တာ
- ဦးဘထူး၏ မေတ္တာ
- ဝေဿန်မင်းကြီး၏ မေတ္တာရောင်ပြန်
- ဖခင် (ခြင်္သေ့ကြီး)၏ မေတ္တာ
- မိခင် (နွားမကြီး)၏ မေတ္တာ
- ဥဒ္ဓံထဲက သတ္တဝါနှင့် မိခင်၏ မေတ္တာကြိုး
- လက်ဦးဆရာ ဗြဟ္မာမိဘ။

စတုတ္ထအကြိမ်

**သတ္တဝါများကို မညှဉ်းဆဲသင့်**

ဘုရားရှင်ကား အကျိုးအပြစ်ကို ကုန်စင်အောင် မြင်တော်မူသည့်အတွက် "အတ္တာနံ ဥပမံ ကတွာ၊ န ဟနေယျ န ဃာတယေ=မိမိကိုယ်ကို ဥပမာထား၍ (ကိုယ်ချင်းစာ၍) မည်သည့်သတ္တဝါကိုမျှ မညှဉ်းဆဲ မသတ်ဖြတ်ကြနှင့်"ဟု တိုတိုတုတ်တုတ်ပင် ဆုံးမခဲ့လေသည်။

စတုတ္ထအကြိမ်

## ၂၀။ မုဆိုးဝန်ထောက်ကြီးအား ဆုံးမသော ငှက်များ

ဝန်ထောက်ကြီး ဦးညိုနှင့်ဇနီးဒေါ်မမကြီးတို့သည် ၁၈၉၈–ခုနှစ်က မိတ္ထီလာမှ ဂန့်ဂေါသို့ အလုပ်တာဝန်ဖြင့် ပြောင်းရွှေ့ကြရသည်။

ဝန်ထောက်ကြီး ဦးညို ဟူသည် 'မောင်ရင်မောင် မမယ်မ' ဝတ္ထုရေးသူ ဂျိမ်းလှကျော်၏ မွေးစားဖခင်ဖြစ်၏။ ဦးညိုသည် ဗုဒ္ဓဘာသာမှ ခရစ်ယာန်ဘာသာသို့ ကူးပြောင်းကာ ဇနီးဖြစ်သူကိုပင် သွေးဆောင်ဖျောင်းဖျနေခဲ့သည်။ မရသည့်အဆုံး 'မတည့်အတူနေ၊ မြွေမသေ တုတ်မကျိုး' တစ်ယောက်ကို တစ်ယောက် အယူဝါဒနှင့်စပ်၍ အနှောင့်အယှက်မပေးစတမ်း ကတိဖြင့် နေထိုင်လာခဲ့၏။

ဂန့်ဂေါမြို့၌ ဝန်ထောက်ဘဝဖြင့် နေထိုင်စဉ် ငွေတစ်ကျပ်ပေးလျှင် ကြက်ဆယ်ကောင်မျှ ရရှိနိုင်သဖြင့် စိတ်ကြိုက်ဝယ်ယူကာ ကြက်ခြံလုပ်၍ထား၏။ ယောသား ရှင်အောင်မြတ်ကို လခပေး၍ ကြက်ထောင်မှူး ခန့်ထားလိုက်သေးသည်။

ထိုမျှဖြင့် အားမရသေးဘဲ နေ့စဉ်လည်း တပည့်ကျော်များနှင့် အတူထွက်၍ ငှက်ပစ်မုဆိုးလိုက် သွားမိအောင် သွားလိုက်ရသေး၏။

ဒေါ်မမကြီးမှာ ဦးညိုတို့ ဆရာတပည့် လုပ်သမျှအပေါ် သတိပေးတောင်းပန်၍ မရသာလျှင် မသိကျိုးကျွံပြု၍ နေလာခဲ့၏။ အသိအကျွမ်း မရှိ၊ ရောက်သစ်စ ဒေသလည်းဖြစ်၊ လောကီအတတ်များ စွမ်းလှသည် စသော ကောလာဟလကလည်း ရှိနေ၍ ဒေါ်မမကြီးခမျာ ရတနာသုံးပါးနှင့် မေတ္တာ

ဘာဝနာကို ကြိုးစား၍ ဆောင်ရွက်ရလေသည်။

**သစ္စာရှိသော ငှငှက်နှင့် အသက်ပေးချစ်သော ဟင်္သာ**

တစ်နေ့သောကာလတွင် ငှက်ပစ်ဝါသနာကြီးလှသော ဦးညိုအား ငှငှက်နှင့် မောက်တင်ငှက်များက မေတ္တာနှင့် ကရုဏာတို့၏ သဘောတရားကို သက်သေတင်၍ ပြကြသည်။

ဦးညိုလည်း တကူယ့်ငှက်များနှင့် ပက်ပင်းပါ တိုးမိရာ အသိဉာဏ်များ တွေ့ဝေသွား၏။ ထိုငှက်များကို ပစ်ခဲ့မိသည်မှာ ဦးညိုအတွက် ကံကောင်းသည် ဟုပင် ဆိုရမည်။ အဘယ့်ကြောင့်ဆိုသော် ငှက်များက ဟောပြောသော တရားသည် ဦးညိုအား သမ္မာဒိဋ္ဌိဘဝသို့ ပြန်လည်သက်ဝင်စေခဲ့သည်။

ငှက်တို့တွင် ငှငှက်သည် ထူးခြား၏။ မည်သည့် သက်ရှိပိုးကောင် သတ္တဝါ များကိုမျှ မစားသောက်ရုံသာမက လူတို့စားသုံးရန် စိုက်ပျိုးထားသော မည်သည့် သီးနှံကိုမျှ စားသောက်ဖျက်ဆီးရိုးထုံးစံ မရှိပေ။

လူများက ပစ်ခတ်၍ ထိမှန်သေဆုံးလျှင်လည်း ပစ်သူ၏ ခြေရင်း၌ ထိုးဆင်း ပျံကျလာကာ နှုတ်သီးကို ဟ၍ အစာများကို အန်ထုတ်ပြလေ့ရှိပေသည်။

"ကျွန်ုပ်တို့သည် လူတို့မသင့်ါသော အသီးအနှံများကို မစားပါ၊ မယုံလျှင် ကြည့်ပါတော့"ဟု ဆိုသကဲ့သို့ ညောင်သီးများကိုသာ အန်ပြရင်း အသက်ထွက် သွားရလေ့ရှိကြပေသည်။ ထို့ကြောင့် ရှေးလူကြီးများက ငှက်ပစ်လေ့ရှိသော ကလေးများအား–

"ဒီငှက်တွေက သူတော်ကောင်းငှက်တွေပါကွာ၊ မပစ်ကြပါနှင့်" ဟု တားမြစ်တတ်ကြ၏။

ထို့နောက် မောက်တင်ငှက်ဆိုသော ငှက်များလည်း ဟင်္သာငှက်မျိုးဖြစ်၍ အံ့ဖွယ်စိတ်ထားကောင်းရှိသော ငှက်မျိုးဖြစ်၏။ လူသာမန်တို့၌ပင် မရှိသော မေတ္တာ၊ ကရုဏာ ကိုယ်ချင်းစာစိတ်များ ရှိကြသည်။ အများအားဖြင့် ငှက်မောင်မယ် ရွှေလည်တွဲ၍ မခွဲမခွာ သွားလာကျက်စားလေ့ရှိရာ ရန်သူလက်ချက်ကြောင့် တစ်ကောင်ကောင် သေဆုံးသွားလျှင် ကျန်ရစ်သော အကောင်မှာ ကောင်းကင်သို့ အားကုန်ပျံတက်ပြီး အတောင်ပံကို ရုပ်လျက် ထိုးဆင်းကာ ထိုနေရာ၌ပင် မြေကြီးကို ရင်ပတ်ဖြင့် တိုက်သတ်၍ ပွဲချင်းပြီး သေပြလေ့လည်း ရှိကြသည်။

ဝန်ထောက်ကြီး ဦးညိုသည် သူ့ဘဝအကြောင်းကို သူကိုယ်တိုင် ၁၂၇၈– ခုနှစ်က ရေးသား၍ ၁၂၈၇–ခုနှစ်က မန္တလေး ဂုဏဝတီ ပုံနှိပ်တိုက်၌ ပုံရိုက်ခဲ့ဖူး၏။ ၁၉၆၂–ခုနှစ်က ရန်ကုန်မြို့ 'ဝိုင်–အမ်–ဘီ–အေ' အသင်းက ဒုတိယအကြိမ်

'ဘ၀အလင်းပြ' အမည်ဖြင့် စာအုပ်ရေ ငါးထောင် ထပ်မံ ရိုက်နှိပ်သည်ကို ဖတ်ရှုရသည်။

ဝန်ထောက်ကြီး ဦးညိုအား ဘ၀လမ်းကြောင်း ပြောင်းလဲသွားအောင် (အကြောင်းအားလျော်စွာ) စတင်ဆော်ဖန်သော ငှက်ကြီးများအကြောင်း ကာယကံရှင် ကိုယ်တိုင်ရေးသားချက် မူရင်းကို ဖတ်ရှုသုံးသပ်ကြရန် ဖော်ပြပါအံ့။

(ဦးညို သေကောင်ပေါင်းလဲ နေမကောင်းစဉ် ဒေါ်မမကြီး၏ ပရိတ်မေတ္တာ ရွတ်ဆို ပို့သမှုကြောင့် ထူးခြားစွာ ဆေးဝါးဓာတ်စာများရ၍ ကျန်းမာလာပုံ၊ သစ္စာပြုပုံ၊ ဘာသာချင်းပြိုင်ပုံ စသည်တို့လည်း ၎င်းစာအုပ်၌ ဖော်ပြပါရှိသည်။)

## မမကြီး၏ မေတ္တာကြောင့် ငှက်သတ္တဝါများ အသက်ဘေးမှ ချမ်းသာခြင်း

[ယောအရပ်သည် ဆောင်းဥတုအခါကျလျှင် တောတောင်ကုန်းတန်း လျှိုရိုး တို့သည် အလွန်သာယာပြီး တောကြက်တောငှက်မှစ၍ တောတိရစ္ဆာန်များ အလွန် ပေါများသောကြောင့် သေနတ်ပစ် ဝါသနာပါသောသူတို့ အလွန်ပျော်မွေ့ဖွယ် ကောင်းလေသည်။

ကျွန်ုပ်သည်လည်း သေနတ်ပစ် ဝါသနာပါသောသူဖြစ်၍ နံနက်တိုင်း လှည့်လည်၍ ပစ်ခတ်သည်သာမက၊ နယ်လှည့်သွားသည့်အခါတို့၌ ယမ်းတောင့် များစွာ ယူသွားလေ့ရှိသည်။

ဂန့်ဂေါမြို့က ခရီး ၆၈-မိုင် ကွာဝေးသောအရပ်မှာ ညောင်ပင်ကြီးတစ်ပင် ရှိရာ ထိုညောင်ပင်ကြီးပေါ်မှာ ဆောင်းကာလအခါ နံနက်နေစာလှုံ၍ နေကြသော ဂုငှက်ဟု အများခေါ်ကြသော မယ်ဇယ်ငှက် အများအပြားရှိတတ်သည်။

ညောင်ပင်သို့ နံနက် (၉)နာရီခန့် အချိန် နယ်လှည့်ရာကအပြန် ကျွန်ုပ်တို့ ရောက်သောအခါ များစွာသောငှက်တို့သည် အချို့ကား အိပ်လျက်၊ အချို့ကား ညောင်ကိုင်းပေါ်မှာ ငြိမ်သက်စွာ နားလျက်နေသည်ကို ကျွန်ုပ် မြင်လေလျှင် တစ်ခါတည်း လှည်းပေါ်က ခုန်ဆင်း၍ ပစ်မည်လုပ်ရာ မမကြီးကလည်း လှည်း ပေါ်မှာ ပါလာသဖြင့် အတန်တန်တားသော်လည်း မနေ။

"ငါတို့ဘုရားသခင်က ငါတို့စားရန် ဖန်ဆင်း၍ထားသော ဟင်းသီးဟင်းရွက် ကလေးများအတွက် မင်းက သည်လောက် အရေးမပြုပါနှင့်" ဟု ကျွန်ုပ်က ပြန်ပြောလိုက်သည်။ ထိုအခါ မမကြီးက-

"တား၍မရလျှင် ပစ်ပါတော့၊ သို့သော်လဲ ထိုသနားစရာကောင်း၍ ပျော်ပါးစွာ နေသော ငှက်များအတွက် ပရိတ်မေတ္တာပို့၍ ဆုတောင်းပါရစေဦး" ဟုဆိုပြီးလျှင်

သူ့ ဆုတောင်း၍နေခိုက် ကျွန်ုပ်သည် အတော်ပင် သည်းခံ၍ စောင့်ဆိုင်းနေရသည်။

သူဆုတောင်းပြီးသည်နှင့် တစ်ပြိုင်နက် နံပါတ်၄–စရိတ်များစွာထည့်၍ ထားသော ယမ်းတောင့်ကို သေနတ်ထဲသို့ သွတ်သွင်းပြီးလျှင် "ဆုတောင်း မေတ္တာပြုသောသူအား သည်တစ်ခါ ငှက်သားဝအောင် ကျွေးတော့မည်" ဟု စိတ်ထဲကကြံ၍ အနီမှ်ဆုံး အကိုင်းပေါ်မှာ စု၍နားနေကြသော ငှက်တို့ကို ချိန်ရွယ် ပြီးလျှင် ပစ်လိုက်လေသည်။

ငှက်များနားသော ညောင်ကိုင်းညောင်ရွက်တို့သည် ကြေမွကျိုးပဲ့၍ အပိုင်းပိုင်း ပြတ်၍ ကျသော်လည်း ငှက်တစ်ကောင်မျှ မကျသည်နှင့် ငှက်များသည် ဒဏ်ရာ ရလျက် မသေဘဲ ပျံသွားကြသည်အထင်နှင့် ညောင်ပင်အောက် တလင်းပြင်နှင့် အနီးအနားရှိ သစ်ပင်အောက်တို့မှာ လိုက်လံရှာဖွေရာ သွေးပေါက်သွေးစ တစ်စက်မျှ မတွေ့ရသည့်အပြင် ငှက်မွေးငှက်တောင် တစ်ပင်မျှပင် ရှာမရသောကြောင့် ကျွန်ုပ်နှင့် တကွ ကျွန်ုပ်အနားက ငှက်ကောက်ရန် စောင့်နေကြသော ယောသား ပြာတာများပါ အံ့သြခြင်း ဖြစ်ကြလေသည်။

ကျွန်ုပ်သည် သေနတ်ပစ်ခြင်းအတတ်၌ တစ်ဖက်ကမ်း မခတ်သော်လည်း အတန်အသင့်အကျင့်ရှိသောကြောင့် ခါတိုင်းသောနေ့တို့၌ အလွန် မြင့်မောက် သော သစ်ပင်များမှာ နား၍နေသော တစ်ကောင်တည်းသော ငှက်ကိုပင် ထိမှန် ဖူးသည်မှာ များလှပြီ။

ယခု ငှက်တစ်ကောင်မျှ မကျသည်မှာ 'ဗုဒ္ဓဘာသာ ပရိတ်မေတ္တာ ဘာဝနာသည် အတော်ပင် စူးရှပါ၏တကား' ဟု စိတ်ထဲ၌သာ မှတ်ယူထား လိုက်သည်။

## သနားစရာကောင်းသော မောက်တင်ငှက်၏အကြောင်း

မိုးဥတုအခါ ဂန့်ဂေါမြို့၏အရှေ့ဘက်နား လယ်ကွင်းများ၌ ရေများစွာ ရှိတတ်သည်။ ထိုရေကွက်များထဲမှာ အစာရှာစား ပျော်မြူးရန် မောက်တင်ခေါ် ရေဝမ်းဘဲတို့ လာတတ်ကြ၏။ ၎င်း၏သဏ္ဌာန်မှာ ဟသ်ာလောက်ရှိ၍ အမွေးအတောင်တို့မှာ အတော်ပင် လှပသဖြင့် နှုတ်သီးရင်းနားမှာ ဂုံညှင်းသဏ္ဌာန် ဝိုင်းစက်၍ မာကျောသော အမောက်ရှိသည်။

တစ်နေ့သ၌ ယောသား ရှင်ကျော်လှဆိုသူသည် ကျွန်ုပ်တို့ စားရန်အတွက် ၎င်းဝမ်းဘဲများကို သွား၍ပစ်ရာ ဝမ်းဘဲတစ်ကောင်ကို သေနတ် ထိမှန်လေ၏။ ကျန်ရှိသော အဖော်နစ်ကောင်တို့သည် ထွက်၍မပြေးဘဲ ဒဏ်ရာရရှိသော ဝမ်းဘဲကို အတောင်ဖြင့်ထူမ,၍ ယူနေကြသည်ကို ရှင်ကျော်လှ က ထပ်မံထပ်မံ ပစ်မည်ပြုရာ

ကျွန်ုပ်က အဝေးမှမြင်သဖြင့် အမှတ်သညာပေး၍ မပစ်ရန် တားမြစ်လိုက်သည်။

ထို့နောက် ဒဏ်ရာရရှိသော ဝမ်းဘဲ သေသောကြောင့် အိမ်သို့ယူလာသည်ကို အဖော်နှစ်ကောင်တို့သည် ကောင်းကင်ထက်က ပျံဝဲလျက် သနားစဖွယ် ဟစ်အော်၍ အိမ်နားသို့အရောက် လိုက်ကြလေသည်။

ထိုအခြင်းအရာကိုမြင်လျှင် ကျွန်ုပ်စိတ်ထဲ၌ ပေါ်လာသည်မှာ ရွှေကျင်မြို့အပိုင် ဘောကထာခေါ် ရွာငယ်တစ်ခုတွင် ညဥ့်သန်းခေါင်အချိန် လောက်၌ ရင်ဘတ်နာ၍ မီးလှုံရန် မီးဖိုဆောင်သို့သွားသော မိန်းမတစ်ယောက်ကို ကျားတစ်ကောင်သည် ချီယူ၍ အိမ်နှင့်မနီးမဝေးတွင် ကြွက်ကို ကြောင်များက ကစားသည့်နည်းတူ ကစားနေသည့်အခါ ထိုမိန်းမက ဟစ်အော်၍ 'ကျွန်မ မသေသေးပါ၊ လာကယ်ပါ' ဟု လင်ဖြစ်သူကို ပြောသော်လည်း မိုက်ရိုင်းရက်စက်သော လင်ယောကျ်ားက သနားကရုဏာ မဖက်သကဲ့သို့ အိမ်ထက်၌သာ တိတ်ဆိတ်စွာ ပုန်းကွယ်နေလေသဖြင့် တအော်အော်နှင့် တောနက်ရာသို့ ထိုမိန်းမ ပါရှာလေသည်။

'ဤမောက်တင်တို့မှာ တိရစ္ဆာန် ဖြစ်ပါလျက် ရန်သူကြီး၏ ရှေ့မှောက်၌ မကြောက်မရွံ့ စွန့်စွန့်စားစားပြုလုပ်သည်မှာ ထိုထိမှန်သော မောက်တင်နှင့် မည်သို့ တော်စပ်သည် မသိ။ မိမိတို့အသက်ကို မငဲ့ကွက်ဘဲ ရဲစွမ်းသတ္တိ ရှိ၏ တကား'ဟု အလွန်သနားသဖြင့် ၎င်း၏ အသားကို မစားသည့်အပြင်–

"ငါ၏ဘုရားသခင် ဖန်ဆင်းသော ဟင်းသီးဟင်းရွက်ပင် ဖြစ်သော်လည်း နောင် ဤငှက်မျိုးကို ဘယ်တော့မှ မပစ်ရ"ဟု တားမြစ်လိုက်သည်။

ကျွန်ုပ် ဗုဒ္ဓဘာသာဖြစ်ပြီးနောက် အသီတိနိပါတ် မဟာဟံသဇာတ်ကို ဖတ်ရှုတွေ့မြင်ရသည်မှာ–

"ဘုရားအလောင်း ရွှေဟင်္သာမင်းသည် ခေမာမုဆိုး ထောင်သော ကျော့ကွင်း၌မိ၍ ဆင်းရဲနာကျင်စွာ လျောင်းလျက်နေသည်ကိုမြင်သော ရှင်အာနန္ဒာအလောင်းဖြစ်သော ဟင်္သာစစ်သူကြီး သုမုခသည် မုဆိုးကို မကြောက်မရွံ့ မိမိ၏ အရှင်ဖြစ်သော ရွှေဟင်္သာမင်း အပါးက မခွာဘဲ ရဲရင့်တည်ကြည်သောစိတ်နှင့် နေလေသည်။"

အလွန်သိမ်မွေ့သော တရားတော်ကို ယုံကြည်၍ ဗုဒ္ဓဘာသာဖြစ်ပါလျက် သေနတ်ပစ် ဝါသနာပါကြသော သူများသည် ဤအကြောင်းကို ဖတ်လျှင် သနားကရုဏာ ရှိစေရန်တစ်ကြောင်း၊ ထို့ပြင် လောက၌ ဒုက္ခနှင့်တွေ့ကြုံ ဆုံမိသော်လည်း အဆွေခင်ပွန်းကို မစွန့်ပစ်သင့်ကြောင်းများကို သတိတရား ရကြပေလိမ့်မည်ဟု မျှော်လင့်၍နေသည်။]

## မေတ္တာဟူသည် ပုဂ္ဂိုလ်သတ္တဝါ မျက်နှာမလိုက်

ဤနေရာ၌ (ဝိသုဒ္ဓိနိပါတ်၊ရောဟဏမိဂဇာတ်လာ) ဘုရားအလောင်းတော် ရွှေသမင်မင်းနှင့် မုဆိုးကြီးအကြောင်းကို သတိရစေ၏။

မုဆိုးတစ်ယောက်သည် ခေမာမိဖုရားကြီး ချင်ခြင်းတပ် ၍ ဘုရင့်အာဏာ၊ ဘုရင့်ရိက္ခာဖြင့် ရွှေသမင်ကို ဖမ်းရန် ဟိမဝန္တာတောသို့ သွားရောက်ရ၏။ ရွှေသမင်မင်း ကျက်စားရာဒေသရှိ ရေအိုင်တစ်ခု၌ ညွှတ်ကွင်းထောင်၍ ဖမ်းသည်။

အလောင်းတော် ရွှေသမင်မင်းလည်း မျက်မမြင် မိအိုဖအိုကြီးနှစ်ကောင်၊ ညီနှင့်နှမများအပါအဝင် အခြွေအရံ ရှစ်သောင်းနှင့်အတူ ထိုရေအိုင်သို့ ရေသောက်ဆင်းလာရာ ညွှတ်ကွင်း၌ ဖမ်းမိလေ၏။ ရုန်းကန်၍ အော်မြည်လျှင် ဆွေတော်မျိုးတော်များအားလုံး မောပန်းလာကြရာ ရေမသောက်ရသေးမီ လန့်ကြောက်ထွက်ပြေးကြမည်စိုး၍ မအော်ဘဲ အောင့်အည်းသည်းခံပြီး ရေသောက်ဟန် ဆောင်နေရရှာသည်။

## တိရစ္ဆာန်တို့၏မေတ္တာနှင့် မုဆိုးမေတ္တာ

အားလုံးရေသောက်ပြီးချိန်လောက်တွင် ညွှတ်ကွင်းကို သုံးကြိမ်တိုင်တိုင် ဆောင့်၍ ရုန်းကန်ကြည့်ရာ ပထမအကြိမ် အရေပြတ်သွား၏။ ဒုတိယ ရုန်းသောအခါ အသားစိုင် ပြတ်၍ တတိယအကြိမ် အကြောများပြတ်သွားပြီး ညွှတ်ကွင်းသည် အရိုးကိုပင် ထိဆိုက်သွားသည်။ ညွှတ်ကွင်းကို ရုန်းကန်၍ မရရှိလေ။ ထိုအခါ ရွှေသမင်မင်းက အော်လိုက်ရာ ကျန်သမင်များအားလုံး သုံးစုခွဲကာ ထွက်ပြေးသွားကြ၏။

အတန်ကြာသောအခါ ညီတော်သမင်နှင့် နှမသမင်နှစ်ကောင် နောင်တော်ကို မတွေ့၍ ရှေ့ဆင့်နောက်ဆင့် ပြန်ရောက်လာကြသည်။ ရွှေသမင်သည် ညီတော်နှင့် နှမတော်အား "ရန်သူရှိသည်၊ ပြန်သွားကြ" ဟု နှင်ရာ နောင်တော်နှင့်အတူ အသက်ကိုသာ အသေခံမည်၊ မပြန်လိုကြောင်း ငြင်းဆိုကြ၏။ မျက်မမြင် အမေအိုနှင့် အဖေအိုကြီးကိုလည်း လုပ်ကျွေးရင်း သားချင်းအပေါင်းတို့ကိုလည်း စောင့်ရှောက်ရန် ပြန်ဖို့ ပြောသော်လည်း မပြန်ကြချေ။

ရေအိုင်စပ်တွင် ညွှတ်ကွင်းဖြတ်ထားသော ဒဏ်ရာကြောင့် တုန်ချိချိဖြစ်နေသော နောင်တော် သမင်မင်းအား ညီတော်က ညာဘက်က၊ နှမတော်က ဘယ်ဘက်က ကိုယ်လုံးချင်းထိအောင် တစ်ဘက်တစ်ချက် တွဲမှီ၍ပင် ရပ်ပေးထားကြရှာလေသည်။

ထိုအခြေအနေကို မြင်ရသောအခါ မုဆိုးသည် အနီးသို့လာ၍ တိရစ္ဆာန်

တို့ပင်လျှင် ဒုက္ခရောက်သောအခါ အဖော်ကို မစွန့်ခွာဘဲ အသက်ကိုပင် အသေခံ၍ သနားကြင်နာစိတ် ရှိကြပုံကိုကြည့်ကာ လွန်စွာစိတ်မချောင်း ဖြစ်သွား၏။ မိမိ ထောင်ထားသော ညွှတ်ကွင်းကိုကြည့်ရာ အလောင်းတော်၏ ခြေ၌ သွေးစိမ်းရှင်ရှင် ထွက်ကာ အရိုးပြတ်မတတ် ခံနေရကြောင်း သိရသည်နှင့် ပို၍ပင် မေတ္တာကရုဏာ သက်မိလေသည်။

မုဆိုးသည် ညွှတ်ကွင်းကို အသာအယာဖြုတ်၍ ရေဖြင့် သွေးများကို ဆေးကြောပေး၏။ စုတ်ပြတ်ပေါက်ပြဲသွားသောဒဏ်ရာကို သနားခြင်းကြီးစွာဖြင့် အသာအယာ လက်ဖြင့်ဆုပ်နယ်၍ပေး၏။ မကြာမီ မုဆိုးကြီး၏ မေတ္တာကြောင့် စုတ်ပြတ်သွားသော အရေ အရေချင်း၊ အသား အသားချင်း၊ အကြော အကြောချင်း ဆက်စပ်သွားကာ ဒဏ်ရာမှာ လုံးဝ,ပကတိ ပျောက်ကင်းချမ်းသာသွား၏။

ဘုရင့်အာဏာကိုပင် မကြောက်အားဘဲ သနားမေတ္တာဖြင့် ရွှေသမင် ညီအစ်ကို မောင်နှမများအား အသက်ချမ်းသာပေးကာ ဘေးမဲ့လွှတ်လိုက်လေ တော့သည်။

စာလိုပေလို ကြီးကြီးကျယ်ကျယ် မသိကြရသူများကိုပင်လျှင် အမှန်တကယ် အကျိုးလိုလား သနားချစ်ခင်သော စိတ်သဘောထားရှိနိုင်ပါမှ လူမျိုး၊ ဘာသာ၊ နေရာဒေသ၊ ခေတ်ကာလ အချိန်အခါမရွေး သတ္တဝါမရွေး ပိယဆေးကြီး၊ မသေဆေးကြီးအဖြစ် သတ္တဝါတို့အား အမြဲတန်း အကူအညီပေးလျက် ရှိနေသည်မှာ ဤသည့် မေတ္တာတရားကြီးပင် မဟုတ်ပါလော။



၂၁။ စာမတတ်သော ဒေါ်ရွှေ၏ မေတ္တာ

ဂန့်ဂေါမြို့ ဝန်ထောက်ကြီး ဦးညိုသည် ဇနီးဒေါ်မမကြီး၏ ပရိတ် မေတ္တာကြောင့် ငှက်များကို သေနတ်ဖြင့်ပစ်၍ ထူးဆန်းစွာ မသေမပျောက်ကြပုံကို ကိုယ်တွေ့ကြုံရာမှအစ ဗုဒ္ဓဝါဒ၏ မေတ္တာကရုဏာတရားများ၏ စွမ်းအင်သတ္တိကို သိမြင်၍ ခရစ်ယာန်ဘာသာမှ ဗုဒ္ဓဘာသာသို့ ကူးပြောင်းလာကြောင်း ပြဆိုခဲ့ပေသည်။

ထိုဖြစ်ရပ်နှင့်တစ်ဆက်တည်း လွန်ခဲ့သော အနှစ်ငါးဆယ်ကျော်က ဂန့်ဂေါမြို့၌ ဘုံဘောဘားမားသစ်လုပ်ငန်း၌ရှိသော စာရေးကြီး ဦးစံထွန်းနှင့် ဇနီး ဒေါ်ရွှေတို့အကြောင်း အနည်းငယ်ဆက်၍ ပြပါဦးအံ့။

ဦးစံထွန်းသည် မော်လမြိုင် ကတိုးကော့နပ်သားဖြစ်၏။ ဘုံဘောဘားမားသစ်ကုမ္ပဏီ အင်္ဂလိပ်အရာရှိများနှင့် အလွန်ရင်းနှီးကျွမ်းဝင်သော ခေတ်ပညာတတ်စာရေးကြီးဖြစ်သည်။ ငှက်ပစ် မုဆိုးလိုက်လည်း ဝါသနာပါ၏။

ဇနီးဒေါ်ရွှေက စာမတတ်။ ရတနာသုံးပါး ဆည်းကပ်ရာ၌မူ လွန်ကဲ၏။ ဒေါ်ရွှေသည် စာမတတ်သော်လည်း အိမ်၌ ဈေးဆိုင်ဖွင့်ထားရာ ကြွေး စာရင်းစာအုပ်၌ အရုပ်ပုံ၊ အကြောင်းအခြစ်များရေး၍ ကြွေးစာရင်း လုပ်လေ့ရှိ၏။ ငါးပိဆိုလျှင် ငါးပိအပုံနှင့် ယောက်မ,ပုံကလေး ရေးထား၏။ ဝယ်သူ၏ ပုံပန်းသဏ္ဌာန်ကိုလည်း သူ သဘောပေါက်သလို ပုံဆွဲထားရာ သူ့အကြွေးစာရင်း စာအုပ်ကို သူသာလျှင် ဖတ်တတ်သည်။

## ဆင်ရိုင်းကြီးကို ယဉ်လာအောင် သနားခြင်း

ဒေါ်ရွှေသည် စာမတတ်စေကာမူ တရားနာယူရသောအခါမျိုးတွင် ဘုန်းတော်ကြီး ဟောသောတရားကို စာမတတ်သူများပင် စိတ်ဝင်စားလာအောင် မှတ်သားပြောဆိုနိုင်၏။ ဒေါ်ရွှေ၏ အထူးခြားဆုံး အရည်အသွေးကား ရတနာသုံးပါးဝတ်များ စွဲမြဲ၍ ပရိတ်ရွတ်ခြင်း၊ မေတ္တာပွားခြင်း၊ အထူးသဖြင့် တိရစ္ဆာန်ကလေးများကအစ တစ်ဖက်သားအပေါ် သနားကြင်နာတတ်ခြင်း ဖြစ်လေသည်။

ဒေါ်ရွှေ၏ သနားကြင်နာခြင်းမှာ မည်ကာမတ္တ မဟုတ်။ မနေနိုင် မထိုင်နိုင်အောင် ဖြစ်နေတတ်၏။ တစ်ခါက ရှမ်းပြည်တောင်ပိုင်း၊ မိုင်းဟံ၌ နေစဉ် ဘုံဘောဘားမားကုမ္ပဏီ၌ လူများကို နင်းသတ်ပေါင်းများလှသဖြင့် သတ်ပစ်ရန် အမိန့်ချမှတ်ထားသော ဆင်ရိုင်းကြီး တစ်ကောင်ကို တွေ့ရသောအခါ ဒေါ်ရွှေမှာ သနားလှသဖြင့် 'အိမ်မှာ မွေးထားမည်၊ ဝယ်ပေးပါ' ဆို၍ ဝယ်ရာ အရာရှိများက အခမဲ့ပင် ပေးလိုက်သည်။

ထိုဆင်ရိုင်းကြီးမှာ အိမ်ရှေ့သစ်ပင်၌ ချည်ထားရာ သူ့အနားသို့လာသော ကြက်များ၊ ခွေးများကို မလွှတ်တမ်း ရိုက်သတ်လေ့ရှိ၏။ သို့ရာတွင် ဒေါ်ရွှေ၏ သားငယ် နှစ်ခါလည်သားကလေး မောင်ချစ်တင် (ယခု သာသနာရေးဌာန၊ အင်္ဂလိပ်စာ အယ်ဒီတာ ကျမ်းပြုမှူး ဦးချစ်တင်) မှာမူ ဆင်ရိုင်းကြီး၏ ဝမ်းဗိုက် အောက်တွင်အကြိမ်ကြိမ် ဝင်လိုက်ထွက်လိုက် လုပ်နေသော်လည်း အန္တရာယ် မပြုချေ။ နောက် ဆင်ရိုင်းကြီးမှာ ပွဲဝင်အောင်ပင် ယဉ်ကျေးလာလေသည်။

## ကျွန်မယောကျ်ား မုဆိုးကြီး လာလေရဲ့

ဒေါ်ရွှေတို့ မိသားစု ဂန့်ဂေါသို့ရောက်စဉ် အကြိုက်တွေ့ကာ သေနတ်မုဆိုး လုပ်နေသူ ဦးစံထွန်းအား အမျိုးမျိုးဖျောင်းဖျပြောဆိုသေး၏။ မရသည့်အဆုံး သူ သဘောပေါက်သလို မေတ္တာလက်နက်ကို အသုံးပြုသည်။ ဒေါ်ရွှေသည် ဦးစံထွန်း တပည့်များနှင့် တောလိုက်ထွက်မည်ရှိစဉ် ဘုရားရှေ့ ကပ္ပာကယာ သွားရောက် ဝတ်ပြုပြီးနောက်–

"သတ္တဝါတွေ ချမ်းသာကြပါစေ၊ အသက်ဘေးမှ လွတ်ကြပါစေတော်။ တောစောင့်နတ်၊ တောင်စောင့်နတ်တွေကိုလည်း ကျွန်မကုသိုလ်ကို အမျှပေး ဝေပါ၏။ တောတိရစ္ဆာန်များ မသေမပျောက်ရအောင် စောင့်ရှောက်ဖယ်ရှား ပေးလိုက် ကြပါ၊ ကျွန်မ ယောကျ်ား မုဆိုးကြီး လာလေရဲ့၊ သူ့ကိုတော့ ကျွန်မ ပြောလို့ မရတော့ပါဘူး၊ အားလုံးချမ်းသာကြပါစေ" ဟု ပါးစပ်ကလည်း ပြော၊ စိတ်ထဲကလည်း

ဂုန်ဂေါ်မြို့ပတ်ဝန်းကျင် တောတောင်များကို အနံ့ရည်မှန်းပြီး မေတ္တာပွားပို့လေ့ရှိသည်။

ဒေါ်ရွှေသည် စာပေကျမ်းဂန် ဗဟုသုတရှိသူ၊ စာဖတ်တတ်သူများကဲ့သို့ မေတ္တာကို မည်သို့ပို့ရသည်၊ စိတ်ထဲက မည်သို့ရည်ရွယ်ရသည် စသည်တို့ကို စနစ်တကျ နားလည် သိရှိထားသူကား မဟုတ်ချေ။ စိတ်ထဲရှိသည့်အတိုင်းသာ လျှောက်၍ ပြောဆိုနေခြင်းဖြစ်၏။ သို့သော် သူ၏ စိတ်ထဲ၌ မည်မျှ ထိထိခိုက်ခိုက် နှစ်နှစ်ခြိုက်ခြိုက် လေးလေးပင်ပင် ဖြစ်နေမည်ကိုမူ ခန့်မှန်း၍ သိနိုင်ပေသည်။

မည်မျှစာပေကျမ်းဂန်ဗဟုသုတ များပြားစေကာမူ နှလုံးသားဖြင့် ပြုလုပ်ရမည့်ကိစ္စ၌ နှစ်နှစ်ခြိုက်ခြိုက် ယုံယုံကြည်ကြည်မရှိလျှင် ခရီးမရောက်ချေ။

## ကြံရာမရမေတ္တာ နှင့် အဓိသီလမေတ္တာ

ဒေါ်ရွှေသည် ရံခါ ပါးစပ်က ရွတ်ရုံ၊ စိတ်ထဲက ပွားပို့ရုံမျှသာမက ဦးစံထွန်း တောလိုက်ရန် ဟန်ပြင်နေသည်ကိုတွေ့လျှင် ဦးစံထွန်း မသိအောင် လက်ညှိုးကို တံတွေးဆွတ်၊ ပါးစပ်က တတွတ်တွတ် ရွတ်ဆိုလျက် သေနတ်ပြောင်းဝထိပ်၌ တံတွေးဖြင့် (စတိအဖြစ်) တို့လွှတ်လိုက်သေးသည်။ ထိုနေ့မျိုးတွင် ဦးစံထွန်းသည် တောထဲ၌ တစ်နေကုန်သော်လည်း သားကောင် တစ်ကောင်တစ်မြီးမှ မရရှိတော့ပေ။

ဦးစံထွန်းသည် ဒေါ်ရွှေ၏ တောင်းပန်တိုးလျှိုးမှုကို အကြိမ်ကြိမ်ချိုးဖောက်ကာ အမဲလိုက် ဝါသနာကို မစွန့်နိုင်ဘဲရှိ၏။ ဒေါ်ရွှေကလည်း ပါးစပ်က မပြောတော့ဘဲ မေတ္တာကိုသာ ကျုံး၍ပို့သည်။ အကြိမ်ကြိမ် ကြိုးစားသော်လည်း ဦးစံထွန်းတို့ လူစုမှာ တစ်နေကုန် တစ်နေခန်း မောပန်း၍သာ ပြန်လာကြရ၏။ သားကောင် တစ်ကောင်တစ်မြီးမှ မရခဲ့။

ဦးစံထွန်းသည် သေနတ်များကိုလည်း ဘုံဘေဘားမား အင်္ဂလိပ်အရာရှိများထံမှ အကူညီရကာ တစ်လက်ပြီးတစ်လက် ပြောင်းလဲကိုင်ဆောင်၍ ကြိုးစားသော်လည်း နောက်ဆုံးတွင် တောလိုက်မုဆိုးဘဝကို စွန့်လွှတ်လိုက်ရလေတော့သည်။

စစ်ပြီးခေတ် သတိပဋ္ဌာန်တရားများ ပြန့်ပွားလာသောအခါ ဦးစံထွန်းအား မဟာစည် ဆရာတော်ဘုရားကြီး၏ ပဲခူး သတိပဋ္ဌာန်သာသနာ့ရိပ်သာ၌ ယောဂီ ဦးစံထွန်းအဖြစ် တွေ့မြင်ကြရ၏။

ဝန်ထောက်ကတော်ကြီး ဒေါ်မမကြီးနှင့် ဒေါ်ရွှေတို့၏ ပရိတ်မေတ္တာ ဘာဝနာအင်အားများသည် ဆရာသမားများနှင့် လက်ပွန်းတတီး သင်ယူ၍ စနစ်တကျ ပွားထုံထားသော မေတ္တာများ မဟုတ်သေးချေ။ ဆန့်ကျင်ဘက် အခြေအနေအရ စိတ်ကူးပေါက်သလို ကြံရာမရ လုပ်ရသော ရိုးရာမေတ္တာမျှသာ

ရှိပေသေးသည်။ စနစ်တကျ သဘာဝမိမိ သမာဓိတည်တည် အဓိသီလ (ယောဂီ၏ သီလ)ကို အခြေခံရသော မေတ္တာသည် အဘယ်မျှ အင်အားရှိမည်ကို သတိပြုကြရာ၏။



**၂၂။ ဦးဘထူး၏ မေတ္တာ**

ဦးဘထူး၏ မေတ္တာအကြောင်း ကျေးဇူးရှင် မဟာစည်ဆရာတော် ဘုရားကြီး ဟောကြားတော်မူသော "ဗြဟ္မဝိဟာရ တရားတော်" စာအုပ်၌ အောက်ပါအတိုင်း ဖတ်ရှုရပါသည်။ မူရင်းအတိုင်း ဖော်ပြပါဦးအံ့။

[မေတ္တာစာတ်ဖြင့် အခြားသူ၏ စိတ်အနေအထား ပြုပြင်ပေးနိုင်ပုံကို ထောက်ဆပြီးတော့ ယခုအခါမှာလည်း မေတ္တာစာတ်ဖြင့် စူးစူးစိုက်စိုက် နှလုံးသွင်းပေးရင် မေတ္တာခံ ပုဂ္ဂိုလ်များက ချစ်ခင်ကြည်ညိုတတ်တယ်ဆိုတာ သိမှတ်ရပါတယ်။ တော်တော်ဆီက ဘိုးဘွားရိပ်သာမှ ထုတ်ဝေတဲ့ စာစောင်ထဲမှာ ထူးခြားတဲ့ အကြောင်းအရာတစ်ခု တွေ့ရတယ်။

ဦးဘထူးဆိုတဲ့ လူတစ်ယောက်ဟာ တိရစ္ဆာန်တွေကို အလွန်သနားတတ် ပါသတဲ့။ အထူးသဖြင့် ခွေးတွေကို အလွန်သနားတယ်။ ဒါကြောင့် သူက အရှင်မရှိတဲ့ ခွေးတွေကို သနားပြီး အထူးကျွေးမွေး စောင့်ရှောက်နေလေ့ရှိတယ်။ ရန်ကုန် ကျိုက္ကဆံ စေတီဝင်းထဲက ခွေးတွေကို သူ သတ်မှတ်ထားတဲ့ရက်တိုင်း ကောင်းမွန်စွာ ချက်ပြုတ်ပြီး သွားရောက်ကျွေးမွေးသတဲ့။ ဟိုက ခွေးတွေကလည်း သူလာတဲ့အခါ လာရောက်ပြီး ကြိုဆိုကြသတဲ့။ ဒါကတော့ သိပ်မထူးလှပါဘူး ။

တစ်ချိန်ကတော့ အဲဒီ ဦးဘထူးဟာ သူ့အဖော်များနှင့်အတူ ကျိုက်ထို တောင်စွန်း ဆိုတဲ့ဌာနက ကေလာသ မြသပိတ်ဆိုတဲ့ စေတီတော်များကို ဖူးမြော်ဖို့ သွားတယ်။ အဲဒီတောင်ခြေက ရွာမှာ ခွေးတွေက ကိုက်တတ်တယ်။ တယ်ဆိုးတယ်တဲ့။

လူတစိမ်း ဆိုရင် ဝိုင်းပြီး ကိုက်တတ်ပါသတဲ့။ တောင်ပေါ် စေတီရှိရာ သွားရင် အဲဒီတောင်ခြေရွာထဲက ဖြတ်သွားရတယ်။ ဒါကြောင့် ဦးဘထူးက ခေါင်းဆောင်ပြီး အဲဒီခွေးတွေရှိတဲ့ ရွာထဲက ဖြတ်သွားတဲ့အခါ ခွေးတွေ အတင်းပြေးလာကြသတဲ့။

အဲဒီတော့ ဦးဘထူးကို ခွေးဆိုးတွေက ကိုက်တော့မှာပဲလို့ ဘေးက လူတွေက စိုးရိမ်ကြတယ်။ ဒါပေမယ့် ခွေးတွေက အဲဒီ ဦးဘထူးကို မိမိ၏ အရှင်သခင်လိုပင် ပတတ်ရပ်ပြီး နှုတ်ဆက်ကြပါသတဲ့။ အဲဒါဟာ ခွေးများ အပေါ်မှာ မေတ္တာကရုဏာ ပွားနေတဲ့အတွက်ကြောင့်လို့ ဆိုရမှာပဲ။]

## တိရစ္ဆာန်နှင့်လူ ထပ်တူ ရှုမြင်ခြင်း

တိရစ္ဆာန်လောက တိရစ္ဆာန်ဘုံဟူ၍ ၃၁–ဘုံတွင် တစ်ခုအပါအဝင် ဖြစ်သော်လည်း ဘုံသီးခြား မရှိချေ။ လူ့ဘုံ၌ လူတို့နှင့် အတူတကွ ရောနှော နေထိုင်ကြလေသည်။ လူနှင့်အတူ နေကြသူများဖြစ်၍ လူတို့အား များစွာ ကျေးဇူးပြုလျက် ရှိကြပေသည်။ တိရစ္ဆာန်တို့၏ ကျေးဇူးကား လူသားတို့အပေါ်၌ များစွာ တင်ကျန်လျက်ရှိနေ၏။

မြတ်စွာဘုရားသည် တိရစ္ဆာန်တို့မှာ ပေါ်လွင်၍ ရိုးဖြောင့်ကြောင်း၊ လူတို့သည် ကောက်ကျစ်စဉ်းလဲ၍ လျှို့ဝှက်တတ်ကြောင်း (မဇ္ဈိမနိကာယ်၊ ကန္ဒရကသုတ်၌) နှိုင်းယှဉ်ဟောကြားတော်မူ၏။ ရိုးသားဖြောင့်မတ်၍ သခင့် သစ္စာကို ရှိသေကျိုးနွံစွာ ကူညီသူများအပေါ် လူသားတို့၏ သဘောထားပုံ၊ ဆက်ဆံပုံများမှာ တရားမဲ့ လွန်းလှ၏။ ခိုင်းစားရန်နှင့် သတ်စားရန်လောက်သာ သဘောထားနေကြ၏။ အနိုင်ကျင့် အမြတ်ထုတ်၍ သွေးစုပ်ရန်သာ ရည်ရွယ်နေကြသည်။

ကျွဲ၊ နွား၊ ဆင်၊ မြင်း၊ ခွေး စသော တိရစ္ဆာန်များကသာ မဟုတ်။ ကျွန်ုပ် မသိသော အခြားတိရစ္ဆာန်များကလည်း လူသားတို့အား သူ့နည်းနှင့်သူ အကူအညီ ပေးလျက်ရှိကြပေသည်။ ဥပမာ–သီးနှံဖျက်ပိုးများကို ခုခံကာကွယ်ပေးသော ပိုးများ၊ ရောဂါပိုးများကို ခုခံကာကွယ်ပေးသော ပိုးများ စသည်တို့ဖြစ်လေသည်။ မည်သို့ဝင် လူသားတို့အား အကူအညီ ပေးနေကြစေကာမူ လူတို့ကား အနိုင်ကျင့်လျက်ပင် ရှိကြကုန်၏။ ထိုအမူအကျင့်ဆိုးများကြောင့် တိရစ္ဆာန်တို့သည် အတွင်းစိတ်က 'ဒီလူတွေ မယုံရဘူး' ဟူသော သံသယနှင့်အတူ အမြဲတမ်း ကြောက်လန့်၍သာ နေကြရရှာ၏။ မတတ်သာသောအခါ ရန်မူ၍ပင် လာကြ၏။

တိရစ္ဆာန်နှင့်လူ အတူတကွ နေထိုင်ရသူ အချင်းချင်း ငြိမ်းချမ်းစွာ မနေနိုင် ကြသေးသမျှ လူသားတို့အတွက် ဘေးရန်ကင်းစွာ နေနိုင်ပြီဟု မဆိုရသေးချေ။ အသိဉာဏ်ရှိသူတို့က စည်းမစောင့်လျှင် အသိဉာဏ်နည်းသူတို့သည် ပို၍ပင်

အန္တရာယ် ပြုတတ်ကြ၏။ တိရစ္ဆာန်တို့၏ အန္တရာယ်သည် လူသားတို့ အတွက် စဉ်းစားတိုင်း ရင်လေးစရာဖြစ်နေပေသည်။

"လယ်တွေ တောကြွက်ကြီးတွေ ဖျက်လို့၊ ကျေးအုပ်ကြီးတွေ ကျလို့၊ အာဖရိကမှ ဟိမဝန္တာအထိ နိုင်ငံပေါင်းငါးဆယ်ကို ဒုက္ခပေးနိုင်တဲ့ ကျိုင်းကောင် အုပ်ကြီးများ အန္တရာယ်ကို ကုလသမဂ္ဂကတောင် အပူတပြင်း ဆောင်ရွက်နေရ သတဲ့" စသော သတင်းဆိုးများသည် ယနေ့လူသားတို့၏ တိရစ္ဆာန်တို့အပေါ် ထားရှိသော မေတ္တာကို ဖော်ပြနေခြင်းပင် ဖြစ်တော့သည်။

ရံခါ 'ရှူးပျံ၊ ဗူး၊ ဝက်၊ ကျားနှင့် ငှက်ကြောင့်၊ ပျက်လုဘနန်း' ဟူသော ပုဂံရာဇဝင်ကဲ့သို့ တိရစ္ဆာန်တို့ မင်းမူလာကြသဖြင့် တိုင်းပြည် ပျက်လုနီးနီး ဘေးဆိုးကြီးများလည်း ဖြစ်လာတတ်ပေသည်။ 'တိရစ္ဆာန်နှင့်လူ အတူတူ' ဟု မရှုမြင်နိုင်သေးသမျှ ဘုရားရှင် အဆုံးအမကို ရရှိသူ၊ လိုက်နာသူ မမည်သေး။ မလိုက်နာသေးသမျှ ချမ်းသာသူ မဖြစ်နိုင်သေးချေ။

### ဒေါသကျိန်စာ ဘဝငါးရာ

ဘုရားရှင်ကား အကျိုးအပြစ်ကို ကုန်စင်အောင်မြင်တော်မူသည့်အတွက် "အတ္တာနံ ဥပမံ ကတ္ဝာ၊ န ဟနေယျ န ဃာတယေ=မိမိကိုယ်ကို ဥပမာ ထား၍ (ကိုယ်ချင်းစာ၍) မညှဉ်းဆဲ မသတ်ဖြတ်ကြနှင့်" ဟု တိုတိုတုတ်တုတ်ပင် ဆုံးမခဲ့လေသည်။

ကြက်မကြီး ဝပ်နေသော ဝပ်ကျင်းထဲမှ ကြက်ဥကို နှိုက်ယူ ကြော်စား မိသဖြင့် ကြက်မကြီး၏ နာကျည်းခံခက် ဒေါသထွက်သော ကျိန်စာကြောင့် ဘဝများစွာ သေကျေရသော သူငယ်မ (ဓမ္မပဒ ကုက္ကုဋ အဏ္ဍခါဒိကာ)၊ ဆိတ်ကို သတ်၍ စားမိသဖြင့် ဘဝငါးရာ သေစားအလျော်ပေးရသော ပုဏ္ဏားကြီး၊ ဆိတ်အမွေး အရေအတွက်အတိုင်း သေရသူ အိမ်ရှင်မ စသည်တို့ကိုကြည့်၍ ကြီးနိုင်ငယ်ညှဉ်းကာ ပထမတွင် မိမိက အနိုင်ရသည်ဟု ထင်ရသော်လည်း အရှုံး ပေါ်လျက်ရှိကြောင်း ဘုရားရှင်သာ မြင်တော်မူလေသည်။ သတ်သူ၏ ဒေါသ, ခံရသူ၏ နာကျည်းမှုဒေါသတို့ကား ကမ္ဘာနိယာမအရ ပျောက်ပျက်၍ မသွားဘဲ ပြုလုပ်သူကသာလျှင် တာဝန်ယူရစမြဲ ဖြစ်သည်။ 'တံငါမုဆိုး အကျိုးမပေး' ဟု မြတ်စွာဘုရား (အင်္ဂုတ္တိုရ်-မစ္ဆဗန္ဓသုတ်၌) ဟောတော်မူသည်မှာ ဤအဓိပ္ပာယ် ပင်ဖြစ်၏။

## စိတ်ကို လိမ်၍ မရ

မိမိသန္တာန်၌ ဖြစ်နေသောစိတ်ကို မိမိသာလျှင် တာဝန်ယူရမြဲဖြစ်သည်။ မိမိစိတ်ကို ပတ်ဝန်းကျင်က မသိဟု ထင်ကြသော်လည်း သတ္တဝါအချင်းချင်း စိတ်ချင်းဆက်သွယ်ကာ သိနေကြသည်ပင်ဖြစ်၏။

တစ်ချိန်က ရဟန္တာအရှင်မြတ်ကြီး ဖြစ်တော်မူသော ဘုန်းတော်ကြီး ဦးသီလနှင့်အတူ တောထဲသို့ လိုက်ပါနေထိုင်ရသူ ကပ္ပိယကြီး 'ဦးအာကာ'သည် ဆောင်းအခါ ချမ်းအေးလှသဖြင့် ထင်းမီးဖို၍ မီးလှုံနေစဉ် ကျားရိုင်းကြီး တစ်ကောင်သည် မီးဖိုဆီသို့ တည့်တည့်ကြီး လာနေသဖြင့် ကပ္ပိယကြီးမှာ မရဲသော်လည်း ပြေးခဲစေ လုပ်၍နေရသည်။ ဘုန်းတော်ကြီးလည်း မလှမ်းမကမ်း လေးတိုင်စင် ကျောင်းကလေး၌ တရားရှုမှတ်နေ၏။

ကျားကြီးမှာ မည်သို့မျှ ရန်မမူဘဲ ကပ္ပိယကြီးနှင့်အတူ လာရောက် မီးလှုံနေရာ မကြာမီ ကျားကြီးမှာ မီးဖိုအနီး၌ လျှာကြီး တွဲလျားကျကာ မှေးခနဲ အိပ်ပျော်သွား၏။ ထိုအခါ ကပ္ပိယကြီးမှာ အကြောက်ပြေသွားပြီးနောက်–

'ဒီကျားကြီး ပါးစပ်ထဲ မီးကျီးတွေ ကော်ထည့်လိုက်ရ ကောင်းမှာပဲ' ဟု မသမာစိတ် ဝင်လာ၏။ ကပ္ပိယကြီး စိတ်ကူးလိုက်သည်နှင့် အိပ်ပျော်နေသော ကျားကြီး မှာ ချက်ချင်း ခေါင်းထောင်လာကာ ကိုက်သတ်ရန် ဟိန်းဟောက် လေတော့သည်။ ကပ္ပိယကြီးမှာ ကြောက်လွန်း၍ ဒူးဆတ်ဆတ်တုန်နေတော့သည်။

ထိုအခါ ဘုန်းတော်ကြီးမှာ ကပ္ပိယကြီးစိတ်နှင့် ကျားကြီး၏စိတ်ကို သိမြင်တော်မူသည့်အတိုင်း–

"ကပ္ပိယကြီး၊ ဘာလို့ စိတ်ယုတ်မာ မွေးရသလဲ၊ သူ့ကို (ကျားကြီးကို) မေတ္တာပို့ပြီး တောင်းပန်လိုက်" ဟု ကျောင်းကလေးမှ လှမ်း၍ မိန့်တော်မူလိုက်သည်။ တောင်းပန်လိုက်မှ ကျားကြီးမှာ စိတ်ချလက်ချ အိပ်မြဲအိပ်သွားတော့သည်။

စိတ်ကို လိမ်၍ မရချေ။



## ၂၃။ တိရစ္ဆာန်နှင့်လူ ထပ်တူရှုမြင်သော ဝေဿန်မင်းကြီး၏ မေတ္တာရောင်ပြန်

တုံ့ပြန်မှု နိယာမအရ စိတ်သည် ရောင်ပြန်ဟပ်လျက်ရှိ၏။ အသွားရှိလျှင် အပြန်ရှိ၏။ သူ့မေတ္တာရှိမှ ကိုယ့်မေတ္တာရှိသည်။ ကိုယ်က မေတ္တာထားမှ တစ်ပါးသူ၏ မေတ္တာကို ခံယူရသည်။ မိမိကိုယ်ကို ချမ်းသာစေလိုလျှင် တစ်ဘက်သား အပေါ်ကိုလည်း ချမ်းသာရအောင် ကြံစည်, ပြောဆိုပြုမူနိုင်မှ ရလေသည်။

ရေသည် လူကောင်းလူဆိုး မရွေးချယ်။ စင်ကြယ်အေးမြခြင်းကို ထပ်တူညီမျှ ပြုမူသကဲ့သို့ မိမိအပေါ် အကျိုးပြုသူကိုဖြစ်စေ၊ အကျိုးမဲ့ကြောင်းပြုသူကိုဖြစ်စေ မေတ္တာကို ထပ်တူညီမျှ ထားရှိနိုင်မှ ချမ်းသာရ၏။ (ဗုဒ္ဓဝံသ-အဋ္ဌကထာ-၁၃၇)။

ယထာပိ ဥဒကံ နာမ၊ ကလျာဏေ ပါပကေ ဇနေ။
သမံ ဖရတိ သီတေန၊ ပဝါဟေတိ ရဇော မလံ။
တထေဝ တွံ ဟိတာဟိတေ၊ သမံ မေတ္တာယ ဘာဝယ။

အလောင်းတော် သုဝဏ္ဏသျှံဘဝက တောထဲတွင် သားရဲသစ်ကျား တို့ကြား၌ နေထိုင်ခဲ့ရပုံအကြောင်း ပြောပြသောစကားများမှာလည်း မှတ်သားဖွယ် ကောင်းလှပေသည်။

န မံ ကောစိ ဥတ္တသတိ၊ န ပိ ဘာယာမိ ကဿစိ။
မေတ္တာဗလေနုပတ္ထဒ္ဓေါ၊ ရမာမိ ပဝနေ တဒါ။ (ဗုဒ္ဓဝံသ)။

"ငါသည် တောထဲ၌ နေစဉ်အခါက မေတ္တာအင်အားကို ပွားများ

ထူထောင်ထားသည်ဖြစ်၍ ငါ့ကို (ငါတည်းဟူသော အကြောင်းကြောင့်) မည်သည့်သတ္တဝါ တစ်စုံတစ်ဦးကမျှ ကြောက်လန့်ပူပန်နေရသည် မရှိ။ ငါသည်လည်း မည်သည့် သတ္တဝါ တစ်စုံတစ်ဦးကိုမျှ ကြောက်လန့် ပူပန်နေရခြင်း မရှိချေ။"

ပဝနေ သီဟဗျဂ္ဃေစ၊ မေတ္တာယ' မုပနာမယိ'။ (စရိယာပိဋကဋ္ဌ၊ ၂၅၁)။

"ငါသည် တောကြီးမျက်မည်းအတွင်း၌ ခြင်္သေ့, သစ်ကျား သားရဲ တိရစ္ဆာန်များနှင့်တကွ သတ္တဝါအားလုံးတို့အပေါ်၌ မေတ္တာစိတ်ကို ပွားပို့ စေလွှတ် စေအပ်ပြီ" (ခြင်္သေ့, သစ်ကျား သားရဲတိရစ္ဆာန်တို့သည်လည်း ငါ၏ မေတ္တာ အစွမ်းကြောင့် အခြားသတ္တဝါတို့အပေါ်၌ပင် ချစ်ခင်စိတ်ကို ရရှိကြကုန်၏။ အခြားသတ္တဝါတို့မှုကား ဆိုဖွယ်ရာ မရှိချေ။ အဋ္ဌကထာ။)

ဝေဿန္တရာမင်းကြီး၏ မေတ္တာမှာမူကား သခ်မ်းကျောင်း ပတ်ဝန်းကျင် သုံးယူဇနာ (၂၄-မိုင်ခန့်) အရှိန်အဝါ ပြန့်နေသဖြင့် ထို (မေတ္တာစက်ဝန်း) အတွင်းရှိ တိရစ္ဆာန်တို့ပင်လျှင် အချင်းချင်း ချစ်ခင်ညီညွှတ်ကြကြောင်း (စရိယာပိဋက အဋ္ဌကထာ-၉၁ ၌) ဖွင့်ဆိုဖော်ပြထားလေသည်။

ထို့ကြောင့် မြတ်စွာဘုရားရှင်က နီးနီးစပ်စပ် ရန်မူဟတ်သော မြွေ သတ္တဝါများ ဘေးမှ ကင်းဝေးကြစေရန် မြွေသတ္တဝါများကို သြဒိသမေတ္တာ ပွားပို့ဖို့ ဟောတော် မူရလေသည်။ (ခန္ဓသုတ်၊ ခန္ဓဇာတ်၊ အင်္ဂုတ္တိုရ် အပဟိရာဓသုတ်၊ ဝိနည်းမဟာဝဂ္ဂ။)

စကားမပြောတတ်သေးသော ကလေးငယ်များ ရန်မူနိုပ်စက်တတ်သည့် ခွေး, မျောက်, ကျွဲ, နွားများနှင့် ရံခါ မတော်တဆ လူကြီးများ ရင်ဆိုင်မိတတ်ကြ၏။ မြင်ရသူ လူကြီးများ၌ ရင်ဖိုရသော်လည်း တိရစ္ဆာန်ရိုင်းများကမူ မည်သို့မျှ အန္တရာယ် မပြုသည်ကို ထူးဆန်းစွာ ကြုံရတတ်သည်။ 'နှောင့်ယှက်ရန်မူမည့်သူ မဟုတ်' ဟု တိရစ္ဆာန်များက သိနေကြ၏။ ကလေးငယ်၏ စိတ်မှာလည်း ဖြူစင် နေ၏။ 'ငါ့ကို လုပ်ရင်တော့ ချလိုက်မှာပဲ' ဟူသော ညှဉ်းဆဲလိုစိတ် ရှိဖို့ဝေးစွာ၊ ကစားဖော်ဟုပင် ထင်တတ်ကာ ကြောက်စိတ် (ဒေါသ)ပင် မရှိချေ။ မေတ္တာ၏ သဘောကား ရှင်းလှပေ၏။

မေတ္တာစွမ်းအားသည် ရှေးအခါကသာ စွမ်းသည်၊ ယခု မစွမ်းဟု မမှတ်ရ။ တရားတို့မည်သည် ပုဂ္ဂိုလ်၊ သတ္တဝါ၊ အချိန်အခါ ဟူ၍ မရှိစကောင်းချေ၊ ထို့ကြောင့် ဘုန်းတော်ကြီး ဦးသီလ၊ သပိတ်အိုင်တောရ ဆရာတော် စသော မြန်မာနိုင်ငံ ခေတ်အဆက်ဆက် တောကြီးမျက်မည်းအတွင်း တစ်ကိုယ်တည်း နေထိုင်တော်မူခဲ့ကြသော သူတော်ကောင်းကြီးများသည်လည်း မေတ္တာစံပြအဖြစ်

ညွှန်ပြတော်မူခဲ့ကြလေပြီ။

လူတို့နှင့် တစ်မြေတည်း နေ၊ တစ်ရေတည်း သောက် နေကြရရာ၍ လူသားတို့အား စွမ်းအင်အလျောက် ကူညီထောက်ပံ့နေကြသော (ကူညီမှုရစေရန် အလွယ်တကူ ဆွဲဆောင်ရသော) တိရစ္ဆာန်တို့အပေါ်၌ ကိုယ်နှင့်ထပ်တူ မကျင့်သုံးနိုင်သေးပါသမျှ ပြည့်စုံသော ငြိမ်းချမ်းသာယာမှု (ကမ္ဘာ့ငြိမ်းချမ်းရေး) ကို ရရှိရန် မဖြစ်နိုင်ချေ။

ချမ်းသာလိုသူတိုင်း တိရစ္ဆာန်နှင့်လူ ထပ်တူရှုမြင်သော သူတော်ကောင်းကြီးများ၏ အတုကို ယူကြကုန်ရာ၏။

**ကန့်သတ်ချက် မရှိသော အကျိုး**

မေတ္တာဟူသော စကား၏ အဓိပ္ပာယ်မှာ လူတိုင်း မသိစရာ မရှိအောင် ရှင်းလင်း၏။ လူတိုင်း မလုပ်တတ်စရာ မရှိအောင်လည်း လွယ်ကူ၏။ ပေါ့ပါး၏။

အကျိုးတရားကို ပြောပြပါ ဆိုလျှင်ကား 'အတိုင်းမသိ' ဟူသော ဝေါဟာရဖြင့်သာ အဆုံးသတ်ရလေသည်။ အဘယ်ကြောင့်ဆိုသော် မေတ္တာပွားပို့ရသည့် နယ်ပယ်သည် အကန့်အသတ်မရှိ ကျယ်ပြောသည်။ စကြဝဠာအနန္တ သတ္တဝါ အနန္တပင်တည်း။ ထို့ကြောင့် မေတ္တာအလုပ်ကို "အပ္ပမာဏာရမ္မဏ= အကန့်အသတ် မရှိ အာရုံပြုရသော အလုပ်'ဟု ခေါ်၏။ ထို့ကြောင့်လည်း အကျိုးပေးသောအခါ မေတ္တာအကျိုးကို 'ဤရွေ့ဤမျှသာ' ဟု ကန့်သတ်၍ မရစကောင်း၊ အပ္ပမာဏပင်တည်း။

ဒါနစသော ကုသိုလ်မှုများကား ကန့်သတ်ချက်ပါ၏။ ဥပမာ–'တစ်ထောင်ကုန် လှူသည်၊ ကျောင်းတစ်ဆောင် ဆောက်သည်၊ ဘုန်းကြီးဆယ်ပါး ဆွမ်းကျွေးသည်' စသည်။ ထို့ကြောင့်လည်း ဒါနစသော ကုသိုလ်များ အကျိုးပေးသောအခါ ကန့်သတ်ချက် ပါလာ၏။ ကျယ်ကျယ်ပြန့်ပြန့် အတိုင်းအဆမရှိ အကျိုးမပေးချေ။

သတ္တဝါတိုင်းသည် အသက်ရှည်ချမ်းသာစွာ နေလိုမှုတွင် အားလုံး တူညီကြ၏။ သတ္တဝါတိုင်းအား အသက်ရှည် ချမ်းသာစေရန် ဆောင်ရွက်နေသော အလုပ်ဖြစ်၍ မေတ္တာပွားသူများ သေလွန်လျှင် သက်ရှည်ချမ်းသာသော နတ်ပြည်(အထူးသဖြင့်) ဗြဟ္မာပြည်သို့သာ ရောက်ကြရသည်။ ဥပစာရ သမာဓိအဆင့်မျှ ရောက်လျှင်ပင် နတ်ပြည် ရောက်၍၊ အပ္ပနာသမာဓိ အဆင့်သို့ ရောက်လျှင် ဗြဟ္မာ့ပြည်သို့ ရောက်ရကြောင်း .....

"မေတ္တာယ ဟိ ဥပစာရံ ကာမာဝစရ
ပဋိသန္ဓိံ ဒေတိ၊ အပ္ပနာ ဗြဟ္မလောကေ"

ဟု (ဓာ၄၊၂၊၃၆၁-တိကနိပါတ် သေယျဇာတ်၌)ပြဆိုထားသည်။

ထို့ကြောင့်လည်း ကမ္မဋ္ဌာန်းလေးဆယ်ရှိသည်တွင် မေတ္တာကမ္မဋ္ဌာန်း ကလွဲ၍ အခြားမည်သည့်ကမ္မဋ္ဌာန်းတွင်မျှ 'မေတ္တာအကျိုး ၁၁-ပါးကဲ့သို့' သိဒ္ဓိတင် ဟောညွှန်ပြထားခြင်း မရှိပေ။

မေတ္တာကမ္မဋ္ဌာန်းဟု ဆိုသော်လည်း သူတစ်ဘက်သားအပေါ် ချမ်းသာကြီးပွားစေချင်သော စိတ်ကလေး ဦးလှည့်ပေးရုံမျှဖြင့် မေတ္တာကမ္မဋ္ဌာန်းဖြစ်နိုင်၍ မည်သူမျှ ခက်ခဲစရာ မရှိ။ အလွန် လွယ်ကူလှပေ၏။ ထို့ကြောင့်လည်း ဘုရားလက်ထက်တော်က 'ခေနွဲ့ဒ္ဓာ' ပုဏ္ဏားကြီးသည် သေခါနီး နာရီဝက်လောက် အလိုတွင်မှ အရှင်သာရိပုတ္တရာ၏ ဟောပြချက်အရ မေတ္တာတရားကို နာကြားပွားများရ၍ ဗြဟ္မာ့ပြည်ရောက်ကြောင်း (မဇ္ဈိမပဏ္ဏာသ၊ ဓနဉ္စာနိသုတ်၌) အတိအလင်း ဟောတော်မူထားလေသည်။

အားကျဖွယ် ကောင်းလေစွ။



**၂၅။ တိရစ္ဆာန်မိဘတို့၏ မေတ္တာ**
**(ဖခင်၏မေတ္တာ)**

အသိဉာဏ်ရှိသော သာသနာနှင့်ကြုံကြိုက်ရသော၊ မေတ္တာသဘောကို နားလည်သောလူကို မဆိုထားဘိ၊ အသိဉာဏ် ခေါင်းပါး၍ ဘုရားသာသနာ ဆိုသည်မှာလည်း ဗိတ်ဗိတ်သား မရှိ၊ မေတ္တာ၏ အဓိပ္ပာယ်ဆိုသည်ကိုမူ သာ၍ပင် မသိရရှာသော အဟိတ်တိရစ္ဆာန်တို့ပင်လျှင် မေတ္တာအကျိုးကို ရရှိကြ၏။

သီဟိုဠ်ရာဇဝင် (မဟာဝံသ)၌ သီဟဗာဟုမင်းဟူ၍ ရှိခဲ့ဖူး၏။ ဝင်္ဂတိုင်းဖွား (ဗင်္ဂလား) မင်းသမီးတစ်ယောက်သည် ခြင်္သေ့နှင့်သင့်မြတ်ကာ လိုဏ်ဂူတစ်ခု၌ နေရသည်။ သားတစ်ယောက်၊ သမီးတစ်ယောက်ပေါက်ဖွား၏။ ခြင်္သေ့ကြီးသည် အစာရှာထွက်တိုင်း ဂူပေါက်ဝ၌ ကျောက်တုံးကြီး ပိတ်၍ သွားလေ့ရှိရာ သားဖြစ်သူ သီဟဗာဟု ၁၆–နှစ်အရွယ်သို့ ရောက်လျှင် အကြောင်းစုံ သိရသဖြင့် ခြင်္သေ့ကြီး အစာရှာထွက်သွားခိုက် ကျောက်တုံးကြီးကို တွန်းဖယ်ကာ မိခင်နှင့်နှမကို ခေါ်၍ ထွက်ပြေးသွား၏။

ခြင်္သေ့ကြီးလည်း သားမယားများ ပျောက်သွားသဖြင့် တောတောင်အနံ့ လိုက်လံရှာဖွေရာ မ,စိတ်မွန်ကာ တောစွန်အုံဖျား ရွာများကိုပင် ဖျက်ဆီးလေ့ရှိ၏။

ထိုအခါ ဘုရင်က ခြင်္သေ့ကြီး နှိမ်နင်းမည့်သူကို မောင်းကြေးနင်းခတ်၍ ကြေညာသောအခါ သီဟဗာဟုသည် ဆုတော်ငွေ သုံးထောင်ကို ယူ၍ ခြင်္သေ့ကို နှိမ်နင်းရန် တာဝန်ယူလိုက်၏။ ဘုရင့်ထံ ရောက်သောအခါ ခြင်္သေ့ကိုနိုင်လျှင်

နိုင်ငံကို အပ်မည်ဟု ဆိုပြန်သည်။

သီဟဗာဟုလည်း ခြင်္သေ့ရှိရာအရပ်သို့သွားရာ ခြင်္သေ့ကြီးသည် သား သီဟဗာဟုကို မြင်လျှင် ပူပန်မှုသောကများ အတန်ငယ် ပြေပျောက်၍သွားကာ သားဟူသော ချစ်ခြင်းမေတ္တာများ ဖြစ်ပွားလျက်ရှိ၏။ သီဟဗာဟုသည် အဆိပ်လူးမြှားဖြင့် ဖခင်ခြင်္သေ့ကြီးအား ပစ်ခတ်ရာ ဖခင်၏မေတ္တာကြောင့် မြှားပစ်၍ မရပေ။ သုံးကြိမ်တိုင်တိုင်ပစ်သော်လည်း မရဘဲ မိမိပစ်သောမြှားများ ပြန်လည်လာကာ မိမိခြေရင်း၌သာ ကျကုန်၏။

"ငါ့သားကတောင် ငါ့ကို ရန်မူနေမှကော"ဟု ခြင်္သေ့ကြီးလည်း ရတ်တရက် ဒေါသထွက်၍ ဟိန်းဟောက်လိုက်သောအခါ သီဟဗာဟု၏ မြှားသည် ခြင်္သေ့ကြီး၏ ယပ်ထိပ်မှ စူးဝင်ကာ ထိုနေရာ၌ပင် ခြင်္သေ့ကြီး သေရှာ၏။ သီဟဗာဟုလည်း မင်းပြုရလေတော့သည်။

မေတ္တာနှင့်ဒေါသ (ဝါ) အအေးဓာတ်နှင့် အပူဓာတ်နှစ်မျိုး လျှပ်တစ်ပြက် အပြောင်းအလဲဖြစ်ရာ အခိုက်အတန့်ကလေးသည် မကြာလှသော်လည်း ထို မကြာမညောင်း တိုတောင်းလှသောအချိန်ကလေးအတွင်း အပူအအေးဓာတ် နှစ်ခုတို့၏ ဆန့်ကျင်ဘက်စွမ်းအင်ကိုမူ မြင်သာလှပေသည်။



**မိခင်၏မေတ္တာ**

ဝိသုဒ္ဓိမဂ်အဋ္ဌကထာ ဗြဟ္မဝိဟာရအခန်းလာ ရှေးအခါက သီဟိုဠ်ကျွန်း၌ ဖြစ်ပျက်ခဲ့သော တိရစ္ဆာန်နှင့်မေတ္တာ ဝတ္ထုတစ်ခုလည်း ရှိပေသေးသည်။

အဋ္ဌကထာ၌ အောက်ပါအတိုင်း ဖော်ပြထားပေသည်။ (ဝိသုဒ္ဓိ-၁။ ၃၀၇။)-

"ဤမေတ္တာဘာဝနာအရာ၌ ရှေးဆရာတို့သည် နွားမ ဝတ္ထုကိုလည်း ပြောဆို ကြကုန်၏။ တစ်ခါက နွားမကြီးတစ်ကောင်သည် မိမိနို့စို့သားငယ်အား ရပ်လျက် နို့တိုက်ကျွေးနေ၏။ မုဆိုးတစ်ဦးသည် ထိုနွားမကြီးကို ထိုးသတ်မည်ဟု လှံရိုးရှည်ကြီးကို လက်ဖြင့်အရှိန်ယူ လွှဲကိုင်၍ ထိုးပစ်၏။ ထိုလှံသည် နွားမကြီး၏ ကိုယ်၌ ထိသောအခါ ထန်းရွက်ကဲ့သို့ လိပ်ခွေ၍ ကျသွား၏။

"ယင်းကား ဥပစာရအင်အားရှိသော မေတ္တာကြောင့်လည်း မဟုတ်၊ အပ္ပနာ အင်အားရှိသော မေတ္တာကြောင့်လည်း မဟုတ်ချေ။ စင်စစ် မိမိ၏

သားငယ်အပေါ်၌ အလွန်အမင်း ချင်ခင်ခြင်းရှိသော စိတ်ကြောင့်သာလျှင် ဖြစ်ပေ၏။ မေတ္တာ၏ အာနုဘော်ကား ဤသို့စင် ကြီးမားလှပေ၏။"

နို့တိုက်နေသော နွားမကြီးနှင့်စပ်၍ မိခင်၏ မေတ္တာကြောင့် သွေးစင်စစ်က အဖြူရောင် နို့ဟူ၍ ဖြစ်လာရကြောင်း (မူလပဏ္ဏာသ အဋ္ဌကထာ၊ မဟာတဏှာသင်္ခယ သုတ်အဖွင့် ၂၁၀) ၌ ပြဆိုထားသည်များကိုလည်း မှတ်ယူသင့်ပေ၏။

မိခင်မေတ္တာကား ကြီးမားပေစွ။



**ဥဗ္ဗဲထဲက သတ္တဝါနှင့် မိခင်၏မေတ္တာကြိုး**

တိရစ္ဆာန်နှင့် မေတ္တာအကြောင်းကို ပြဆိုရာ၌ ဖွတ်၊ လိပ် စသည်တို့ကိုလည်း ကိုးကားပြောဆိုလေ့ ရှိကြ၏။

ဖွတ်၊ လိပ်စသော သတ္တဝါတို့သည်လည်း ဥများကို ဥသောအခါ သဲများ မြေများနှင့် လုံခြုံစွာ ဖုံးဖိပြီးမှ အစာရေစာအတွက် သွားလိုရာ ဌာနသို့ သွားလေ့ ရှိကြ၏။

ဖွတ်များလိပ်များသည်ပင်လျှင် မိခင်၏ မေတ္တာစိတ်ကို(တစ်နေရာ၌ ဖုံးဝှက်၍ ထားခဲ့သော) ဥများ၌ အမြဲတစေ ပို့လွှတ်ဆက်သွယ်နေကြောင်း တွေ့မြင်နိုင်သည်။ မိခင်သည် မည်မျှဝေးကွာသော အရပ်ဒေသ၌ သွားရောက်နေစေကာမူ ဥခွံအတွင်း၌ရှိသော သားငယ်သည် မိခင်နှင့် အဆက်အသွယ် မပြတ်ချေ။ မိခင်၏မေတ္တာသည် မိမိ၏ဥများ၌ ပို့လွှတ်ထား၏။ အဘယ့်ကြောင့်ဆိုသော် မိခင် ဖွတ်၊လိပ်များသည် အကြောင်းတစ်စုံတစ်ရာကြောင့် အဝေးတစ်နေရာ၌ သေလွန် သွားလျှင် ထိုဥများလည်း (မိခင်၏မေတ္တာ အဆက်အသွယ် ကို မရရှိကြသဖြင့်) သတ္တဝါ အကောင်အဖြစ်သို့ ရောက်မလာဘဲ သိုးပုပ်၍ သွားကြရသည်ဆို၏။

အခြား ကင်း၊မြွေစသော သတ္တဝါများသည်လည်း မိသားစုများ အကြောင်း အားလျော်စွာ နေရာဒေသ ခြားကွာနေကြရသော်လည်း တစ်ဦးဦး၌ တစ်စုံတစ်ရာ ဘေးရန်အန္တရာယ်တွေ့ကြုံရလျှင် ချက်ချင်း ကသောကမျော ရောက်လာ ကူညီတတ် ကြရာ မိသားစု ချစ်ခြင်းမေတ္တာနှင့် မကင်းနိုင်ပေ။

လူသားမိခင်ကြီးများ သတိထား

ပြဆိုခဲ့ပြီးသော တိရစ္ဆာန်တို့၏ မေတ္တာသည် သားချစ်၊ မယားချစ်၊ မိဘချစ်၊ မိသားစုချစ်ခြင်း (ဂေဟာသိတပေမ) များဖြစ်၍ 'တကယ့်မေတ္တာစစ်မဟုတ်၊ တဏှာလောဘ မကင်းသော မေတ္တာ' ဟုဆိုလျှင်လည်း ဆိုနိုင်သော အခြေအနေမျိုး ရှိနေပေသေးသည်။

၁။ အဟိတ်တိရစ္ဆာန်လည်းဖြစ်၊

၂။ တကယ့်မေတ္တာလည်း မဟုတ်တတ်သေးဟု ဆိုလိုက ဆိုနိုင်သော အထက်ဖော်ပြပါ တိရစ္ဆာန်များ၏ မေတ္တာသည်ပင်လျှင် အဘယ်မျှ ကြီးမားကြောင်း ပို၍နှစ်လိုဖွယ် ကောင်းလှပေသည်။

ယခုအခါ သာသနာနှင့်လည်း ကြုံရ၊ တရားဓမ္မကိုလည်း အတော်အသင့် သိနားလည်ကြသော မနုဿတ္တဒုလ္လဘ မိခင်ကြီးများပင်လျှင် တစ်လောကလုံး အချစ်ဆုံး ဖြစ်ရမည့် မိမိ၏ ရင်သွေးများအပေါ်၌ ရက်စက်နေကြသည်မှာ ရှက်ဖွယ် ကောင်းလှပေတော့သည်။

ထိုမိခင်မျိုးအတွက် .....

၁။ ရန်သူအပေါ်၌ပင်၊

၂။ မိမိ၏ တစ်ဦးတည်းသောသားကဲ့သို့ ချစ်ခင်နိုင်ရမည် ဟူသော တကယ့်မေတ္တာ၊ ဘုရားရှင် အဆုံးအမ သာသနာတော်ကြီးနှင့် အဘယ်သို့လျှင် တွေ့ကြုံရကျိုး နပ်ပါလေတော့မည်နည်း။



၂၆။ လက်ဦးဆရာ ဗြဟ္မာမိဘ

လောက၌ မိဘမေတ္တာ၊ မိခင်စိတ် စသည်ဖြင့် ပြောဆိုသုံးနှုန်းလေ့ ရှိကြ၏။ မြတ်စွာဘုရားရှင်ကလည်း မိဘ၏ ဂုဏ်ကျေးဇူးများနှင့်စပ်၍ (အင်္ဂုတ္တိုရ် တိကနိပါတ်-သဗြဟ္မကသုတ်၌) "မိဘဆိုတာ ဗြဟ္မာပဲ၊ လက်ဦးဆရာ လို့လဲ ခေါ်ဆိုအပ်တယ်" ဟု ဟောတော်မူ၏။

မိဘများကို ဗြဟ္မာခေါ်ရကြောင်းနှင့်စပ်၍ ယင်းအဋ္ဌကထာ (အံ၊ဋ္ဌ၊၂။၉၉) နှင့် အဋ္ဌသာလိနီ အဋ္ဌကထာ (၂၄၀-၂၄၁) တို့၌ အကျယ်တဝင့် အောက်ပါအတိုင်း ဖွင့်ဆိုကြလေသည်။

"ဗြဟ္မာတို့သည် မေတ္တာ၊ ကရုဏာ၊ မုဒိတာ၊ ဥပေက္ခာ ဟူသော

ဗြဟ္မဝိဟာရ တရားလေးပါးကို မစွန့်ကြကုန်။ ထို့အတူ မိဘတို့သည်လည်း သားသမီးတို့အပေါ်၌ ယင်းဗြဟ္မဝိဟာရတရား လေးပါးတို့ကို အစဉ်ပွားထုံကာ မစွန့်လွှတ်ကြ။

[၁။ သားသမီးများ ကိုယ်ဝန်သန္ဓေတည်သောအခါ 'ငါ့သားကလေး ကျန်းကျန်းမာမာ ခြေလက်အင်္ဂါ ပြည့်ပြည့်စုံစုံနှင့် ဘယ်တော့အခါများမှ မြင်ရပါမလဲ' ဟူ၍ မိဘများ၌ **မေတ္တာစိတ်** ဖြစ်ပွားနေနှင့်ကြရ၏။

၂။ မွေးဖွားပြီးနောက် မပြောတတ်၊ မဆိုတတ်၊ ထားသလို ပက်လက်ကလေး နေရစဉ် မှက်၊ ခြင်၊ ယင်၊ ကြမ်းပိုးစသည်ကြောင့်ဖြစ်စေ၊ တစ်စုံတစ်ခု နာကျင် ခံခက်၍ဖြစ်စေ ကျယ်လောင်ပြင်းပြစွာ ငိုကြွေးမြည်တမ်းသောအခါ သားငယ်သမီးငယ်၏ အသံကို ကြားရလျှင်ပင် မိဘတို့၌ ထိုဒုက္ခမှ လွတ်ကင်း စေလိုသော **ကရုဏာစိတ်** ဖြစ်ရပြန်၏။

၃။ ပြေးလွှားဆော့ကစားသောအရွယ်၊ တီတီတာတာ ပြောဆိုပူဆာတတ်သော အရွယ်ရောက်သောအခါ သားငယ်သမီးငယ်များကို ကြည့်၍ မိဘတို့၌ ဆိထိဂွမ်းပမာ သိတာရေစင်သဖွယ် အစဉ်ဝမ်းမြောက်ဝမ်းသာ၍ **မုဒိတာစိတ်** ဖြစ်ကြရ၏။

၄။ သားသမီးများ လူလားမြောက်သဖြင့် အသီးသီး အိမ်ထောင်ပြု၍ ခွဲခွာကြသောအခါတွင်လည်း ငါ့သားသမီးများ ကံအားလျော်စွာ ကိုယ့်ဟာနှင့်ကိုယ် ရပ်တည်နိုင်ကြပေပြီ' ဟု (မခွဲနိုင် မခွာရက် နှစ်သက်စွဲလမ်းမှုလည်း မဖြစ်၊ စိတ်ဆိုးစိတ်ကွက်မှုလည်း မရှိ) သင့်တင့်မျှတစွာ နှလုံးသွင်းနိုင်သော **ဥပေက္ခာ ဗြဟ္မဝိဟာရစိတ်**ကို မွေးမြူခွင့် ရကြပြန်လေသည်။

ထို့ကြောင့် မိဘများ သာသမီးတို့နှင့်စပ်၍ ဗြဟ္မဝိဟာရတရား လေးပါး အရွယ် အားလျော်စွာ ရရှိကြသဖြင့် မိဘများကို 'ဗြဟ္မာ' ဟုခေါ်ဆိုရလေသည်။]

ထို့ကြောင့်လည်း မိဘမေတ္တာ "မိခင်စိတ် အပြည့်အဝရှိသော မိဘများ ကွယ်လွန်ကြသောအခါ နတ်၊ ဗြဟ္မာစသော မြင့်မြတ်အေးချမ်းသည့် ဘဝ၌ ဖြစ်ကြရသည်" ဟုဆိုသင့်ပေသည်။

## မိသားစုချစ်ခြင်းနှင့် စကြဝတေးမင်းစည်းစိမ်

"မိဘတို့က သားသမီးတို့အပေါ်၌ ထားရှိသော မေတ္တာစိတ်၊ သား သမီး တို့က မိဘတို့အပေါ်၌ ထားရှိသော မေတ္တာစိတ်သည် ဝဋ္ဋဂါမိ = လောကီ ကုသိုလ်မည်၏။ ထိုကုသိုလ်စိတ်၏ အထွတ်အထိပ် အကျိုးကား လူ့လောက၌ ဖြစ်ရသော် စကြဝတေးမင်း စည်းစိမ်ကို ရနိုင်သည်" ဟု (စက္ကဝတ္တိသုတ်

အဋ္ဌကထာ) ၌ ဖွင့်ဆိုထားလေသည်။

အနည်းဆုံး စစ်မှန်သော မိသားစု မေတ္တာမျိုးလောက်ကိုမူ အရှအမိ မွေးမြူ ထူထောင်ကြရာ၏။

မေတ္တာ (အဒေါသ) စိတ်ကို တမင်ပွားများအောင် မထူထောင်နိုင်စေကာမူ ပင်ကိုဉ်က တစ်ဘက်သားအပေါ် ညှဉ်းပန်းနှိပ်စက်လိုစိတ် (ဒေါသ)မရှိလျှင် (ဝါ) ဖြောင့်မတ်နေလျှင်ဖြစ်စေ၊ သို့မဟုတ် (သီလအဖြစ်) တမင်စည်းစောင့် ရှောင်ကြဉ် နေလျှင်ဖြစ်စေ၊ တစ်ကိုယ်ရေ ငြိမ်းချမ်းရေး၊ မိသားစု ငြိမ်းချမ်းရေး၊ ကမ္ဘာ ငြိမ်းချမ်းရေးသည် အနည်းဆုံး ရာခိုင်နှုန်း ငါးဆယ် ရရှိနေပြီး ဖြစ်ပေလိမ့်မည်။

တမင်ကြိုးစား ပွားများထူထောင်ပါမူကား ဆိုဖွယ်ရာ မရှိပြီ။



**ဆလာကာအမြင်**

**(သိပ္ပံနှင့် စိတ်ပညာရှုထောင့်)**

- စကြဝဠာနိယာမ
- ဖိလိုဆိုဖိ ပညာရှင်များ အဆို၊
- တုံ့ပြန်မှု နိယာမ
- ကမ္ဘာကို စေစားနိုင်သော
  စိတ်လှိုင်းဂယက်များ
- စိတ်ကူးကို သိနိုင်သော စက်
- စိတ်ချင်း စကားပြောနည်း (တယ်လီပက်သီ)
- လူမိုက်များကို ရေမြေသစ်ပင်တို့က
  တော်လှန်ဒဏ်ခတ်ခြင်း
- ၆၄–ကမ္ဘာပြေးသော မေတ္တာဓာတ်လှိုင်း။

စတုတ္ထအကြိမ်

**စိတ်စွမ်းအား**

“အကျုမြှုပ်ုံးချ၊ အဆိပ်ရည် ပက်ဖျန်းခံရသော နေရာ၌ မည်သည့် သစ်ပင်မျှ မပေါက်ရောက်နိုင်ခြင်းမှာ အလွန်ဆုံး အနှစ်နှစ်ဆယ်မျှ လောက်သာ ဖြစ်၏။ ဒုစရိုက် စိတ်လှိုင်းတစ်ချက် ထိမှန်သော ဒေသ၌ကား နှစ်ပေါင်း ထောင်သောင်းချီ၍ ပျက်စီးသွားနိုင်လေသည်။”

“စိတ်ဆန္ဒသည်ကား တစ်လောကလုံးတွင် အရာရာကို စိုးမိုးသည်။ ဤလောကကြီးအတွင်း ရှိရှိသမျှ သက်ရှိသက်မဲ့ အရာအားလုံးမှာ စိတ်ဆန္ဒ အားကြောင့်သာ ဖြစ်ပေါ်နေကြရသည်။ မည်သည့် ဘုရားသခင် အနန္တဉာဏ် တော်ကြောင့်မျှ ဖြစ်ပေါ်လာကြရသည် မဟုတ်”

**စတုတ္ထအကြိမ်**

၂၇။ သိပ္ပံနှင့်စိတ်ပညာရှုထောင့်

လောကကြီးတစ်ခုလုံး ရပ်တည်နေရသည် မရှိ၊ အမြဲတမ်း ရုန်းကန်လှုပ်ရှား ရွေ့လျားပြောင်းရွှေ့၍ချည်းသာ နေကြကုန်၏။ ထိုဟာသည်ပင် အမြဲမရှိသော လက္ခဏာ ဖြစ်ပျက်ခြင်းသဘောကို ဖော်ဆောင်နေခြင်းဖြစ်ပေသည်။

စင်စစ် ဤကမ္ဘာလောက သက်ရှိသက်မဲ့ အရာဝတ္ထုမှန်သမျှ အနန္တ စကြဝဠာ တစ်ခွင်လုံး ဝရုန်းသုန်းကား ရပ်တည်မှု မရသည့်ကြားကပင် အချင်းချင်း အားပြိုင်ကာ ထိုးကြိတ်၍နေကြရကုန်၏။ အားကြီးသူ၊ အားကြီးသော အရာဝတ္ထုသည်သာ ဘုရင်အဖြစ် သရဖူဆောင်းရ၍ အားနည်းသူ၊ အားနည်း သောအရာဝတ္ထုတို့ကား သူ့ဩဇာကိုသာ နာခံနေကြရကုန်၏။ သူ့အာဏာကို မလွန်ဆန်ရဲကြ။ သူ့အလိုဆန္ဒအတိုင်း လိုက်လျောညီထွေ လိုက်နာကြရကုန်၏။

ဤကား ကမ္ဘာဦးအစ စကြဝဠာဦးကပင် ရှိခဲ့၍ ကမ္ဘာကုန် 'ကျွမ်း' သည် အထိ ရှိနေမည်သာဖြစ်သော ဥတုနိယာမ, ဗီဇနိယာမပင်တည်း။

စကြဝဠာ နိယာမ

အနန္တ စကြဝဠာတစ်ခွင်လုံး ဝရုန်းသုန်းကား ရပ်တည်မှု မရသည့် ကြားကပင် အချင်းချင်း အားပြိုင်နေသည့် သဘာဝ၊ ကြီးနိုင်ငယ်ညှဉ်းသော နိယာမကို စကြဝဠာဖွဲ့စည်းပုံ ကြည့်ခြင်းအားဖြင့် သိနိုင်ပေသည်။

ကျွန်ုပ်တို့ ရပ်တည်သော ကမ္ဘာမြေ အပါအဝင် ဂြိုဟ်ကြီးကိုးလုံးဟု

ဆိုအပ်သော ဤစကြဝဠာတွင် နေမင်းသည် အင်အားအကြီးဆုံးဖြစ်၏။ ဆွဲအားအကောင်းဆုံး၊ အာဏာအရှိဆုံး၊ အရှိန်အဝါ အကြီးဆုံးဖြစ်၏။ အချင်း မိုင်အားဖြင့် ၈၅၄၃၉၃–မိုင်ရှိသည်။ လ,ကား မိုင် ၂၀၀၀–သာ ရှိ၏။ ကမ္ဘာမြေဟု ခေါ်သော ဤဂြိုဟ်မှာ ၇၉၁၈–မိုင် ရှိလေသည်။ အပြောကျယ်သော လဟာပြင်၌ ဆွဲအားကြီးရာအလိုက် 'အင်အားကြီးသူ အနိုင်ယူ'ဟူသော နိယာမအရ နေမင်းကြီးကို ဦးခိုက်၍ ဗဟိုပြု၍ လှည့်ပတ်သွားနေကြရ၏။ အလေးပြုနေကြရ၏။

ကမ္ဘာမြေကြီးသည် တစ်နေ့တစ်ညလျှင် တစ်ပတ်တစ်ပတ် လည်လျက်က တစ်နှစ်လျှင် အပတ်ကြီး တစ်ပတ်ရအောင် နေကို လှည့်ပတ် ဦးတိုက်နေရသည်။ လ,ကား ကမ္ဘာမြေအောက် အင်အားနည်းသူဖြစ်၍ ကမ္ဘာမြေကို တစ်လလျှင် တစ်ပတ်ကျ လှည့်ပတ်ဦးခိုက်၍ သွားလာနေရ၏။

အခြားဂြိုဟ်များလည်း ရှု့နှုန်းနှင့်သူ နေကို ဦးခိုက်ကာ လှည့်ပတ် သွားလာနေကြရသည်။ ရပ်နားသည် မရှိချေ။ နေစကြဝဠာအုပ်စုတွင် ပါဝင်သော သက်ရှိသက်မဲ့ အရာဝတ္ထုများအားလုံး အင်အားအကြီးဆုံးဖြစ်သူ နေ၏ ဩဇာကို နာခံနေကြရ၏။

ဤနေစကြဝဠာလည်း သူ့ထက် အင်အားကြီးသော အခြားစကြဝဠာ အုပ်စုကြီးကို သူ့နှုန်းနှင့်သူ ဦးတိုက်နာခံသောအားဖြင့် လှည့်ပတ်သွားလာနေရ၏။ သူ ဦးတိုက်ရသော စကြဝဠာအုပ်စုကြီးကလည်း သူ့ထက် အရှိန်အဝါကြီးသော အုပ်စုကြီးကို စံချိန်ပြည့် လှည့်ပတ်ရွေ့လျားကာ မရပ်မနား ဦးတိုက်နေရပေသည်။

အခြားအခြားသော မရေတွက်နိုင်အောင် များပြားလှသည့် စကြဝဠာ အနန္တခေါ် စကြဝဠာအုပ်စုကြီးများလည်း အပြောကျယ်သော လဟာပြင်တွင် မရေမတွက်နိုင်အောင် ရှိလေရာ ထိုထိုအုပ်စုကြီးများလည်း သူ့ထက်သူ အားကြီးသူ၏ အရှိန်အဝါ ဩဇာကို ခံယူကာ မရပ်မနား သွားလာလှည့်ပတ် နေကြရကုန်၏။ ရပ်နားကြရသည် မရှိချေ။

ညအခါ ကောင်းကင်သို့ မော့်ကြည့်လိုက်လျှင် မြင်တွေ့ရသော ကြယ်တာရာ များသည် ယခု ပြောခဲ့သော စကြဝဠာ အနန္တပင်ဖြစ်၏။ ထိုကြယ်များမှနေ၍ ဤကမ္ဘာမြေကို ကြည့်လိုက်ပါလျှင်လည်း ကမ္ဘာမြေသည် လဟာပြင်၌ မျောပါနေသော ကြယ်တာရာ တစ်လုံးမျှသာ ဖြစ်သည်။ ညအခါ ကောင်းကင်၌ မြင်ရသမျှ ကြယ်အပေါင်းတွင် နေ,လ,သောကြာ, ကြာသပတေး စသော ထင်ထင်ရှားရှား မြင်ရသည့် ကြယ်များ ဂြိုဟ်များကို ဤစကြဝဠာ၊ ဤကမ္ဘာအုပ်စုဝင် ဂြိုဟ်များ ကြယ်များဟု အကြမ်းအားဖြင့် သတ်မှတ်နိုင်ပေသည်။ မှုန်ဝါးဝါး မြင်ရသော ကြယ်များ၊ အလတ်စား မြင်ရသော ကြယ်များမှာ ကျွန်ုပ်တို့ စကြဝဠာနှင့်

ဝေးသော၊ နီးသော စကြဝဠာများဟု ခေါ်ဆိုနိုင်လေသည်။

မည်သို့ဆိုစေ ဤကမ္ဘာမြေနှင့်တကွ လဟာပြင်၌ မျောပါလှည့်လည် နေကြသော ကြယ်များ၊ ဂြိုဟ်များ သဘောကို လေ့လာခြင်းအားဖြင့် စကြဝဠာ အနန္တဆိုသည်ကို ရိပ်စားနိုင်သည့်အပြင် မေတ္တာဘာဝနာ (မေတ္တာ ပို့လွှတ်ခြင်း)ကိစ္စ၌ လွန်စွာ ကျေးဇူးများလှပေသည်။ ထိုမှတစ်ပါး အင်အားတို့၏ နိယာမကိုလည်း နားလည်ခွင့် ရရှိနိုင်ပြန်လေသည်။ (စကြဝဠာအကြောင်း ဆက်လက်လေ့လာ ဖတ်ရှုရန်။)

## အစိုင်အခဲမရှိ လှိုင်းအတိ စကြဝဠာ

မြတ်စွာဘုရားရှင်သည် မေတ္တသုတ်ပါဠိတော်၌ ပုဂ္ဂိုလ်သတ္တဝါတို့အား မေတ္တာပွားပို့ရန် ဟောတော်မူသောအခါ (နဂိုကမှ ပုဂ္ဂိုလ် သတ္တဝါ အမြင် အစွဲ ရှိနေသူများဖြစ်၍) ပုဂ္ဂိုလ် သတ္တဝါစွဲ မရှိကြစေရန် 'ဒိဋ္ဌိဉ္စ,အနုပဂမ္မ' ဟူသော ဂါထာကို ဆက်လက်ဟောပြတော်မူရလေသည်။ ဤ၌လည်း ကျွန်ုပ်တို့သည် စကြဝဠာ, နေ, လ, နက္ခတ်, ကြယ်တာရာ ကမ္ဘာမြေဖွဲ့စည်းပုံ အမြွက်မျှကို တင်ပြခြင်းအားဖြင့် ဗုဒ္ဓအဘိဓမ္မာနှင့်လည်းကောင်း၊ သိပ္ပံနှင့် လည်းကောင်း အလှမ်းကွာနေသူများအတွက် စကြဝဠာ နေ, လ, နက္ခတ်, ကြယ်တာရာနှင့် ဤကမ္ဘာမြေကြီးကို အခိုင်အမာ အစိုင်အခဲ အမြဲစွဲ၍ တည်ရှိနေသော ဒြပ်ဝတ္ထုများဟု အထင်ရောက်ရှိသွားနိုင်ပြန်လေသည်။

စင်စစ် ယနေ့ ရူပဗေဒပညာအရပင်လျှင် ဤကမ္ဘာမြေကြီးနှင့်တကွ စကြဝဠာအနန္တ ရှိရှိသမျှ သက်ရှိသက်မဲ့ အရာဝတ္ထုမှန်သမျှ၏ နောက်ဆုံးအခြေခံ သဘာဝကား မည်သည့် ဒြပ်ဝတ္ထု အစိုင်အခဲ တစ်စုံတစ်ရာမျှ မတွေ့ရှိကြရ တော့ချေ။ အီလက်ထရွန်နှင့် ပရိုတွန် ဓာတ်မျှသာရှိကြောင်း တွေ့မြင် လာကြပေပြီ။ ပို၍ရှင်းအောင် ဆိုရသော် စကြဝဠာတစ်ခွင်လုံး မြင်မြင်သမျှ မည်သည့်အစိုင်အခဲ အရာဝတ္ထုမျှ မရှိ၊ လှိုင်းများ၊ ရောင်ခြည်များ၏ အဖွဲ့အစည်းမျှသာ ဖြစ်ကြောင်း သိပ္ပံနယ်ပယ်၌ စောစီးစွာကပင် တွေ့မြင်ခဲ့ကြရလေပြီ။

ယခုအခါ သိပ္ပံဆရာတို့ ယင်းသို့ တွေ့မြင်သည်မှာ မဆန်းလှပါချေ။ အဘယ့်ကြောင့်ဆိုသော် လွန်ခဲ့သော နှစ်ပေါင်း ၂၄၀၀–ကျော်က ဂရိပြည်၌ ပေါ်ထွန်းခဲ့သူ ဂျော်မေထရီပညာရှင် ပိုက်သဂိုးရပ်က 'ဤကမ္ဘာလောကဓာတ်ကြီး အတွင်းရှိ မြင်ရ, မမြင်ရသော အရာအားလုံး တုန်ခါမှုသဘော တစ်ခုသာလျှင် ဖြစ်သည်' ဟု ထုတ်ဖော်ပြောဆိုခဲ့ဖူးလေသည်။ အင်္ဂလိပ်လို 'ဘိုက်ဘရေးရှင်း' ဟုခေါ်၍ ဗုဒ္ဓအဘိဓမ္မာအလို တေဇော, ဝါယော စသော ဓာတ်ကြီးလေးပါးတို့

အမြဲမပြတ် လှုပ်ရှားဖြစ်ပျက် နေခြင်းမျှသာတည်း။ ယင်းကိုပင် သိပ္ပံဆရာတို့က လှိုင်းအဖြစ် ပြောဆိုလာကြသည်။

သိပ္ပံဆရာတို့ပြောသော လှိုင်းမှာ နှစ်မျိုးနှစ်စားရှိ၍ ပုလင်းထဲတွင် ထည့်၍ ပိတ်ထားသော လှိုင်း (ဒြပ်)ထု နှင့် လဟာပြင်တွင် အတိုင်းမသိ လွင့်ပါးနေသော လှိုင်း (ရောင်ခြည်)တို့ပင် ဖြစ်သည်။

## ရောင်ခြည် စကြဝဠာ

ဤ၌ သိပ္ပံဆရာတို့ တွေ့ရှိသော ရောင်ခြည်များအကြောင်းကို အမြွက်မျှ ဖော်ပြပါဦးအံ့။ စကြဝဠာတစ်ခုလုံး ရောင်ခြည်လှိုင်းများ အတိပြီးသည်ကို လေ့လာခြင်းအားဖြင့် ရုပ်ထက် အဆပေါင်းများစွာ အင်အား ကြီးမားသော နာမ်၊ ထိုနာမ်တရားစု တွင်လည်း အင်အားအကြီးဆုံးဖြစ်သော အဒေါသစိတ် မေတ္တာစာတ်လှိုင်း၏ ထိုးဖောက်လွှမ်းမိုးသွားနိုင်သည့်သဘောကို အလွယ်တကူပင် ကျေနပ်မှု ရနိုင်ပေသည်။

ရောင်ခြည်တို့သည် အမျိုးမျိုးအစားစားရှိ၍ တစ်ခုနှင့်တစ်ခု စွမ်းအင်သတ္တိချင်းလည်း ခြားနားကြ၏။ အမြွက်မျှ ဖော်ပြရသော်–

၁။ ကက်သုတ်ရောင်ခြည် – မျဉ်းဖြောင့်အတိုင်း ပြေး၏။ လျှပ်စစ် သံလိုက်စက်ကွင်းများကို မထိုးဖောက်နိုင်။

၂။ အိပ်(စ်)ရေးရောင်ခြည်–အရာဝတ္ထု အများအပြားကို ဖြတ်သန်းနိုင်၏။

၃။ ရေဒီယမ်မှ ရရှိသော အာလဖာ၊ ဘီတာ၊ ဂမ္မာ ရောင်ခြည်သုံးမျိုးတွင် အာလဖာရောင်ခြည်သည် ဓာတ်ပုံဖလင် ကော်ပြားကို ဖျက်ဆီးနိုင်သော်လည်း ပါးလွှာသော သတ္တုပြားနှင့် နှစ်လက်မခန့် ထူသော လေထုကို မဖောက် ထွင်းနိုင်ချေ။ ၎င်း၏ အမြန်နှုန်းမှာ တစ်စက္ကန့်လျှင် မိုင်တစ်သောင်းရှိသည်။

၄။ ဘီတာရောင်ခြည်မှာ တစ်လက်မ၏ ခြောက်ပုံတစ်ပုံခန့် ထူသော ဒန်နှင့် တစ်မီလီမီတာထူသော ခဲပြားကို ဖောက်ထွင်းသွားနိုင်၏။ ၎င်း၏အမြန်နှုန်းမှာ အလင်းရောင်၏နှုန်းကဲ့သို့ပင် တစ်စက္ကန့်လျှင် ၁၈၆၃၀၀ ဖြစ်သည်။

၅။ ဂမ္မာရောင်ခြည်မှာ လျှပ်စစ်သံလိုက်ဓာတ်ကြွသော ရောင်ခြည်ဖြစ်၍ အိပ်(စ်)ရေး ခေါ် ဓာတ်မှန်ရိုက်သော ရောင်ခြည်၊ ခရမ်းရောင် ရောင်ခြည်တို့နှင့် ဆက်စပ်လျက်ရှိသည်။ အလွန်ပြင်းထန်သော

ရောင်ခြည်ဖြစ်၍ တစ်ပေထူသော သံကိုပင် ထွင်းဖောက်သွားနိုင်သည်။ဤရောင်ခြည်သုံးမျိုးမှာ တစ်ခုထက်တစ်ခု အဆ တစ်ရာစီသာလွန်ကာ အရာဝတ္ထုများကို ဖြတ်သန်းနိုင်ကြလေသည်။

၆။ လေဆာရောင်ခြည် – ၄င်းမှာ ယနေ့ စက်မှုလုပ်ငန်းနှင့် အဖျက်လက်နက်များအတွက် အထက်မြက်ဆုံး ရောင်ခြည်ပင်ဖြစ်သည်။ ဖြတ်စက်၊ ဖောက်စက်များအတွက် အသုံးပြုနေကြ၏။ အပူရှိန်အားကြီးလှသဖြင့် စိန်ကိုပင် ဖြတ်နိုင်သည်။ အလင်းရောင်လည်း အခြား အလင်းတို့ထက် သန်းပေါင်းများစွာ တောက်ပ၏။

အခြားရောင်ခြည်များသည် အရောင်အမျိုးမျိုး၊ လှိုင်းအမျိုးမျိုး ပါရှိနေ၍ လိုရာသို့ မလွှတ်နိုင်။ အဘက်ဘက်သို့ ယိုင်ပြန့်နေ၏။ လေဆာကား တစ်ရောင်တည်း၊ လှိုင်းတစ်လျားတည်းသာ ရှိ၍ လုံကဲ့သို့ လိုရာတစ်နေရာတည်းသို့ ဖြောင့်ဖြောင့်တန်းတန်း စူးဝင်ပြီး ထိုးဖောက်နိုင်စွမ်း ရှိလေသည်။ ထိုမှတစ်ပါး ဒလ်တာ၊ သီတာ ဓာတ်လှိုင်းများ အဏုမြူရောင်ခြည် စသည်ဖြင့် ရောင်ခြည်ဓာတ်လှိုင်းတို့သည် များစွာရှိပေသေးသည်။

မည်သို့ဆိုစေ သိပ္ပံပညာရှင်တို့သည် လူအသုံးချ စက်ကိရိယာ ထုတ်လုပ်ရန်ထက် စစ်လက်နက်အတွက်ကိုသာ ဦးတည်၍ ရှာဖွေစူးစမ်းနေကြရာ အရာရာတွင် အသာရစေရန် လျင်မြန်သည်ထက် လျင်မြန်သော၊ ထက်မြက်သည်ထက် ထက်မြက်သော၊ ပူလောင်သည်ထက် ပူလောင်သော အင်အားများကိုသာ သူ့ထက်ငါ ရှာဖွေနေကြလေသည်။ ထုတ်လုပ်နေကြလေသည်။

မဝေးတော့သော အနာဂတ်ကာလတွင် ထိုရောင်ခြည် ဓာတ်လှိုင်းများထက် အစွမ်းထက်၍ လူသားထုအား အကျိုးပြုရာ၌ အတုမရှိသော ဓာတ်လှိုင်းရောင်ခြည်တစ်မျိုးကို မုချ တွေ့ရှိကြတော့မည်ဟု မျှော်လင့်ရပေသည်။ အမြန်ဆုံး တွေ့ရှိကြပါစေဟုလည်း အဓိပတိဆန္ဒ ပြုရပေတော့သည်။

ယင်းရောင်ခြည်ဓာတ်လှိုင်းကား အခြားမဟုတ်။ အဒေါသစိတ် ခေါ် မေတ္တာရောင်ခြည် ဓာတ်လှိုင်းကြီးပါပေတည်း။

## တစ်ယောက် တစ်ကမ္ဘာ တစ်စကြဝဠာ

ပြဆိုခဲ့ပြီးသော စကြဝဠာဖွဲ့စည်းပုံကို ကြည့်လျှင် နေ, လ, နက္ခတ်တာရာတို့သည် သူ့အုပ်စုနှင့်သူ ကမ္ဘာတစ်ခု စကြဝဠာတစ်ခုအဖြစ် ဖွဲ့စည်းတည်ရှိနေကြ၏။ အချင်းချင်း အားပြိုင်နေကြ၏။ အားကြီးသူအား ဦးကျိုးရသော နိယာမကို မလွန်ဆန်နိုင်ကြလေ။

စင်စစ် လူသားသည်လည်း ကမ္ဘာတစ်ခု၊ စကြဝဠာတစ်ခုပင်တည်း။

ယခုအခါ မည်မျှ အစွမ်းထက်၍ ကမ္ဘာပြိုဟ်အသီးသီးသို့ တက်ရောက်နေသော မည်သည့်စက်ကိရိယာမဆို ကမ္ဘာနိယာမပညာရှင်က ထုတ်လုပ် ထားသော လူသားခန္ဓာကိုယ် တည်ဆောက်မှုလောက် စက်ကိရိယာ များပြားခြင်း မရှိ၊ သိမ်မွေ့ခြင်း မရှိ၊ ထက်မြက်ခြင်း မရှိ။ ယနေ့ ထက်မြက်လှပါသည် ဆိုသော စက်ကိရိယာအားလုံးသည် လူသားစက်ရုံကလေးမှ ထုတ်လုပ်ပေးလိုက်သော သာမန်စက်ကရိယာကလေးများသာ ဖြစ်ချေသည်။

ယင်းသို့ဆိုသော် စက်ကိရိယာများ အစုံလင်ဆုံး၊ အသိမ်မွေ့ဆုံး၊ အထက်မြက်ဆုံးသော သဘာဝ လူသားကမ္ဘာ၊ လူသားခန္ဓာကိုယ် စက်ယန္တရားမှ ထုတ်လွှတ်ပစ်ဖောက်လိုက်သော မေတ္တာစသော ရောင်ခြည်ဓာတ်လှိုင်းများကို အဘယ်မည်သော ရောင်ခြည်ဓာတ်လှိုင်းသည် ကြံ့ကြံ့ ခံနိုင်ပါစအံ့နည်း။

သိပ္ပံဆရာကြီး တော်တော်များများသည် ရုပ်စွမ်းအင် အသုံးပြုနိုင်ရုံမျှဖြင့် လိုအပ်သော ပန်းတိုင်သို့ မရောက်နိုင်သေးကြောင်း၊ စကြဝဠာအနန္တ ရုပ်လောကကြီး တစ်ခုလုံးကို စိတ်က,သာ ဦးဆောင်ပဲ့ကိုင်လျက် ရှိကြောင်း (စိတ္တေန နီယတိ လောကော ဘုရားဟော ဒေသနာနှင့်အညီ) ခပ်စောစောကပင် ယုံကြည်ယူဆခဲ့ကြလေပြီ။

ထိုလူများတွင် (သာမစ္စထရီးယပ်စ် ယူနီဗားစ်–နက်နဲလှစွာ စကြဝဠာ စာအုပ်ကို ရေးသားသူ) 'ဆာဂျိမ်းဂျင်းစ်(စ်)'က– သင်္ချာနေရာတွင် တစ်စုံတစ်ခုကို အစားထိုးရတော့မည် ဖြစ်ကြောင်း၊ ထိုတစ်စုံတစ်ခုသည် မဏ္ဍင်းနစ်ပညာ မဖြစ်နိုင်တော့ကြောင်းနှင့် အရာရာတွင် စက်ကဲ့သို့ သဘောထားခံယူချက်ဖြင့် လေ့လာ၍ မရနိုင်တော့ကြောင်း တင်ပြရင်း စိတ်သာပဓာနအမြင်ကို အောက်ပါ အတိုင်း ရဲရင့်ပြတ်သားစွာ တင်ပြထားလေသည်။

"ဒြပ် (ရုပ်ဝတ္ထု)ဖြင့် ဖန်တီးထားသော ဤကမ္ဘာကြီးထဲသို့ စိတ်သည် မတော်တဆ ရောက်လာရသည် မဟုတ်၊ စိတ်သည် ရုပ်ဒြပ်နယ်ကို ဖန်တီးသူ၊ စိုးမိုးအုပ်ချုပ်သူ ဖြစ်တန်ရာသည် ဟု ကျွန်ုပ်တို့ သံသယဖြစ်စပြုလာရပေသည်။ ဆိုလိုသည်မှာ စကြဝဠာ အစနှင့်တကွ ပုပုရွရွ မြင်သမျှတို့၏ ဖန်တီးဖြစ်ပေါ်လာမှုတွင် စိတ်သာလျှင် ပဓာနဖြစ်လိုက် အရာရာတွင် စိတ်သာလျှင် အစိုးရ၍ စိုးမိုးအုပ်ချုပ် နေသည်ဟု ဆိုလိုသည်။

ယနေ့ သိပ္ပံပညာ မဖြေရှင်းနိုင်သော အရာတွေ များပြားလာကာ မှုန်ဝါးဝါးကလေးကိုပင် မနည်း ဂရုစိုက်ကြည့်မှ မြင်ရပုံ၊ ထိုမှုန်ဝါးဝါး ကလေးကိုပင် မျက်စိမှောက်၍ မှားတတ်၊ ပျောက်တတ်ပုံကိုလည်း

ဆက်လက်တင်ပြကာ အသိဉာဏ်ဟူသော မြစ်ကြီးသည် မကြာခဏ နောက်သို့ ပြန်၍ စီးလျက်ရှိသည်ကို ယနေ့ သိပ္ပံပညာက ထုတ်ဖော်ရမည့်ကိန်း ဆိုက်နေပြီ "ဟု သူ၏ စကြဝဠာတရားကို နိဂုံးချုပ်ထားလေသည်"။

**ဖိလိုဆိုဖီ ပညာရှင်များအဆို**

ခေါမခေတ်က အချို့သော အတွေးအခေါ် ပညာရှင်များ၏ အဆိုအမိန့်များတွင်လည်း သိပ္ပံပညာ, ဗုဒ္ဓဝါဒတို့နှင့်နီးနွယ်၍ရသော အတွေးအခေါ်များကို တွေ့ရှိရ၏။ ဤသို့ စကြဝဠာ သဘောတရားနှင့်စပ်၍ 'ဒီမိုကရိတပ်' ခေါ်သော ပညာရှင်ကြီးက.....

"စကြဝဠာ တစ်ခုလုံး၏ ခြေခံမူလသည် အဏုမြူ အစုအဝေးမျှသာ ဖြစ်ကြောင်း၊ ထိုအဏုမြူတွင်လည်း အနုအသည့် အသိမ်မွေ့ဆုံး အဏုမြူမှာ စိတ်သာလျှင် ဖြစ်ကြောင်း" ပြောဆိုခဲ့ဖူး၏။

'ပိုက်သဂိုးရပ်' စသော ပညာရှင်များကလည်း 'ဤစကြဝဠာအတွင်းရှိ သက်ရှိသက်မဲ့ အရာဝတ္ထုအားလုံးတို့၏ အခြေခံသဘောမှာ ဝိညာဉ်ဖြစ်ကြောင်း၊ ခံယူခဲ့ကြလေသည်။ ထိုထို အတွေးအခေါ် ပညာရှင်များတွင် 'ရှိုပင်ဟောင်းဝါး' ဆိုသူ(၁၇၀၈–၁၈၆၀) ပညာရှင်ကြီးကမူ.....

"စိတ်ဆန္ဒသည်သာ တစ်လောကလုံးတွင် အရာရာကို စိုးမိုးသည်။ ဤလောကကြီးအတွင်း ရှိရှိသမျှ သက်ရှိသက်မဲ့ အရာအားလုံးမှာ စိတ်ဆန္ဒအားကြောင့်သာ ဖြစ်ပေါ်နေကြရသည်။ မည်သည့်ဘုရားသခင် အနန္တ ဝိညာဉ်တော်ကြောင့်မျှ ဖြစ်ပေါ်လာကြရသည် မဟုတ်" ဟု တစ်လောကလုံးတွင် စိတ်ဆန္ဒကသာ ပဓာနဖြစ်ပုံကို ထုတ်ဖော်ခဲ့လေသည်။

ရောင်ခြည်ဟုဆိုဆို၊ အဏုမြူဟုဆိုဆို စကြဝဠာအနန္တသည် တစ်ခုနှင့် တစ်ခု ဝေးကွာသည် (အစိုင်အခဲ ဖြစ်သယောင်ရှိ၍) ဆက်စပ်မှုမရှိဟု ထင်ရသော်လည်း စင်စစ် တစ်ခုတည်းပင် ဖြစ်သည်ကို နားလည်သင့်ပေသည်။ ဗုဒ္ဓအဘိဓမ္မာ အမြင်အားဖြင့်လည်း တောတောင်ရေမြေ၊ သမုဒ္ဒရာ၊ သက်ရှိသက်မဲ့ အရာဝတ္ထုအားလုံးသည် အခြေခံအားဖြင့် အဋ္ဌကလာပ် ရုပ်မျှသာဖြစ်၍ ကလာပ်မှုန်၊ ကလာပ်မွှား၊ ရုပ်မှုန် ရုပ်မွှားတို့ဖြင့် ဖွဲ့စည်းနေခြင်းမျှသာ ဖြစ်ကြောင်း ထင်ရှားပေသည်။ ထို့ကြောင့် အဒေါသ စိတ်ဓာတ်စွမ်းအင်ခေါ် မေတ္တာစိတ်လှိုင်းသည် စကြဝဠာအနန္တကို တိုးလျှိုပေါက် ဖြတ်သန်းလွှမ်းမိုးကာ အလွယ်တကူပင် အရှိန်အဝါ သက်ရောက်နိုင်ကြောင်း ခန့်မှန်းနိုင်ကြရာ၏။ အနီးအဝေးဆိုသော ဝေါဟာရ

(တိုင်းမင်စပေ့စ်)သည် သိပ္ပံလောက၌ပင် မရှိတော့ချေ။ စိတ်လုပ်ငန်းတွင် သာ၍ပင် မရှိ။ ရန်ကုန်မှ မန္တလေးသွားသော စိတ်နှင့် ဗြဟ္မာ့ပြည်သွားသော စိတ်သည် အတူတူပင်တည်း။ (မိလိန္ဒပဥှာ၌လည်း ရှုလေ။)

သိပ္ပံလောက၌ အဏုမြူကို တိတိကျကျ သိမြင်လာကြသော အချိန်မှစ၍ စကြဝဠာအတွင်းရှိ အရာဝတ္ထုအားလုံးသည် တစ်ခုနှင့်တစ်ခု ကင်းကွာ၍ မရပ်တည်နိုင်ကြောင်း တွေ့မြင်လာကြပေသည်။ ဥပမာ လူနှင့်စကြဝဠာအနန္တသည် အသံလှိုင်းအားဖြင့်လည်းကောင်း၊ လူ့ကိုယ်မှ ဖြာ၍ထွက်နေသော ကိုယ်ရောင်အားဖြင့်လည်းကောင်း၊ ဘိုက်ဘာရေးရှင်းခေါ် တုန်ခါခြင်းအားဖြင့် လည်းကောင်း၊ အခြားသံလိုက်ဓာတ် လျှပ်စစ်ဓာတ် စသည်အားဖြင့် လည်းကောင်း အချင်းချင်း ဆက်သွယ်ထိတွေ့နေရကြောင်း ထင်ရှားလာပေသည်။

လူ၏ ကိုယ်ရောင်နှင့် အသံလှိုင်းများ စကြဝဠာအနန္တသို့ အဆုံးအစ မရှိ ပျံ့လွင့်ပြေးသွားနေကြောင်း ယခုအခါ ရုပ်လွှင့် အသံလွှင့်စက်များ၊ ရေဒါ စသော စက်များဖြင့် သိသာလှပေသည်။ (လူ၏ ကိုယ်ရောင်ကိုယ်ဝါ နှင့်စပ်၍ ရဟန္တာနှင့် ပုဂ္ဂိုလ်ထူးများစာအုပ် ဘုန်းတော်ကြီး ဦးသာရွှန်း အခန်း၌ အနည်းငယ် ရေးသားခဲ့ပြီ။)

## တုံ့ပြန်မှု နိယာမ

လောက၌ ဒြပ်ဝတ္ထုနှစ်ခုရှိလျှင် လျှပ်စစ်ဓာတ်၊ သံလိုက်ဓာတ် စသော အကြောင်းခြောက်မျိုးကြောင့် အင်အားသစ်တစ်ခု ဖြစ်ပေါ်လာ၏။ စကြဝဠာအတွင်း၌ မည်သည့်ဒြပ်ဝတ္ထုကမဆို အချင်းချင်း ဆွဲငင်လျက်ရှိကြသည်။

ရူပဗေဒ၌ အိုက်စက် 'နျူတန်'၏ မဏ္ဍိုင်းနစ် အခြေခံဖြစ်သော ရွေ့လျားမှု နိယာမ သုံးမျိုးတွင်–

**အမှတ်–၁ နိယာမမှာ** လက်ရှိ ရပ်တည်နေသော အခြေအနေကို ပြောင်းလဲစေလိုလျှင် ပြင်ပအင်အား တစ်ခုခုဖြင့် ပြုလုပ်ပေးရမည့် သဘောပင် ဖြစ်၍ ယင်းနိယာမဖြင့် စိတ်ပိုင်းဆိုင်ရာ အင်အားကို သိမြင်ထားသူများအတွက် ကမ္ဘာနှင့်ချီ၍ မငြိမ်းချမ်းသော အခြေအနေကို မည်သည့် အင်အားဖြင့် ငြိမ်းချမ်းအောင် ပြုပြင်နိုင်ကြောင်း သတိပြုဖွယ်ဖြစ်၏။

အမှတ်နှစ်နှင့် အမှတ်သုံး နိယာမများမှာ မေတ္တာဓာတ်ဖြင့် ပို့လိုသူထံသို့ ရောက်–မရောက်နှင့် အပို့ခံရသူ၏ မေတ္တာတုံ့ပြန်မှုကိုလည်း ပို့သူထံ သက်ရောက်မှု ရှိ–မရှိ ဆိုသော ပြဿနာအတွက် တစ်နည်းတစ်ဖုံအားဖြင့် ထောက်ထားနိုင်ရှည့်ဖွယ် ဖြစ်ကောင်းဖြစ်ပေလိမ့်မည်။

**အမှတ်နှစ် နိယာမ။** ။ အဟုန်၏ ပြောင်းလဲသောနှုန်းသည် သက်ရောက်

သော အားနှင့် တိုက်ရိုက်အချိုးကျပြီး အား၏ လားရာဘက်အတိုင်း လားမည်။

**အမှတ်သုံး နိယာမ**။ ။ သက်ရောက်မှုတိုင်းတွင် ယင်းနှင့်ညီမျှသော ပြောင်းပြန် (တန်ပြန်) သက်ရောက်မှု တစ်ခုစီ ရှိသည်။ (မှန်ကြည့်လျှင် တန်ပြန် အရိပ် ပေါ်ထင်လာခြင်းမျိုးဖြစ်သည်။) ယခုအခါ ပင်လယ်ကူး သင်္ဘောကြီးများ၌ ရေအတိမ်အနက်ကို သိနိုင်ရန် ရေထုအောက်မှ တုံ့ပြန်လာသော ပဲ့တင်သံကို ဟိုက်ဒရိုဂျင်ဖုံး ကိရိယာဖြင့် ဖမ်းယူကာ အသုံးပြုကြ၏။

ယင်းသို့လျှင် 'အသေ' ဟု ခေါ်သော ရုပ်တို့၌ပင် အချင်းချင်း မှီတွယ်မှု၊ သက်ရောက်မှု ရှိနေသေးလျှင် မေတ္တာစသော နာမ်သတ္တိများအဖို့ကား ပြောဖွယ်မရှိပြီ။

မေတ္တာစာတ်လှိုင်း ပို့လွှတ်သူများသည် သမာဓိအင်အား ကောင်းလာသောအခါ မေတ္တာခံသူများထံ မိမိ၏မေတ္တာ မည်သို့မည်ပုံ ရောက်ရှိကြောင်း၊ မေတ္တာခံသူ ထံမှလည်း (အိပ်မက်၊ အသံ၊ ပုံပန်း၊ သတင်းစကား စသည်ဖြင့်) မည်သို့သော တုံ့ပြန်မှု (ပြန်ကြားချက်)များ ရ,တတ်ကြောင်း အလိုလို သိမြင်လာတတ်ပေသည်။ ယင်းနိယာမသဘောကို နံရံသို့ ပစ်လွှတ်လိုက်သော ဘောလုံး ဥပမာ၊ ရေပြင်သို့ ခဲလုံးတစ်ခု ပစ်ချလိုက်သောအခါ ဂယက်လှိုင်း ထသော ဥပမာတို့ဖြင့်လည်း ချဲ့ထွင်သိအပ်ပေသည်။

ရေကန်အတွင်းသို့ ခဲလုံးတစ်လုံး ပစ်ချလိုက်လျှင် ရေဂယက်လှိုင်းများ ပစ်ချသော ခဲအင်အားအလိုက် ဖြစ်ပေါ်လာသည်ကို တွေ့နိုင်၏။ ခဲထိမှန်၍ ဖြစ်ပေါ်လာသော ဂယက်သည် အနည်းငယ်မျှသာရှိ၍ ထိုမူလ ဂယက် ချုပ်ငြိမ်း ပြီးသည်နှင့် တစ်ပြိုင်နက် ဂယက်လှိုင်းများ တစ်ခုပြီးတစ်ခု ဆက်ကာဆက်ကာ ဖြစ်ပေါ်လာပြီးနောက် ကန်ဘောင်တွင် ထိခိုက်ပျောက်ကွယ် သွားသည်ဟု သိရသည်။ ဤကား တုန်ခါခြင်း (ဘိုက်ဘရေးရှင်း)နှင့် တုန်နှုန်း (ဖရီကွင်စီ) သဘောဖြစ်၏။

ဟဒယဝတ္ထု မနောအကြည်မှ ထုတ်လွှတ်လိုက်သော မေတ္တာစာတ်လှိုင်း သည်လည်း အစိုင်အခဲမရှိ အဏုမြူရောင်ခြည် အဖွဲ့အစည်းမျှသာ ဖြစ်သော (ဝါ) အဋ္ဌကလာပ် ရုပ်မှုန်အဖွဲ့အစည်းမျှသာဖြစ်သော အနန္တ စကြဝဠာအတွင်း မော်လီကျူ (ဘုတ် ရုပ်ကလာပ်) အဆက်ဆက် လက်ဆင့်ကမ်းကာ အဆုံး အပိုင်းအခြား မထင်အောင် တုန်ခါရိုက်ခတ်သွားကြောင်း အကြွင်းမဲ့ ယုံကြည်အပ်ပေသည်။

အဆိုပါ သဘောကို ရည်ရွယ်၍ 'စီ၊ အမ်၊ ဘရစ္စတော်လ်' ဆိုသူ စာရေး ဆရာကြီးက—

"လူ့ကိုယ်မှ ဖြာထွက်နေသော လျှပ်စစ်ဓာတ် တုန်ခါမှုတစ်မျိုး၊ သို့မဟုတ် ဝိညာဉ်အား၊ ဓာအား၊ ကြိုက်သလို ခေါ်ဆိုနိုင်သော ထိုအားသည် ယုံကြည်မှုကြောင့် ဖြစ်ပေါ်လာရသော စွမ်းအားဖြစ်၏။ ထိုယုံကြည်မှုသည်

မမြင်ရသော စွမ်းအားများကို ထကြွသွားစေပြီးလျှင် သင်ကိုယ်တိုင်ဖြစ်လိမ့်မည်ဟု မမှတ်ထင်ခဲ့ဖူးသော ကိစ္စကြီးများကို သင်နှင့်ဆိုင်သော လောကအတွင်းသို့ သယ်ဆောင်ပေးလာတတ်ပေသည်" ဟု ပြောဆိုခဲ့ဖူးလေသည်။

**ရူပဗေဒမှ နာမရူပဗေဒသို့**

သိပ္ပံပညာသည် အပြင်ကိုသာ ကြည့်၏။ အတွင်းကို မကြည့်။ အဝေးကိုသာ ကြည့်၏။ အနီးကို မကြည့်။ ထို့ကြောင့် အမှန်တရားနှင့် ကျော်ချင်းကပ်ကာ ပွတ်ကာသီကာနှင့် မဇ္ဈိမပဋိပဒါ လမ်းကြောင်းပေါ်သို့ တက်မလာနိုင်ဘဲ ရှိနေခဲ့၏။ ပတ်ဝန်းကျင်ကို အားကိုးလွန်းသူအချို့ကား အရာရာတွင် ပတ်ဝန်းကျင် (ရုပ်) သာလျှင် ပဓာနဖြစ်၍ ရုပ်ကြမ်းဝါဒကြီးကိုပင် ထူထောင်ကာ လူသားတို့အား ဆင်းရဲတွင်းသို့ မြိန်ရေရှက်ရေ နှစ်မြှုပ်ပေးနေခဲ့သည်။

"ချူးတန်ပြောသလို သမုဒ္ဒရာဟူသော လမ်းဆုံးအမှန်တရားကို တွေ့ရန်မျှော်လင့်သော်လည်း မြစ်ကောက်ကြီးကို လိုက်ရသကဲ့သို့ ဖြစ်ကာ မဇ္ဈိမ ပဋိပဒါသို့ မကပ်နိုင်ကြဘဲ တစ်ဘဝ ကုန်သူကုန်၍ စိတ်ကူးယဉ်ရုပ်ကြမ်း ဝါဒကြီးကိုပင် တရားသေဆုပ်ကိုင်ကာ 'သဘာဝတရားကတော့ အမှန်ပဲ၊ လုပ်တဲ့လူက နေရာမကျလို့' ဟု ယူဆလျက် လူအများအား ရုပ်အစွန်းသို့ တွန်းချနေကြလေတော့သည်။

မည်သို့ဆိုစေ ယခုအခါ သိပ္ပံဆရာ တော်တော်များများသည် စိတ်ပိုင်းဆိုင်ရာ အသိအမြင်သစ်များ၊ နာမရူပ အသိအမြင်သစ်များဘက်သို့ မျက်နှာမူလာကြလေသည်။ စိတ်အလုပ်လုပ်ပုံ လေ့လာကြသောအခါ ၎င်းတို့၏ လေ့လာတင်ပြချက်များမှာ တစ်နည်းအားဖြင့် စိတ်ဝင်စားဖွယ်ဖြစ်၏။

**ကမ္ဘာကို လိုသလို စေစားနိုင်သော**
**စိတ်လှိုင်းဂယက်များ**

ဤနေရာ၌ လျှပ်စစ်ဆရာကြီး 'နီကိုလာ' ၏ စကားကို ဖော်ပြလိုပေသည်။ နီကိုလာက–

"စိတ်ကူး တွေးတောမှုနှင့် စိတ်၏ တုန်ခါမှုများ၊ သို့မဟုတ် ရောင်ခြည်များအကြောင်းကို စဉ်းစားလိုက်တိုင်း လျှပ်စစ်စွမ်းအားများနှင့် ဆက်စပ်၍သာလျှင် စဉ်းစားကြည့်မိသည်။ ဤကဲ့သို့ စဉ်းစားလိုက်သောအခါ ကျွန်တော့်စိတ်ထဲ၌ ပိုမိုရှင်းလင်း၍ နားလည်လာပေသည်" ဟု ဆိုလေသည်။

တစ်ဖန် ကမ္ဘာကျော် စုံထောက်ဝတ္ထုများကို ရေးသူ 'အေ–ကင်နန်ဒွိုင်း' ဆိုသူစိတ်ပညာ သုတေသနအသင်းကြီးသို့ အသင်းဝင်အဖြစ် ဝင်ရောက်လာသော အခါ ၎င်းက စိတ်ပညာအသင်းဝင်များအား အောက်ပါအတိုင်း ပြောဆိုခဲ့ဖူးလေသည်။

"အစိုင်အခဲတစ်ခုဆီသို့ စူးစိုက်လိုက်ပါက ထိုအစိုင်အခဲ၌ ပါရှိသော မော်လီကျူး (အဏုမြူ)များကို တခြားစီ ဖြစ်သွားစေသည့် လူ့စိတ်မှ ဖြစ်ပေါ်လာသော တန်ခိုးသည် ဘယ်လို တန်ခိုးမျိုး ဖြစ်သည်ကို ကျွန်တော် စိတ်ကူး၍ မရသေးသော်လည်း ရာဒါရောင်ခြည်၏ အစွမ်းနှင့် ရေဒီယို လှိုင်းများသည် သစ်သား၊ အုတ်ခဲနှင့်သံမဏိများကို မည်သို့ ဖြတ်သန်း သွားတတ်သည် ဆိုသောအချက်ကို သတိရစေပါသည်။ စိတ်လှိုင်း သို့မဟုတ် အခြားမည်သည့် အမည်ဖြင့်ခေါ်ခေါ် ထိုစိတ်လှိုင်းတို့၏ တုန်ခါမှု စွမ်းအားများကို အကယ်၍ အစိုင်အခဲများတွင် ရှိသော အဏုမြူများနှင့် အံကျအောင် ညှိ၍ ပေးပါက ထိုအစိုင်အခဲများကို စိတ်လှိုင်း၏ စွမ်းအားဖြင့် အဘယ့်ကြောင့် မပြောင်းလဲစေနိုင်ဘဲ ရှိပါလေမည်နည်း။"

ကမ္ဘာကျော် နက္ခတ်ပညာရှင် 'အက်ဒင်တန်' ကလည်း ဤသို့ပင် ယုံကြည်၍၊ ဘီစီ ၄၉၅–ခန့်က စီစလီပြည် တောင်ပိုင်း အဂရီဂျင်တန်မြို့တွင် မွေးဖွားခဲ့သူ 'အင်ပီဒေါ့ကလီ' ခေါ်သော အတွေးအခေါ် ပညာရှင်ကြီးကလည်း–

"မူလဘူတ ဓာတ်ကြီးလေးပါးကို ဆွဲငင်ပေါင်းစည်းပေးသော အရာမှာ မေတ္တာဖြစ်၍ ကွဲပြားအောင် လုပ်သောအရာမှာ မုန်းတီးသူ (ဒေါသ) ဖြစ်သည်" ဟု ယူဆခဲ့ဖူး၏။ မေတ္တာတရားနှင့် မုန်းတီးမှုကသာ ဓာတ်ကြီး လေးပါးကို လွှမ်းမိုးချုပ်ကိုင်ထားကြောင်း ယုံကြည်လေသည်။

## စိတ်ကူးကို သိနိုင်သော စက်

ယခုအခါကား သိပ္ပံပညာများ အထူး တိုးတက်နေသောအခါဖြစ်၍ လူတစ်ဦးတစ်ယောက်၏ စိတ်ကူးကိုပင် ဓာတ်ပုံရိုက်၍ ကြည့်နိုင်လာပေပြီ။ စိတ်နှင့်ရုပ် ခန္ဓာကိုယ်လှုပ်ရှားမှု ပညာရပ်ကို 'ဆိုင်ကိုဖိဇီယိုလိုဂျီ' ဟုခေါ်သည်။ ယခုအခါ သိပ္ပံပညာ ထွန်းကားသော နိုင်ငံတိုင်းလိုလိုပင် ဦးနှောက်လှိုင်း စိတ်ဓာတ်လှိုင်းများအကြောင်း သု့တေသန လေ့လာနေကြ၏။

စိတ်သည် ရင်ချိုင့်ရှိ နှလုံးဗူး (ဟဒယဝတ္ထု)၌ တည်နေလျက် နူးညံ့ သိမ်မွေ့သော အာရုံကြောများဖြင့် ဆက်သွယ်၍ ဦးနှောက်ဖြင့် သိသည်ဟု လေ့လာတွေ့ရှိကြသည့်အတိုင်း ဦးနှောက်အာရုံကြောများမှ ထွက်ပေါ်လာသော လှိုင်းများကို 'အီး–အီး–ဂျီ'ခေါ်သော စက်ဖြင့် ဓာတ်ပုံရိုက်ကူး၍ ယူကြသည်။

ယင်းသို့ ရိုက်ကူးရာ၌ ပဓာန ပါဝင်သော ရောင်ခြည်လှိုင်းများ ဒလ်တာ၊ သီတာ၊ အာ့လ်ဖာနှင့်ဘီတာ ရောင်ခြည်လှိုင်းများဖြစ်ကြ၏။ ဤနည်းဖြင့် လူတစ်ယောက်၏ ကျန်းမာရေး အခြေအနေကို လေ့လာကြ၏။ အတွင်းစိတ် ဖြစ်ပေါ်သော အခြင်းအရာများကို ဖော်ထုတ်ကြ၏။ ဥပမာ ထိုဓာတ်ပုံ ဓာတ်လှိုင်းများကို ကြည့်၍ လူတစ်ယောက်၏ ကျေနပ်ခြင်း၊ ဝမ်းနည်းခြင်း၊ စဉ်းစားခြင်း၊ တွေဝေခြင်း၊ တပ်မက်ခြင်း၊ ငြူစူခြင်း၊ ဒေါသထွက်ခြင်း စသည်တို့ကို ဖော်ထုတ်နိုင်ကြလေသည်။

ဆိုက်ကိုလိုဂျီ ပညာတွင် လူတစ်ယောက်၌ အလွန်အစွမ်းထက်၍ ငုပ်ကွယ်နေသော 'ဆပ်ဘ်ကွန်းရှပ်စ်' ခေါ် အတွင်းစိတ်၏ စွမ်းအင်သတ္တိကို ပြဆိုကြရာ သာမန် အကြားအမြင်စသော အသိစိတ်ဖြင့် လုပ်ဆောင်၍ အောင်မြင်မှုသည် ဆယ်ရာခိုင်နှုန်းမျှသာရှိကြောင်း၊ လူများစု၏ အောင်မြင်မှုသည် ထိုပြင်ပအသိ အောင်မြင်မှုသာ ရှိသေးကြောင်း၊ ဆပ်ဘ်ကွန်းရှပ်စ်ခေါ် အတွင်းစိတ်အသိဖြင့် လုပ်ဆောင်ခြင်းသည် ရာခိုင်နှုန်းပြည့် အောင်မြင်ကြောင်း၊ သမုဒ္ဒရာတွင်း၌ ထွက်ပေါ်နေသော တောင်ကြီးသည် ကြီးကျယ်လှပြီဟု ထင်ရသော်လည်း ဆယ်ရာခိုင်နှုန်းမျှသာရှိသေး၍ ရေအတွင်း၌ မြုပ်နေသည်မှာ ကိုးဆယ် ရာခိုင်နှုန်း ရှိနေကြောင်း၊ အတွင်းစိတ်၏ စွမ်းဆောင်အောင်မြင်မှု၊ အတွင်းစိတ်၏ အစွမ်းသတ္တိကို ပြောဆိုကြလေသည်။

ယခုအခါ ယင်းအတွင်းစိတ်၏ စွမ်းအင်သတ္တိကို ရုပ်ဝတ္ထုသိပ္ပံကိရိယာ အကူအညီများဖြင့် သက်သေပြနိုင်လာကြပေသည်။

## စိတ်ဓာတ်လှိုင်း စေလွှတ်၍
## စိတ်ချင်း စကားပြောနည်း

'ဆိုင်ယောနစ်' ခေါ်သော စိတ်ဓာတ်လှိုင်း စေလွှတ်သည် ဆိုခြင်းမှာ ရပ်ဝေးနေ မိတ်ဆွေတစ်ဦးထံ တစ်စုံတစ်ရာ ပြောကြားစေလိုသည်ဟုဆိုလျှင် ထိုသူကို စိတ်ထဲ၌ မြင်အောင်၊ ခြေဆုံးခေါင်းဆုံး ပီပီပြင်ပြင် ထင်မြင်လာအောင် စိတ်ညွှတ်ထားပြီးနောက် ပြောလိုသောအကြောင်းကို တိုတိုတုတ်တုတ် စာဖြင့် ရေးထားပြီးလျှင် နေ့စဉ်ရက်ဆက် စိတ်ထဲ စွဲသွားအောင် (အတွင်းစိတ်ထဲ စွဲနေအောင်) ကြိမ်ဖန်များစွာ ရွတ်ဖတ်၍ စိတ်ကို စေလွှတ်ခြင်းပင်ဖြစ်သည်။

ချီကာဂို ယူနီဗာစီတီမှ 'လွီဆာ–မေအလ်ကော့' ဆိုသူ သုတေသီ အမျိုးသမီး တစ်ဦးသည် အထက်ပါနည်းအတိုင်း စိတ်ကို စေလွှတ်၍ စမ်းသပ်ကြည့်ရာ မကြာမီ ရပ်ဝေးနေ သူ့မိတ်ဆွေထံမှ သူသိလိုသော အကြောင်းအရာများ စာဖြင့် ပြန်ကြားသည်ကို အံ့သြစွာ တွေ့ရှိရသည်ဟု ဆိုလေသည်။ (ဆဲတဒေးရီဗျူး မေလ ၇၃–သိပ္ပံမဂ္ဂဇင်း)။

## စတုတ္ထအကြိမ်

ယခုအခါ 'တယ်လီပသီ' ခေါ် စိတ်ချင်းစကားပြောနည်း ဆက်သွယ်နည်း တစ်မျိုးကို ကမ္ဘာနှင့်အဝန်း တက်တက်ကြွကြွ လေ့လာနေကြ၏။ အခြားနည်းများဖြင့် ဆက်သွယ်ခြင်းမှာ အချင်းချင်း ကြိုတင်နားလည်မှု ရယူပြီးမှ တစ်စုံတစ်ခုသော သင်္ကေတ၊ တစ်စုံတစ်ခုသော ကိရိယာဖြင့် ဆက်သွယ်ကြရာ တယ်လီပသီတွင် မည်သည့်သင်္ကေတ၊ ကိရိယာမျှ မလိုချေ။ ထို့ကြောင့်လည်း မည်သည့် ရေဒီယေးရှင်း ကိရိယာ၊ မည်သည့် ရပ်ဖမ်းသံဖမ်းစက်နှင့်မျှ ခိုးယူနိုင်ခြင်း မရှိ။ မည်သည့်အိပ်(စ်)ရေး၊ ဂမ္မာစသော ရောင်ခြည်တို့မှလည်း မဖျက်ဆီး မဟန့်တားနိုင်ချေ။ ထိုအကြောင်းများကြောင့်လည်း တယ်လီပသီကို သဲသဲမဲမဲ လေ့လာနေကြခြင်း ဖြစ်ပေသည်။

### တယ်လီပသီနှင့် မေတ္တာ

အမေရိကန်မှ ကမ္ဘာ့လှဝင်စားများကို လေ့လာသူ'ဒေါက်တာ စတီဗင်ဆင်' ဆိုသူသည် စိတ်ချင်းဆက်သွယ်သည့် ဖြစ်ရပ်ဆန်းပေါင်း နှစ်ရာခန့် တင်ပြခဲ့ဖူး၏။ အခြားနိုင်ငံများကို မဆိုထားဘိ၊ ရုရှားနိုင်ငံကဲ့သို့သော ရုပ်ဝါဒီနိုင်ငံကပင် အစိုးရ အကူအညီဖြင့် တယ်လီပသီကို ကြိုးစားလေ့ကျင့်နေကြောင်း သိရှိရပေသည်။

လီနင်ဂရက် တက္ကသိုလ် ဖီဇီယိုလိုဂျီဌာနမှူး ပါမောက္ခ 'လီအိုနစ်ဗာဆီယက်' သည် တယ်လီပသီကို နှစ်ပေါင်းငါးဆယ်ခန့် လေ့လာနေခဲ့သူ ဖြစ်သည်ဟု ဆိုလေသည်။ ၎င်းသည် ဆရာဝန်များရှေ့၌ပင် လူနာတစ်ဦးအား စိတ်ညို့၍ အမိန့်အမျိုးမျိုးပေးရာ သူအမိန့်ပေးသည့်အတိုင်း လူနာမှာ လိုက်ပါလုပ်ဆောင်ရသည်ဟု ဆိုလေသည်။

၁၉၆၇–ခုနှစ်၊ ဖေဖော်ဝါရီလအတွင်းက ရုရှားနိုင်ငံ၌ မိုင်ပေါင်း ၁၈၇၅–မိုင် ဝေးကွာသော မော်စကိုမြို့မှ လူတစ်ယောက်နှင့် နိုဗိုစီဗစ်မြို့မှ လူတစ်ယောက်တို့ စိတ်ချင်းစကားပြောနည်းကို စမ်းသပ်ကြရာ မှန်ကန်စွာ ဆက်သွယ်ပြောဆို အောင်မြင်ကြောင်း မော်စကိုသတင်းတစ်ရပ်က ထုတ်ဖော် ကြေညာခဲ့ဖူးလေသည်။

တယ်လီပသီ ဖြစ်ရပ်ဆန်းများကို ထုတ်ဖော်ကြရာ၌ ရပ်ဝေးနေရသူ မိမိ၏ ခင်မင်သူတစ်ဦး တစ်စုံတစ်ရာ ထိခိုက်ဒဏ်ရာရခြင်းကို မိမိ ထင်မြင်လာခြင်း၊ ကြားယောင်လာခြင်း၊ (အချို့ ဓနိုးသားဖွားမည်ရှိလျှင် လင်၌ ဗိုက်နာခြင်းမျိုးကဲ့သို့) နာကျင်သော ခံစားမှုများကို အလိုလိုခံစားရခြင်း၊ နာကျင်မှု လာရောက်ကူးစက်ခြင်း စသည်တို့ကို လေ့လာတွေ့ရှိကြရာ 'စိတ်ဓာတ်ချင်း နီးစပ်သူ အချင်းချင်းသာ ဆက်သွယ်လို့ရသည်၊ အမင်္ဂလာ သတင်းမျိုးကိုသာ ဆက်သွယ်လို့ရသည်' ဟု ထင်မှတ်ကြလေသည်။ မဟုတ်ချေ။ 'ခလုတ်ထိမှ အမိတ' ဆိုသကဲ့သို့

တစ်စုံတစ်ခုသော ဘေးရန်ကြုံမှသာ စိတ်လိုက်မာန်ပါ အကူအညီကို ရလိုကြ၏။ တမ်းတကြ၏။ သတိရကြ၏။ ကိုယ်က အသာရ,သည့်အခါ သတိမျှပင် မရကြ သည်မှာ သတ္တဝါတို့၏ သဘာဝပင်ဖြစ်သည်။ သတိရလျှင် စိတ်ထဲက ကွက်ကွက် ကွင်းကွင်းမြင်အောင်၊ မတွေ့ရ မနေနိုင်အောင် စိတ်ထက်သန်ပါမှုကား မည်သည့် သတင်းမျိုးမဆို၊ မည်မျှဝေးလံသော မည်သူ့ထံကိုမဆို စိတ်ချင်းဆက်သွယ် ပို့လွှတ်နိုင်သည်သာ ဖြစ်ပေသည်။

ထို့ကြောင့် 'မေတ္တာပို့တာ ရောက် – မရောက်' အထူးဆင်ခြေတက်ဖွယ် မရှိ။ ပို့လွှတ်လိုသူထံ ထိထိခိုက်ခိုက် စူးစူးရှရှ ထက်ထက်မြက်မြက် ပို့လွှတ်နိုင်မှု သည်သာ လိုရင်းဖြစ်ပေသည်။

ဘုရားရှင်ကလည်း ခရသင်းမှုတ်သူ ဥပမာဖြင့် ဟောတော်မူခဲ့ဖူး၏။ မှုတ်သူအင်အား (လေမှုတ်အား)သာလျှင် ပဓာန ဖြစ်သည်။ တိုးတိုးမှုတ်လျှင် နီးနီးသာ ကြားနိုင်၍ ကျယ်ကျယ်မှုတ်လျှင် အဝေးကြီးက ကြားရမည်ပင်ဖြစ်၏။

တိုးမှု၊ကျယ်မှုဆိုသည်မှာ မိမိ၏ သီလ၊ သမာဓိ၊ စိတ်စေတနာ ထက်သန်မှု မထက်သန်မှုပင်တည်း။

ရှေးအခါက ပြင်သစ် စိတ်ပညာဆရာကြီး 'ဒူးမန့်'သည် လမ်းသွား နေသူများ၊ ပွဲကြည့်နေသူများအား လူပေါင်းသုံးလေးဆယ်ကိုပင် နောက်ကနေ၍ ထိုသူများ၏ နောက်စေ့ကို စူးစိုက်အာရုံညွှတ်ပြီး စိတ်ညှို့အမိန့်ပေးနည်းများကို ရေးသားခဲ့ဖူး၏။ အမိန့်ပေးသည့်အတိုင်း မိမိဘက်သို့ လှည့်ကြည့်ခြင်း၊ မိမိပြောခိုင်း သည့်အတိုင်း စကားပြောခြင်း ပြုလုပ်ပေးကြလေသည်။

စိတ်ညှို့ပညာဖြင့် ခဲတံကို ညှို့၍ စာရေးစေခြင်း ၊လေပေါ် အိပ်စေခြင်း စသည်ဖြင့် ဆန်းကြယ်မှုများ ရှိပေသည်။ စိတ်ညှို့ပညာတွင် သက်ရှိသူကိုသာမက သက်မဲ့အရာဝတ္ထုများကိုပင် ညှို့ယူနိုင်လေသည်။ 'ဒေါက်တာ အလိဗ်နွာကင်နွန်း' ဆိုသူရေးသားသော 'မမြင်နိုင်သော လွှမ်းမိုးမှု' အမည်ရှိ စာအုပ်တွင် အရှေ့တိုင်းမှ ယောဂီတစ်ဦးသည် စိမ်းလန်းစိုပြည်နေသော သစ်ပင်ကြီးတစ်ပင်ကို စိတ်တစ်ချက် တည်း ညှို့လိုက်ရုံမျှဖြင့် သစ်ပင်ကြီးမှာ တစ်ရိပ်ရိပ် ပျက်စီးပျောက်ကွယ်သွားကြောင်း သူကိုယ်တိုင်တွေ့မြင်ရ၍ ဓာတ်ပုံရိုက် မှတ်တမ်းတင်ထားသည်ဟုဆိုလေသည်။

### ဗုဒ္ဓ၏ နာမရူပဗေဒ အမြင်

မေတ္တာနှင့်စပ်၍ ပြဆိုပြီး လောကအမြင်များဖြင့်ပင် ကျေနပ်နိုင်လောက် တန်ပေပြီ။ စင်စစ် သူသည်လည်း စကြဝဠာအတွင်း၊ ရုပ်ပိုင်းဆိုင်ရာ၊ နာမ်ပိုင်းဆိုင်ရာ အင်အားများ အပြည့်အစုံရှိသော (ဝါ) အပြည့်စုံဆုံးဖြစ်သော ကမ္ဘာကလေး

တစ်ခုပင်ဖြစ်၍ ထိုလူသားထံမှ အမြဲတစေ တုန်ခါထုတ်လွှတ်နေသော ရောင်ခြည်လှိုင်းတို့သည် အဏုမြူအဖွဲ့အစည်းမျှသာဖြစ်သော စကြဝဠာအနန္တ၌ နေရာမလပ် ထိစပ်ပေါင်းဆုံကာ ရုပ်သက်သက်မျှသာဖြစ်သော ရောင်ခြည်လှိုင်း (အင်အား)များ အပေါ် လွှမ်းမိုးချုပ်ကိုင်နေမည်သာဖြစ်ကြောင်း ယုံမှားသံသယ မရှိထိုက်ပါပေ။

ပြဆိုပြီး လောကအမြင်တို့သည်လည်း ဗုဒ္ဓ၏ နာမရူပအမြင်၌ ဘာမျှအဆန်းတကြယ် အံ့ဖွယ်မဟုတ်ကုန်။ တစ်လောကလုံး ဓာတ်သဘာဝ အားဖြင့်သာ ဆက်သွယ်နေပုံကို ဓာတုသံယုတ်၌ ဟောတော်မူထား၏။

တစ်လောကလုံးတွင် စိတ်သည်သာ ဦးဆောင်ညွှန်ကြားသူဖြစ်ကြောင်း 'စိတ္တေန နီယတိ လောကော'၊ 'မနောပုဗ္ဗင်္ဂမာ' စသော (ဓမ္မပဒယမကနှင့် စိတ္တပဂ်လာ) အဆိုအမိန့်များ။

အမွှေးအတောင် အရောင်အဆင်းမှစ၍ သတ္တဝါတို့သည် စိတ်ကြောင့်ပင် (ဖြစ်ချင်သောစိတ်ကြောင့်ပင်) ဖြစ်နေကြရကြောင်း (ခန္ဓသံယုတ်ပါဠိတော်) အဆိုအမိန့်များ။

ဘုရားရှင်၏ ရောင်ခြည်တော်တို့သည် သာသနာကွယ်သည်အထိ စကြဝဠာတစ်ခွင်၌ ပျံ့လွှင့်တည်ရှိနေမည်ဖြစ်ကြောင်း (မူလပဏ္ဏာသ ပါသရာသိသုတ် အဋ္ဌကထာနှင့် ဗောဓိဝံသ အဋ္ဌကထာ) အဆိုအမိန့်များ။

သမာဓိရှိသော စိတ်သည် နာဋ္ဌနှာမြို့ကြီးတစ်ခုလုံးကိုပင် ချက်ချင်း ပြာအတိ ကျစေနိုင်ကြောင်း (မဇ္ဈိမပဏ္ဏာသ ဥပါလိသုတ်) အဆိုအမိန့်များ။

မြင်းမိုရ်တောင်ကိုပင် ရွှေဖြစ်အောင်လုပ်နိုင်၊ အမှုန့်ပြုနိုင်ကြောင်း (သမာဓိသုတ်၊ ပဗ္ဗတသုတ်) ဟောတော်မူချက်များ စသည်ဖြင့် ကျယ်ကျယ်ဝိန်းဝန်း ခမ်းခမ်းနားနားပြဆိုရန် များစွာရှိသော်လည်း စာမျက်နှာကို ငဲ့၍ အမြွက်မျှသာ ပြဆိုရလေသည်။

ကမ္မနိယာမကို ချင်းချက်ထား၍ လောကကြီး တစ်ခုလုံး မှောက်လိုမှောက်၊ လှန်လိုလှန် စိတ်ကြိုက်တိုင်း ဖြစ်စေနိုင်စွမ်းသော အဘိညာဉ်တန်ခိုးများကို ကြည့်ခြင်းအားဖြင့် သမာဓိရှိသော စိတ်ကို လိုသလို အသုံးပြုနိုင်ကြောင်း ထင်ရှားလှပေတော့၏။

## လူတိုင်း တန်ခိုးရှင်များ

သမာဓိရှိသော (ဝါ) တန်ခိုးရှိသော ပုဂ္ဂိုလ်တို့သာလျှင် လောကကြီးကို လိုသလို ပြုလုပ်နိုင်စွမ်း ရှိကြသည် မဟုတ်။ အသက်ရှိသော စိတ်ရှိသော သတ္တဝါတိုင်းပင် မိမိတို့ စွမ်းအားအလိုက် လောကကြီးကို ကောင်းစေ၊ ဆိုးစေ

နိုင်ကြလေသည်။ အဘယ့်ကြောင့်ဆိုသော် စကြဝဠာအတွင်းရှိ အစွမ်းထက်လှပါသည်ဆိုသော အဏုမြူ ၊ လေဆာ စသော ရောင်ခြည်အင်အားတို့သည် တစ်ခုတည်းသော ရုပ်အင်အားမျှသာ ဖြစ်ကြ၍ လူသားသည် ရုပ်ပိုင်းဆိုင်ရာ၊ နာမ်ပိုင်းဆိုင်ရာ အင်အားများ အပြည့်အဝ ရှိနေသောကြောင့်တည်း။

မှန်လှပေ၏။ လူသား၌ရှိသော အင်အားများစွာတို့တွင် စိတ်ဓာတ်အင်အားသည် အကြီးမားဆုံးပင်ဖြစ်၏။ လူသားတစ်ဦး၏ စိတ်ကူးတစ်ချက်သည် အဏုမြူဗုံးပေါင်းများစွာ ဖောက်ခွဲသည်ထက် ပြင်းထန်လှပေသည်။ အဏုမြူဗုံးဒဏ်မှာ တစ်ဘဝမျှသာ ခံရ၏။ အကုသိုလ် မကောင်းစိတ် တစ်လုံးကား တစ်သံသရာလုံး ပေါက်ကွဲလို့ မဆုံးချေ။ ကုသိုလ်စိတ်= ကောင်းစိတ်လည်း ထို့အတူပင် ဖြစ်သည်။

## မတရားသော စိတ်ကူးကလေး တစ်ချက်

ဤနေရာ၌ အများသိသော ရွှဲကုန်သည်အကြောင်း ဖော်ပြလိုပေသည်။ သူသည် အဖိုးတစ်သိန်းတန်သော ရွှေခွက်ကို တန်ရာတန်ကြေး မပေးလိုဘဲ မတရားလောဘ (အဘိဇ္ဈာ)ဖြင့် အလကား လိုချင်သောစိတ်၊ တန်ရာတန်ကြေး ပေး၍ ရသွားသော ဘုရားအလောင်းတော် ရွှဲကုန်သည်အား မနာလို= ဣဿာစိတ်များ နှလုံးတွင် တုန်ခါရိုက်ခတ်လာ၏။ နောက်ဆုံး မိမိ၏ အပြစ်ကို မမြင်ဘဲ စိတ်ကောင်းရှိသော ဘဝတူ ရွှဲကုန်သည်အပေါ် အကြီးအကျယ် ရန်ငြိုးဖွဲ့ လေတော့သည်။ မကျေနိုင် မချမ်းနိုင်သော အာဃာတ=ရန်ငြိုးစိတ်သည် နှလုံးအိမ်တွင် ဖွဲမီးလောင်သကဲ့သို့ မငြိမ်းနိုင်အောင်ရှိတော့သည်။

အဘိဇ္ဈာနှင့် ဣဿာကို အခြေခံသော ထိုအာဃာတစိတ် အပူလှိုင်းကြီးသည် ချက်ချင်းပင် သွေးအန်ကာ ရင်ကွဲနာကျအောင် လောင်မြိုက်စေ၏။ ထိုမျှဖြင့် အာဃာတ အပူလှိုင်းကား မရပ်သေး။ အဝီစိကျအောင် တွန်းပို့လိုက်သည်။

ထိုမျှဖြင့်လည်း မရပ်သေး။ အဝီစိမှ ပြန်လွတ်ပါသော်လည်း ဘဝပေါင်းများစွာ အလောင်းတော်အား မလွတ်တမ်း နှောင့်ယှက်သူအဖြစ် က,ပြရရှာသည်။

ထိုအာဃာတ အပူစိတ် လှိုင်းကြီးကား ထိုမျှဖြင့်လည်း အင်အားများ မချုပ်ငြိမ်းသေး။ အလောင်းတော် ဘုရားဖြစ်တော်မူသောအခါ ထိုရွှဲကုန်သည် မိုက်သည် အတုမရှိသော ဘုရားရှင်ကိုပင် အန်တုကာ ဒုက္ခအမျိုးမျိုးပေးသူ ရှင်ဒေဝဒတ် အဖြစ် ထိုအာဃာတ စိတ်ကပင် ပို့ဆောင်ဖန်တီးပေးခြင်း ခံယူရရှာတော့သည်။

ထိုအခါ ရှင်ဒေဝဒတ်သည် သံသရာတွင် အကြီးလေးဆုံး ၊အထိခိုက်ဆုံး၊

အနှစ်နာဆုံးသော အကုသိုလ်ကံကြီးများကို ဇက်ရဲလက်ရဲ လွယ်လွယ်ကူကူပင် ကျူးလွန်နိုင်တော့သည်။

- လောဟိတုပ္ပါဒကကံ (ဗုဒ္ဓဘုရားရှင်အား သွေးစိမ်းတည်စေခြင်း)၊
- သံဃ ဘေဒကကံ (သံဃာဂိုဏ်းခွဲခြင်း) စသည်များကို ကိုယ်တိုင် လုပ်၏။
- ပိတုဃာတကကံ (အဖေ သတ်မှုကြီးကို) သူတစ်ပါး (အဇာတသတ်) အား ကျူးလွန်ရန် တိုက်တွန်းစေခိုင်းသည်။

ရွံ့ကုန်သည်၏ ထိုအာဃာတ အပူလှိုင်းကြီးသည် ထိုမျှဖြင့်လည်း အင်အားများ မချုပ်ငြိမ်းသေး။

မချုပ်ငြိမ်းသည့်အပြင် ဆင့်ကာဆင့်ကာ တစ်သံသရာလုံး ခါတ်တူ ခါတ်ကူ အပူလှိုင်းများ အားဖြည့်၍ ဖြည့်၍ပေးလိုက်ပြန်၏။ ရှင်ဒေဝဒတ်အဖြစ် အဝီစိသို့ ခွင့်ရက်မမြင် နိဝင်ရရှာလေတော့သည်။ (လျှပ်တစ်ပြက် စိတ်ကလေး၏ စွမ်းအင်ကို ပုဂ္ဂိုလ်ထူးများစာအုပ် သထုံဇေတဝန်ဆရာတော်အခန်း၌လည်း အမြွက်မျှ ရေးခဲ့ပြီ။)

မြတ်စွာဘုရား ဟောကြားတော်မူခဲ့သော ပေတဝတ္ထု ပါဠိတော်လာ၊ သို့မဟုတ် ပြိတ္တာဘုံ၌ ရှိနေကြသော ပြိတ္တာတို့သည်လည်း ကမ္မာနှင့် ချင့်၍ ဆင်းရဲငတ်မွတ်စွာ နေကြရသည်မှာ အဆိုပါ အဘိဇ္ဈာလောဘနှင့် ဣဿာမစ္ဆေရ ခေါ် အကုသိုလ် အပူစိတ်လှိုင်းတို့ကြောင့်သာ ဖြစ်နေကြရပေသည်။

## အကုသိုလ် အပူလှိုင်းစက်ကွင်း

ရဟန္တာဖြစ်လောက်သော အလွန်အင်အားကြီးမားသည့် ကုသိုလ်ကံ စိတ်အင်အားကြီး လက်ဝယ်ထားရှိသူ 'လောသကတိဿ' သည် ပဋိသန္ဓေ တည်နေသည့်အချိန်မှစ၍ ပရိနိဗ္ဗာန် စံတော်မူရသည့်နေ့အထိ ဝလင်အောင် စားရ သောက်ရသောရက် မရှိခဲ့ချေ။ သူသာလျှင် ငတ်ပြတ်ဆင်းရဲသည် မဟုတ်၊ (အကုသိုလ် အပူလှိုင်းစက်ကွင်းမိကာ) သူ၏ မိဘများ နေထိုင်ရာ အိမ်ခြေတစ်ထောင်ရှိ ရွာကြီးတစ်ရွာလုံး ငတ်ပြတ်ခဲ့ကြရ၏။

လောသကတိဿသည် တစ်ခုသော ဘဝက ကျောင်းထိုင်ဘုန်းကြီးဖြစ်စဉ် မိမိကျောင်းသို့ ညအိပ် တည်းခိုလာသော ဘုန်းကြီးတစ်ပါးအား ဒကာက ဆွမ်းစားကြွလာလျှင် ပင့်ဖိတ်ခဲ့ရန် လျှောက်ထားသော်လည်း အာဂန္တုနှင့် မိမိဒကာ ရင်းနှီးသွားမည်၊ မိမိအတွက် အရနည်းသွားမည်ကို စိုးရိမ်သော လောဘကို အခြေခံ၍ ဝန်တိုမှု=မစ္ဆေရစိတ်ကလေး ဝင်လာသဖြင့် ဆွမ်းစားကြွခါနီးတွင် သက်ငယ်ချောင်းနှင့် ခေါင်းလောင်းထိုး၍ နှိုးပြီး ပင့်လိုက်သည်။

ထိုမစ္ဆေရ အပူလှိုင်းကို ရဟန္တာ ဖြစ်လောက်သော ၊ ဖြစ်နေသော ကုသိုလ်ကံကြီးကပင် မငတ်အောင် မချုပ်လွဲနိုင်ခဲ့ချေ။

ထို့ကြောင့် ကာယကံ ဝစီကံတို့ထက် မနောကံ (အဘိဇ္ဈာ၊ ဗျာပါဒ၊ မိစ္ဆာဒိဋ္ဌိ) စိတ်ထဲမှာ ဖြစ်နေမှုသည် အပြစ်အကြီးဆုံး၊ အင်အားအကြီးဆုံး ဖြစ်ကြောင်း (ဥပါလိသုတ်၌) ဟောတော်မူခြင်း ဖြစ်လေသည်။

၁။ သူတစ်ပါးပိုင် သက်ရှိသက်မဲ့များကို မတရားယူရန် ကြံစည်ခြင်း (အဘိဇ္ဈာ)၊

၂။ သူတစ်ပါး ပျက်စီးစေလိုခြင်း (ဗျာပါဒ)၊

၃။ အယူမှားခြင်း (မိစ္ဆာဒိဋ္ဌိ)၊

၄။ သူတစ်ပါးကောင်းစားတာ မနာလိုခြင်း (ဣဿာ)၊

၅။ မိမိဥစ္စာကို သူတစ်ပါးနှင့် ဆက်ဆံရမည်ကို ဝန်တိုခြင်း (မစ္ဆေရ)။

ထိုအကုသိုလ်များကား ခိုးယူတိုက်ခိုက်ခြင်း စသည်ကဲ့သို့ စားရသောက်ရပြီးမှ ခံရသော အကုသိုလ်များ မဟုတ်။ စိတ်ထဲဖြစ်ကာမျှဖြင့် (စိတ်ကူးရုံမျှဖြင့်) အလွန်အပြစ်ကြီးလေးသော အကုသိုလ် အပူလှိုင်းများ ဖြစ်ကုန်၏။

## တောတောင်ရေမြေတို့ပါ စက်ကွင်းမိခြင်း

လူသားတို့၏ ကောင်း၊မကောင်း စိတ်ဓာတ်လှိုင်းတို့သည် ဓာတ်ချင်းခိုက်ကာ သက်ရှိသတ္တဝါတို့ အပေါ်၌သာ စက်ကွင်းမိစေသည် မဟုတ်။ သက်မဲ့ဖြစ်သော သစ်ပင် တော တောင် ရေ မြေ သမုဒ္ဒရာ စကြဝဠာ တစ်ခုလုံးကိုပင် စက်ကွင်းမိစေ ဓာတ်ခိုက်စေလေသည်။ စက်ကွင်းမိစေ ဓာတ်ခိုက်စေသည်မှာ သာမန်မျှ မဟုတ်။

အဏုမြူဗုံးချ အဆိပ်ရည် ပက်ဖျန်းခံရသော နေရာ၌ မည်သည့်သစ်ပင်မျှ မပေါက်ရောက်နိုင်ခြင်းမှာ အလွန်ဆုံး အနှစ်နှစ်ဆယ်မျှလောက်သာ ဖြစ်၏။ ဒုစရိုက်စိတ်လှိုင်းတစ်ချက် ထိမှန်သောဒေသ၌ကား နှစ်ပေါင်းထောင်သောင်းချီ၍ ပျက်စီးသွားနိုင်လေသည်။

ဥပါလိသုတ်စသည်၌ ဟောတော်မူသော ဒဏ္ဍကီစသော မြို့ကြီးများ တောအတိဖြစ်ခဲ့ရသည်မှာ စိတ်ဓာတ်အပူလှိုင်းကြောင့်ပင်ဖြစ်သည်။ နောက်ဆုံးကမ္ဘာကြီး မီး၊ ရေ၊ လေကြောင့် ပျက်စီးပျောက်ကွယ်သွားရသည်မှာလည်း လူသားတို့၏ လောဘ၊ ဒေါသ၊ မောဟ အပူစိတ်လှိုင်းများကြောင့်သာဖြစ်၏။ ဒုဗ္ဘိက္ခန္တရကပ် (ငတ်မွတ်ဘေး)၊သတ္ထန္တရကပ် (စစ်–လက်နက်ဘေး)၊ ရောဂန္တရကပ် (အနာရောဂါဘေး)ကြီးများ နိုင်ငံနှင့်အဝန်း ကမ္ဘာနှင့်အဝန်း ကျရောက်လာသည်မှာ

လည်း ထိုအပူစိတ်များကြောင့်ဖြစ်သည်။ (တိက–အင်္ဂုတ္တိုရ်၊ ပလောကသုတ်၊ အရက္ခိတသုတ်၊ ဗျာပန္နသုတ်နှင့် သတ္တသူရိယသုတ်။)

စက္ကဝတ္တိသုတ် ပါဠိတော်အရ ခိုးမှု၊ သတ်မှု၊ လိမ်လည်မှု၊ လူကြီးမိဘ အရိုအသေတန်မှု စသော စိတ်ယုတ်စိတ်ရိုင်း အပူလှိုင်းများကြောင့် အသက်တမ်းတိုခြင်း၊ ရုပ်အဆင်း မလှခြင်း၊ ကမ္ဘာတစ်ခွင်လုံး ကသောင်းကနင်း ဖြစ်ပုံကို ပြဆိုခဲ့ပြီ။

## လူမိုက်များကို ရေမြေသစ်ပင်များက
## တော်လှန်ဒဏ်ခတ်ခြင်း

လူသားတို့၏စိတ်သည် သက်ရှိသတ္တဝါအချင်းချင်းတို့၌သာ ဓာတ်ခိုက်ကူးစက်သည် မဟုတ်၊ သက်မဲ့ဖြစ်သော တော တောင် သစ်ပင် ရေမြေ စသည်တို့၌လည်း ဓာတ်ခိုက်ကူးစက်ကြောင်း အလွန်ထင်ရှားလှပေသည်။

ထို့ကြောင့် ဓာတ်တော်များတွင် တောထဲ၌နေသော ရသေ့များ အကျင့်သီလ ရှိ–မရှိ ထိုရသေ့နေသော သခ်မ်းကျောင်းမှ သစ်ပင်များကို ကြည့်ရုံမျှဖြင့် သိနိုင်ကြောင်း ဟောတော်မူလေသည်။ တစ်နည်းအားဖြင့် သက်မဲ့ဖြစ်သော မြေ ရေ မိုးလေဝသ သစ်ပင်စသည်တို့ကပင် စိတ်ပူစိတ်ရိုင်းများ (လူမိုက်များ)ကို လက်မခံလိုကြ။ တုံ့ပြန်၍ တော်လှန်ဒဏ်ခတ်ကြလေသည်။

– တိကနိပါတ် ဂါမဏိစန္ဒဇာတ်၊
– စတ္တာလီသ တေသကုဏဇာတ်၊
– စတုက္ကရာဇောဝါဒဇာတ်တို့၌ လူတို့၏ ဒုစရိုက်စိတ်အပူများသည် မြေဆီ မြေသြဇာ သီးနှံများ ပျက်ပြားစေပုံမှအစ ကပ်ဆိုက်ပုံများကို အကျယ် ဟောပြတော်မူခဲ့လေသည်။

လူသားတို့က ကောင်းလျှင် မိုး လေ သစ်ပင်တို့ကလည်း ကောင်း၍ ပေးကြ၏။ လူသားတို့ မကောင်းလျှင် မိုး လေ သစ်ပင်တို့ကလည်း (အိုးရွဲ့ စလောင်းရွဲ့နှင့် ဖုံး ဆိုသကဲ့သို့) ကောင်းကျိုး မပေးကြကုန်။ တမာ၊ ခွေးတောက်၊ မယ်ဇလီ၊ ပိန်းဥ ၊မြားဆိပ်စသော သစ်ပင်တို့သည် လူသားတို့၏ စိတ်ကောင်းဆန္ဒနှင့် နီးစပ်ယဉ်ပါးလာကြသောအခါ စားလို့ရလောက်အောင်၊ အဆိပ်မသင့်နိုင်အောင် ယဉ်ပါးလာကြ၏။ ရေငန်တို့သည် ချို၍ ပေးလာကြ၏။ လူတို့က ပစ်ထားလျှင် အနေဝေးလျှင် ရိုင်းပြနေကြသည်။ သက်ရှိဖြစ်သော တိရစ္ဆာန်များမှာ ဆိုဖွယ်ရာ မရှိ။

(စရိယာပိဋက အဋ္ဌကထာ–၉၁) ၌ –"ဝေဿန္တရာမင်းကြီး၏ မေတ္တာအစွမ်း

ကြောင့် ပတ်ဝန်းကျင် သုံးယူဇနာအတွင်းရှိ တိရစ္ဆာန်များအားလုံး အချင်းချင်း မေတ္တာသက်ဝင် ယဉ်ပါးကြလေကုန်၏”ဟု ပြဆိုထားလေသည်။

ယခုအခါ သဘာဝအန္တရာယ်ဟု ခေါ်နေကြသော မိုးခေါင်ရေကြီးခြင်း၊ မုန်တိုင်းကျခြင်း စသည်တို့သည် (ဝဋ္ဋာဟကသံယုတ်စသော ပါဠိတော်များအရ) မိုးနတ်သား၊ လေနတ်သားတို့က လူသားတို့၏ ဒုစရိုက်စိတ်ရိုင်းများကို တုံ့ပြန် ဒဏ်ခတ်ခြင်းဖြစ်ကြောင်း (ဝါ) ဘယ်သူမပြု မိမိမှုသာလျှင်ဖြစ်ကြောင်း ထင်ရှားလှ၏။

လောကဥ္ဇ လူတို့သည် မိမိတို့ လုပ်သမျှ မည်သူမျှ မသိ၊ ပိရိလှပြီဟု အထင်ရောက်နေတတ်ကြ၏။ ‘ဒီလူဟာ စိတ်ကောင်းရှိတယ်၊ မရှိဘူး’ ဆိုသည်ကို လူလူချင်းနှင့် တိရစ္ဆာန်တို့သာမက သက်မဲ့ဖြစ်သော တောတောင် ရေမြေ သမုဒ္ဒရာ သစ်ပင်နှင့် သယံဇာတ ဓာတ်သတ္တု ရေနံ စသည်တို့ကပင် သိနေကြ ပေသည်။ ထို့ကြောင့် ဘုရားဟောတော်မူသော ‘အကုသိုလ်သည် ဆိတ်ကွယ်ရာ မရှိ’ ဆိုသည်မှာ ဤအကြောင်းများကြောင့် ဖြစ်လေသည်။

## အင်အားကို လူတိုင်း နားမလည်နိုင်

ကမ္ဘာလောကကြီးတစ်ခုလုံး ဒုစရိုက်အပူလှိုင်းများ နေရာတိုင်း ပျံ့လွင့် နေပြီဖြစ်သဖြင့် ပြုပြင်ပြောင်းလဲ၍ မရတော့ပြီ။ သို့မဟုတ် ‘မဖြစ်နိုင်တော့’ ဟုပင် ထင်ဖွယ်ရှိ၏။ ထိုသို့ကား မမှတ်ထင်သင့်ချေ။ သို့သော် ရေစုန်မျောရသည်မှာ လွယ်ကူသလောက် အဆန်လှော်ရသည်မှာ မလွယ်ကူလှ၊ အင်အားကိုသုံးမှ ရလေသည်။

မည်သို့ဖြစ်စေ အင်အားသာလျှင် ပဓာနဖြစ်၍ အစွမ်းထက်သည်ထက် ထက်သော အင်အားကို ပိုင်ဆိုင်ထားလျှင် အခက်အခဲဟူ၍ မရှိချေ။ ရှေး အခါက ရေပြင်၊ မြေပြင်တို့၌ ခရီးသွားလာကြရာ လူအား၊ တိရစ္ဆာန်အား မျှလောက်ကိုသာ အသုံးပြုခဲ့ကြရသဖြင့် ခရီး မတွင်။ ကျောက်မီးသွေး၊ ရေနံ၊ ဓာတ်ဆီ၊ လျှပ်စစ်အား များကို ရှာဖွေရရှိ၍ အသုံးပြုနိုင်လာသောအခါ ပို၍သက်သာ လျင်မြန်လာကြ၏။ ယခုအခါကား ဆိုဖွယ်ရာမရှိ။ အပ်နဖား တစ်ကော်မျှသာရှိသော ရေဒီယမ်သတ္တု၌ ကိန်းဝပ်နေသည့် စွမ်းအင်သည် ကျောက်မီးသွေးတန်ချိန် သုံးထောင်၌ ကိန်းဝပ် နေသော စွမ်းအင်နှင့် ညီမျှသည်ကို တွေ့ရှိလာရပြီဖြစ်ရာ ထိုစွမ်းအင်များဖြင့် အဆမတန် ကြီးမားလှသော စက်ရုံကြီးများ၊ ပင်လယ်ကူး သင်္ဘောကြီးများကို လည်ပတ် ခုတ်မောင်း လာနိုင်ကြသည်။

အနည်းငယ်ဆက်၍ ဆိုပါဦးအံ့။ နေထက် အဆပေါင်းများစွာကြီးမား သော ‘ပါလဆာ’ ခေါ် အရောင်မဲ့ ကြယ်သေကြီးများတွင် တစ်လက်မ ကုဗတစ်တုံးလျှင် သန်းတုန်ချိန် တစ်ထောင်ကျော် လေးလံ၍ သိပ်သည်းမှု

ဆွဲငင်အား အဆမတန် ကြီးမားလှ၏။ ကောင်းကင်၌ ရှိသော 'ဘက်လက်ခ်ဟိုးလ်' ခေါ် 'တွင်းမဲကြီး'များသည် ပါလဆာထက် ပို၍ လေးလံသိပ်သည်းကာ ဆွဲငင်အား ကြီးမားလေသည်။ သူ၏ ဆွဲအားစက်ကွင်းသို့ ရောက်လာသော အရာဝတ္ထုများကို မဆိုထားဘိ၊ အလင်းရောင်များပင် ပြန်၍ ထွက်မလာနိုင်တော့ချေ။

'အသေ'ဟုခေါ်သော ရုပ်လောက၌ပင် ထိုသို့ လူသာမန်တို့ မကြံဆနိုင်သော အင်အားများ ရှိနေကြသေးလျှင် လောကတွင် အင်အား အကြီးဆုံးဖြစ်သော စိတ်ဓာတ်အင်အားများတွင် လူသာမန်တို့ မယုံကြည်နိုင်လောက်သော အင်အားတို့သည် များစွာပင် ရှိနေကြပေသည်။ စိတ်ပိုင်းဆိုင်ရာ အင်အားများတွင်လည်း ထက်သည်ထက် ထက်၊ စွမ်းသည်ထက် စွမ်းသော အင်အားကို လေ့လာထုတ်ဖော်၍ သုံးစွဲနိုင်ရန်သာ အရေးကြီးလေသည်။ အင်အားကို လူတိုင်း မြင်ကြသည် မဟုတ်ချေ။

ပစ္စေကဗုဒ္ဓါ အရှင်မြတ်ကြီးသည်ပင်လျှင် ကိုယ့်အင်အားကို ကိုယ် မသိမြင်နိုင်၍ တိရစ္ဆာန်ဖြစ်သော ဥဒေါင်းမင်းကြီးက သစ္စာအင်အားကြီးမားပုံကို ပြောဆိုညွှန်ပြခဲ့ရဖူးလေပြီ။ (မောရပရိတ်။)

## ကောင်း ဆိုး စိတ်လှိုင်းအင်အား နှိုင်းယှဉ်ချက်

စိတ်ပိုင်းဆိုင်ရာ အင်အားတို့ကို အကြမ်းအားဖြင့် ခွဲပြလျှင် (အကုသိုလ် ဒုစရိုက်) အပူလှိုင်းနှင့် (ကုသိုလ်သုစရိုက်) အအေးလှိုင်းဟူ၍ နှစ်မျိုးသာလျှင် ရှိ၏။ အကုသိုလ်=အပူလှိုင်းသည် ကမ္ဘာကြီးကိုပင် ပျက်စီးစေနိုင်သည်အထိ အင်အားကြီးမားကြောင်း ပြခဲ့ပြီ။

အကုသိုလ် အပူလှိုင်း အင်အားကြီးမားသည် မှန်သော်လည်း ကုသိုလ် အအေးလှိုင်းနှင့်စာသော် ဘာမျှ မပြောပလောက်ချေ။ ဗုဒ္ဓအဘိဓမ္မာ အမြင်အရ ဆိုသော် အကုသိုလ်သည် 'ပဟာတဗ္ဗ=အပယ်ခံတရား' ဖြစ်၍ ကုသိုလ်သည် 'ပဟာယက=ပယ်တတ်သော လွှမ်းမိုး သတ်ဖြတ်နိုင်စွမ်းသော တရား' ဖြစ်ပေသည်။ ထိုကုသိုလ်သည်လည်း ကာမကုသိုလ်စိတ်၊ မဟဂ္ဂုတ် ကုသိုလ်စိတ်၊ လောကုတ္တရာ ကုသိုလ်စိတ် ဟူ၍ သုံးမျိုးရှိရာ ထိုသုံးမျိုးတွင် တစ်ခုထက်တစ်ခု သာလွန်၍ အင်အားကြီးမားကြလေသည်။

ကုသိုလ်တစ်စုံတစ်ခု ပြုလုပ်သူသည် မိမိကုသိုလ်ကို (ဆီမီးတစ်တိုင်မှ ဆီမီးကို အဆင့်ဆင့်ကူးသော်လည်း မကုန်နိုင်သကဲ့သို့) အခြားသူတို့အား ဝေပေးဝေ၍ မကုန်နိုင်ကြောင်း၊ ခိုးမှု၊ သတ်မှုစသော အကုသိုလ်ကိုမူကား တစ်ဆင့် ဝေလောက်အောင် အင်အားမရှိကြောင်း(မိလိန္ဒပဉှာ ပါဠိတော်–ပုဗ္ဗပေတာဒိသပဉှာ၌)

အရှင်နာဂသိန်က မိလိန္ဒမင်းကြီးအား ဥပမာအမျိုးမျိုးဖြင့် ဟောပြခဲ့ဖူးလေသည်။

"မင်းကြီး–အကုသိုလ်သည် အင်အားနည်း၏၊ ကုသိုလ်ကား အင်အားကြီးမား၏။ အကုသိုလ်သည် အင်အား နည်းသောကြောင့် ပြုလုပ်သူကိုသာ သိမ်းခြုံလွှမ်းမိုးနိုင်၏။ ကုသိုလ်ကား အင်အားကြီးမားသောကြောင့် (ပြုလုပ်သူသာမက) လူ့ပြည်၊ နတ်ပြည်၊ ဗြဟ္မာ့ပြည် တစ်လောကလုံးကိုပင် သိမ်းကျုံးလွှမ်းမိုးနိုင်ပေသည်။

"ကောင်းကင်မှ ကျလာသော မိုးရေတစ်ပေါက်သည် ထိုကျသော နေရာ၌ပင် ချုပ်ပျောက်သွား၏။ သဲသောင် ကုန်းမြေ ထူထပ်သော မြစ်ကောက်ကြီးထဲသို့ အညာမှ စီးဆင်းလာသော ရေအနည်းငယ်သည် ရောက်သောနေရာ၌သာလျှင် ခန်းစုပ် ချုပ်ပျောက်သွား၏။ ရှေ့သို့ဆက်၍ လွှမ်းမိုး စီးဆင်းသွားနိုင်အား မရှိချေ။ ထို့အတူ အကုသိုလ်စိတ် သည်လည်း ပြုလုပ်သူအားသာ ပူပန် လောင်ကျွမ်းစေ၏။ ညှိုးငယ်စေ၏။ တွန့်ဆုတ်စေ၏။ သတိရဆင်ခြင်လိုက်တိုင်း နောင်တ ပွားများ အားငယ်စေ၏။ တက်ကြွလန်းဆန်းကာ အင်အားတိုးတက်စေခြင်း မရှိ။

"သည်းထန်စွာ ရွာသွန်းသော မိုးကြီးသည်ကား မိုးရေပေါက် ကျရောက်သော နေရာ၌သာ မရပ်မတည် မချုပ်ပျောက်ဘဲ အင်းအိုင် ချောင်း မြောင်း ကန်အပေါင်းတို့သို့ စီးဝင်လွှမ်းမိုး၍ သွား၏။ ကုသိုလ် ပြုလုပ်သူမှာလည်း မိမိသာမက ပတ်ဝန်းကျင် (၃၁–ဘုံလုံး) ၌ ရွှင်မြူ ကြည်နူးသွားစေ၏။ နှစ်သက်ရွှင်လန်း ဝမ်းမြောက်၍ သွားစေ၏။ စိတ်အား ထက်သန် တက်ကြွစေ၏။ တစ်လောကလုံးကို ဖုံးလွှမ်း ခြုံမွှမ်းစေ၏။ နှစ်ပေါင်းများစွာ ဘဝဇာတ်ရာပတ်လုံး မိမိပြုလုပ်သော ကုသိုလ်ကို ဆင်ခြင် အောက်မေ့လိုက်တိုင်း ပီတိသောမနဿ လှိုင်းတို့သာဖြစ်၍ အသစ် အသစ် ပြုလုပ်နေရသကဲ့သို့ အမြဲတမ်း ရွှင်လန်းတက်ကြွနေရ၏။ အားသစ် တိုး၍တိုး၍သာ နေတော့၏။ စမ်းရေတွင်းသည် ထွက်ပေါက်ရှိနေစေကာမူ ကုန်ခန်းသည် မရှိ။ တစိမ့်စိမ့် တသွင်သွင် အလျဉ်မပြတ်နိုင်ကဲ့သို့ ဖြစ်သည်" ဟု အရှင်နာဂသိန် ဥပမာ ပေးတော်မူခဲ့လေသည်။"

## ၆၄–ကမ္ဘာပြေးသော မေတ္တာဓာတ်လှိုင်း

ကုသိုလ်အမျိုးမျိုးတွင် မေတ္တာကုသိုလ်ကား သမာဓိအားကောင်းလာလျှင် 'မဟဂ္ဂုတ်=မြတ်သော' ကုသိုလ်ဖြစ်သည်။

လောကီနယ်ပယ်၌ မေတ္တာလောက် အင်အားကြီးသော အင်အား မရှိ။

လောကကြီးကို ညီညွတ်အောင်၊ စိုပြည်အောင်၊ ချမ်းသာအောင် ပြုလုပ်ပေးနိုင်သည်မှာ မေတ္တာကုသိုလ်ကြီးသာလျှင် ဖြစ်၏။

လောကုတ္တရာ=လောကလွန်ဖြစ်သော မဂ်ကုသိုလ် အင်အားများကိုမူ ဆိုဖွယ်ရာမရှိ။ တစ်သံသရာလုံးက ပါလာသော စိတ်ညစ်စိတ်ဖြစ်များကိုပင် အမြစ်ပြတ်နုတ်ပစ်နိုင်၏။ 'ကုသလံ ကုသလံ ဖဟံ' ဆိုသည့်အတိုင်း ကုသိုလ် အကုသိုလ်အားလုံးကို အကြွင်းမဲ့ သုတ်သင်ရှင်းလင်းနိုင်၏။ အသခ်တ ဓာတ်ကြီး၏ အကူအညီကို ရသော လောကလွန် ကုသိုလ်အင်အားများသည် မီးခြစ်ဆံနှင့်တူ၏။ တစ်သံသရာလုံးက ကိန်းအောင်းပါလာသော အကုသိုလ်တို့သည် အမှိုက်ပုံကြီးနှင့် တူ၏။

လောကုတ္တရာ အင်အားရှိသော သူတော်ကောင်းကြီးများ၏ မေတ္တာကုသိုလ်ကြီးကား ဆိုဖွယ်ရာ မရှိပြီ။ ပကတိ စိတ်ဓာတ်အင်အားကြီးပင်လျှင် အလျင်အမြန်ဆုံး၊ အင်အားအကြီးဆုံး ဖြစ်နေပေရာ အဒေါသစေတသိက်ခေါ် မေတ္တာဓာတ်နှင့် တွဲစပ်လိုက်လျှင် မေတ္တာစိတ်ဓာတ်လှိုင်းကြီး၏ အင်အားသည် အနှစ်ရာထောင် သိန်းသန်းမျှဖြင့်လည်း အရှိန်အင်အား လျော့မသွားချေ။

တစ်ကမ္ဘာ နှစ်ကမ္ဘာမျှဖြင့်လည်း ချုပ်ငြိမ်း ရပ်တန့်သွားသည်မရှိ။

၆၄–ကမ္ဘာတိုင်တိုင် ရှင်သန်ကြီးထွား အားကောင်းလျက်ပင် တည်ရှိနေကြကြောင်း (ဇကာဒသက အင်္ဂုတ္တိုရ်ဋီကာ)၌ဘုရားရှင်၏ အာဘော်ကို ဖော်ပြထားလေသည်။ အာရဖွယ် ကောင်းလေစွ။ (အကျယ်ကို နောက်ပိုင်း နိကာယ်ကဏ္ဍ ၁၅–၌ ကြည့်ပါ။)

ကမ္ဘာ၌ ၄၀–တို့တွင် မည်သည့်ကမ္မဋ္ဌာန်းတွင်မျှ မေတ္တာကဲ့သို့ အကျိုးအာနိသင်မျိုးကို ဟောတော်မမူသည်မှာ အထက်ပါအကြောင်းများကြောင့် ဖြစ်ကြောင်း ကောင်းစွာ ရှုမြင်အပ်ပေသည်။

### ကမ္ဘာသစ်တည်မည့် စိတ်တစ်လုံး

ရင်ချိုင့်အလယ်တွင် လက်သီးဆုပ်ခန့် နှလုံးဖူးအိမ်အတွင်း၌ နှလုံးသွေးများသည် စမ်းရေအသွင် တစ်ကိုယ်လုံးသို့ ထုတ်လွှတ်ပေးနေ၏။

ထိုနှလုံးအိမ်၏ တုန်ခါမှုသည် တစ်မိနစ်လျှင် အကြိမ်ခုနစ်ဆယ်ခန့် လှုပ်ရှားနေလေသည်။

ဟဒယဝတ္ထုရုပ်သည် ထိုနှလုံးအိမ်၌ တည်ရှိကာ အင်အားကြီးမားလှသော မနောဝိညာဉ်ခေါ် ဘဝင်စိတ်သည်လည်း ပြိုးပြိုးပြက်ပြက် တလက်လက် တဝင်းဝင်း လင်းလင်းထ,အောင် တောက်ပလှုပ်ရှားနေ၏။

ထိုနှလုံးအိမ်မှ အဆက်မပြတ် ထုတ်လွှတ်နေသော မေတ္တာစိတ်ဓာတ် လှိုင်းကြီးကား အတိုင်းမသိသော စကြဝဠာတစ်ခွင်လုံးသို့ လွှမ်းဖုံးငြိမ်းအေးစေတော့သည်။

ဤကမ္ဘာလောကကြီးသည် ဒုစရိုက် အမှိုက်ပုံကြီးအလား မည်းမှောင်ဆိုးဝါးပျက်စီးနေပါစေ၊ မီးခြစ်ဆံပမာ မေတ္တာအင်အားကြီးကို ယုံယုံကြည်ကြည် (ရပ်ကွက်မြို့ရွာတိုင်းရှိ ဓမ္မာရုံတိုင်း သူတော်ကောင်းများ စုပေါင်းကာ) ပို့လွှတ်နိုင်ကြပါလျှင် ဤကမ္ဘာကြီးသည် နေ့ချင်းညချင်းပင် အံ့ဩလောက်အောင် ပြောင်းလဲသွားမည်မှာ ယုံမှားစရာ မရှိပါချေ။

အို–စာရှုသူ ဓမ္မမိတ်ဆွေ၊ လောကကြီးကား သင့်လက်ထဲ၌ ရှိနေ၏။ လောကကြီး၏ ကောင်းကျိုး ဆိုးပြစ်တွင် သင်လည်း တာဝန်မကင်းချေတကား။





# အခန်း (၆)

# ဗြဟ္မဝိဟာရ အဖွင့်

စတုတ္ထအကြိမ်

## လူလိုလူမှ လူထက်လူသို့

နှ ပရော ပရံ နိကုဗ္ဗေထ၊
နာတိမညေထ ကတ္ထစိ နံ့ ကံစိ။
ဗျာရောသနာ ပဋိဃသညာ၊
နာ' ညမည' ဿ ဒုက္ခ' မိစ္ဆေယျ။

အချင်းချင်း တစ်ယောက်နှင့်တစ်ယောက် မကောက်ကျစ် မစဉ်းလဲပါစေနှင့်၊ မည်သည့်နေရာ, မည်သည့်ကိစ္စ၌မဟူ သူတထူးကို လွှန်ကျူးနှိမ်ချကာ မထီမဲ့မြင် မပြုပါစေနှင့်။

ကိုယ်နှုတ်ဖြင့် ချုပ်ချယ်စောင်းမြောင်းခြင်း၊ ထိခိုက်ထိပါး ကျူးကျော်စော်ကားခြင်းတို့ဖြင့် တစ်ဦးနှင့်တစ်ဦး (အချင်းချင်း)၏ ဆင်းရဲဒုက္ခရောက်မှုကို မလိုလား မတောင့်တပါစေနှင့်။

**ဖြဟ္မဝိဟာရအဖွင့်**

- မေတ္တာရှေ့သွား အခြေခံ တစ်ဆယ့်ငါး
- စတင်၍ မေတ္တာမပွားပို့ရသူ
- မေတ္တာ၏ရန်စာတ်နှင့် မိတ်ဓာတ်
- ကောင်းကွက်ကလေးကို ရှာကြည့်
- ၅၂၈ သွယ် မေတ္တာပွားနည်း
- အပျော်တမ်း မေတ္တာ
- မေတ္တာစျာန်မှ ဝိပဿနာတက်ပုံ
- စျာန်အဘိညာဉ်ရနိုင်သော
  အရိယာခေတ်ကောင်းကြီး

**ဗြဟ္မဝိဟာရအဖွင့်**

'ဗြဟ္မ=ဗြဟ္မာတို့၏ + ဝိဟာရ=နေခြင်း၊

ဗြဟ္မ=မြတ်သော + ဝိဟာရ=နေခြင်း'

ဤကား ဗြဟ္မဝိဟာရ ဆိုသော ပါဠိဝေါဟာရ၏ ဆိုလိုရင်းဖြစ်၏။ မေတ္တာ၊ ကရုဏာ၊ မုဒိတာ၊ ဥပေက္ခာ ဗြဟ္မဝိဟာရတရား လေးပါးကိုပင် 'ဗြဟ္မစရိယ=မြတ်သောအကျင့်=ဗြဟ္မစိုရ်'ဟုလည်း (မာဟာဂေါဝိန္ဒသုတ်၌) ခေါ်ဆိုသည်။

အဘိဓမ္မာကျမ်းများ၌ 'အပ္ပမညာ=အတိုင်းအဆမရှိ ပွားများရသော= ကျယ်ပြန့်သော တရားလေးပါး' ဟု သုံးနှုန်းပြန်လေသည်။

"တိဋ္ဌံ စရံ နိသိန္နောဝ၊

သယာနော ယာဝတာ'ဿ ဝိတမိဒ္ဓေါ"

(မေတ္တာသုတ်)

ယင်းဗြဟ္မဝိဟာရတရားများကို လျောင်း, ထိုင်, ရပ်,သွား ဣရိယာပုတ် လေးပါးလုံး ကြိုက်သလို ပွားများပို့လွှတ်နိုင်၏။ သို့ရာတွင် ယင်းဗြဟ္မဝိဟာရ လေးမျိုးလုံး ကမ္မဋ္ဌာန်း ၄၀–၌ အပါအဝင်ဖြစ်၍ အခြားကမ္မဋ္ဌာန်းများနည်းတူ ပြုသင့်ပြုထိုက်သော ရှေ့ပြေးလုပ်ငန်း (ပရိကံ)များနှင့်တကွ တင်ပျဉ်ခွေ ထိုင်၍ ပွားများပို့လွှတ်ခြင်းသည် အကောင်းဆုံးဖြစ်၏။ အကောင်းဆုံး မတတ်နိုင်သည့် အခြေအနေမျိုးတွင်လည်း (ဝါ သွားရင်း,လာရင်း, လုပ်ရင်း, ကိုင်ရင်းလည်း)

ပွားများတတ်အောင် လေ့ကျင့်ထားရပေသည်။

## မေတ္တာရှေ့သွား အခြေခံ တစ်ဆယ့်ငါး

မေတ္တသုတ်ပါဠိတော်၌ မေတ္တာမပွားများမီ ကြိုတင်ပြည့်စုံထားရမည့် အခြေခံ တစ်ဆယ့်ငါးပါးကို ဟောတော်မူထား၏။

ယင်း ၁၅–ပါးမှာလည်း မေတ္တာဈာန်ကို အခြေခံ၍ အရဟတ္တဖိုလ်ရမည့် ရဟန်းငါးရာတို့အား ဟောကြားခဲ့ခြင်းဖြစ်၏။ ပါရမီဖြစ် စတင်လေ့ကျင့်သူများ အတွက်ကား ကြိုတင်ပြည့်စုံနှင့်ရန် မလွယ်ကူချေ။

ယခုအခါ တစ်ခုခုသော သမထဝိပဿနာ ကျင့်ကြံနေသူများအတွက်မှာမူ ပြည့်စုံရန် အခက်အခဲ မရှိလှပြီ။ မည်သို့ဖြစ်စေ တတ်နိုင်သမျှ ပြည့်စုံအောင် သိမှတ်လေ့ကျင့်ထားရပေလိမ့်မည်။ ပြည့်စုံသလောက် မေတ္တာဘာဝနာ ခရီးပေါက် လိမ့်မည်။

၁။ သက္ကော=ယခုလုပ်မည့် မေတ္တာကမ္မဋ္ဌာန်းစသော သီလ, သမာဓိ, ပညာ အလုပ်များကို စွမ်းစွမ်းတမန် လုပ်နိုင်သူဖြစ်ရမည်။ သဒ္ဓါ, ဆန္ဒ, ဝီရိယ ရှိသူဖြစ်ရမည်။

၂။ ဥဇု=မိမိ၌ မရှိသောဂုဏ်ကို ရှိဟန်ဆောင်မှု (သာဌေယျ)မရှိ ၊ ကိုယ်, နှုတ် ဖြောင့်မှန်ရမည်။

၃။ သုဟုဇု=မိမိအပြစ်ကို ဖုံးကွယ်၍ မရှိဟန်ဆောင်မှု (မာယာ) မရှိ၊ စိတ်ထဲကပါ ဖြောင့်မှန်နေရမည်။

၄။ သုဝစော=ဆုံးမ,လွယ်ကူသူ၊ နာခံတတ်သူဖြစ်ရမည်။ (အရှင် ရာဟုလာ ခုနစ်နှစ်အရွယ်က နံနက်တိုင်း သဲပုံပုံ၍ 'သဲပုံရှိ သဲလုံးနှင့်အမျှ အဆုံးအမ ရပါစေ' ဟုဆန္ဒဖြစ်ခဲ့သည်။)

မုဒု=အလုပ်ခွင်၌ ပျင်းရိဖင့်လေး တောင့်ခိုင်မှု မရှိ၊ နူးညံ့ ပေါ့သွက်နေရမည်။

၆။ အနတိမာနီ=ခြေသုတ်ပုဆိုး မြွေစွယ်ကျိုး ဆိုသည့်အတိုင်း အရှင် သာရိပုတ္တရာ မထေရ်ကြီးကဲ့သို့ အမြဲတမ်း မာန်ချထားရမည်။

၇။ သန္တုဿကော='သန္တုဋ္ဌီပရမံ ဓနံ=စီးပွားဥစ္စာဟူသည် ရောင့်ရဲ တင်းတိမ်မှုဖြင့် နှုတ်ခမ်းသတ်မှ ချမ်းသာ၏' ဆိုသည့်အတိုင်း ရသမျှ, တန်သမျှ, အခြေအနေ ပေးသမျှနှင့် ကျေနပ်မှုရှိရမည်။

၈။ သုဘရော=မွေးမြူလွယ်သူ(ဖိဓာမကြောင်သူ၊ မိမိနှင့်နီးစပ်သူများ အပေါ် မိမိတာဝန် မတက်စေသူ)ဖြစ်ရမည်။

၉။ အပ္ပကိစ္စော=ကြောင့်ကြစိုက်ရသည့် ဝေယျာဝစ္စ အလုပ်ပို၊ တာဝန်ပို မရှိစေရ၊ ကိစ္စ နည်းရမည်။

၁၀။ သလ္လဟုကဝုတ္တိ=အတောင်ပံသာလျှင် တာဝန်ရှိသော ငှက်ကဲ့သို့ ပေါ့ပေါ့ပါးပါး သွားလာနေထိုင်မှု လွယ်ကူသော အခြေအနေ ရှိရမည်။

၁၁။ သန္တိန္ဒြိယော=မြင်မှု, ကြားမှု, စားမှု စသော အာရုံ အဆိုးအကောင်းများနှင့် တွေ့ကြုံရသောအခါ ကိုယ်, နှုတ်, မျက်စိကြည့်ပုံ စသည် ယောက်ယက်မခတ်ရ၊ တည်တည်ငြိမ်ငြိမ် ရှိရမည်။

၁၂။ နိပကော=အရာရာ ဆင်ခြင်တိုင်းထွာတတ်သော အသိဉာဏ် ရင့်ကျက်မှု ရှိရမည်။

၁၃။ အပ္ပဂဗ္ဘော=ကိုယ်, နှုတ်, စိတ် ရိုင်းစိုင်းမှု မရှိစေရ၊ အရာရာ ယဉ်ကျေးသိမ်မွေ့ရမည်။

၁၄။ ကုလေသု အနနုဂိဒ္ဓေါ=မိသားစု (သို့မဟုတ်) ဒကာ,ဒကာမတို့ အပေါ်၌ လွန်လွန်မင်းမင်း တွယ်တာစွဲလမ်းခြင်း မရှိစေရ။

၁၅။ န စ ခုဒ္ဒမာစရေ ကိဉ္စိ=ပညာရှိ သူတော်ကောင်းများ ပြစ်တင်ရှုတ်ချစရာဆို၍ အနည်းငယ်မျှသော မကောင်းမှုကိုသော်မျှ မပြုလုပ်မိစေရ။

### နယ်ပယ်ခွဲခြားသတ်မှတ်မှု ပျက်ပြယ်ခြင်း

မေတ္တာဘာဝနာပွားများရန် ပုဂ္ဂိုလ်အားဖြင့် လေးဦးရှိသည်။ မိမိကိုယ်ကို သက်သေထားလျက် ကိုယ်ချင်းစာစိတ် ဖြစ်ပွားစေရန် ဦးစွာပွားများရ၏။ ပြီးမှ အခြားသတ္တဝါတို့အား ပွားများရသည်။

(၁) မိမိ၊

(၂) ချစ်မြတ်နိုးသူ၊

(၃) မချစ်မမုန်း=အလယ်အလတ်ဖြစ်သူနှင့်

(၄) မုန်းသူ=ရန်သူ ဟူ၍ လေးမျိုးလေးစားရှိ၏။

အချုပ်အားဖြင့် ပုဂ္ဂိုလ်အတန်းအစား လေးမျိုးဟု မိမိစိတ်ထဲက ပညတ်အားဖြင့် ခွဲခြား သတ်မှတ်ထားကြသည့်အတိုင်းပင်ဖြစ်သည်။

သတ္တဝါတိုင်း မိမိကိုယ်ကို အချစ်ဆုံးအရာထားကြ၏။ မိမိက လွဲလျှင်လည်း မိမိစိတ်ထဲတွင် ချစ်သူ၊ မုန်းသူ၊ မချစ်မမုန်းသောသူဟု ခွဲခြားသတ်မှတ်ထားလေ့ရှိကြရာ

အကျိုးစီးပွား ဖြစ်ထွန်းအောင် ဆောင်ရွက်ကြရာ၌လည်း ချစ်လျှင် ချစ်သလို၊ မုန်းလျှင် မုန်းသလို ခွဲခွဲခြားခြား လုပ်တတ်ကြ၏။ အညီအမျှ မဆက်ဆံ၊ မပြုလုပ်နိုင်ကြ။

စိတ်ကူးမျှ၌ပင် တန်းတူထားလိုစိတ် မရှိ။ ရင်းသည် ၊ ဖျားသည်၊ စိမ်းသည်၊ ကျက်သည်၊ ကျေးဇူးခံ ကျေးဇူးစား ရှိသည်၊ မရှိသည်ဟု ခွဲခြားသတ်မှတ်ထားကြ၏။ နယ်ပယ်ကန့်သတ်နေကြ၏။

ထိုစိတ်ထားသည် ဗြဟ္မဝိဟာရနှင့် ဆန့်ကျင်ဘက်ကြီး ဖြစ်၏။ ဗြဟ္မဝိဟာရ အလုပ်သည် ထိုဘက်လိုက် ခွဲခြားနေကြသော ခံယူချက် အမှားများကို ဖွပ်လျှော်ပေးခြင်းဖြစ်သည်။

ပရမတ်သစ္စာနယ် မဝင်မီ ပညတ်နယ်ကပင် အသိအမှန် အမြင်မှန်ကို တန်သလောက် ထူထောင်ပေးထားနှင့်ခြင်းဖြစ်သည်။

အခွံကိုမှ ကောင်းစွာ မခွာတတ်လျှင် အနှစ်အသားကို စားရန် ဝေးသေး၏။

ယောဂီသည် 'သီမာ' ဟုခေါ်သော ထိုစိတ်ထဲက ခွဲခြားမှုကို 'သမ္ဘေဒ' =ပျက်ပြယ်အောင် နှလုံးသွင်းနိုင်မှ မေတ္တာစစ်၊ မေတ္တာစျာန် ဖြစ်ပွားနိုင်လေသည်။

ဝိသုဒ္ဓိမဂ်၌ ထို သီမာသမ္ဘေဒ=နယ်ပယ်ခွဲခြား သတ်မှတ်မှု ပျက်ပြယ်အောင် စိတ်ထားပုံနှင့်စပ်၍ ဥပမာနှင့်တကွ ပြဆိုထား၏။

တစ်စုံတစ်ခုသော နေရာဒေသ၌ မိမိနှင့်အတူ မိမိ၏ချစ်သူ၊ မုန်းသူ၊ မချစ်မမုန်းဖြစ်သူ လူလေးဦး အတူတကွ နေထိုင်ကြသည် ဆိုပါစို့။ ထိုအခိုက် 'လူကိုသတ်ဖြတ်၍ ယဇ်နတ်ပူဇော်ရန် လေးယောက်ထဲက တစ်ယောက်ကို ယူရမည်' ဟုဆိုခဲ့သော် အဘယ်သူ့ကို ပေးရန် စိတ်ဆန္ဒရှိသနည်း။

ချစ်သူကိုလော၊ မုန်းသူကိုလော၊ မချစ်မမုန်း ဖြစ်သူကိုလော၊ သို့မဟုတ် မိမိကိုလော။

"သူတို့အသက် ချမ်းသာပေးပါ၊ ကျွန်ုပ်ကိုသာ သတ်၍ ယဇ်နတ်ပူဇော်ပါ" ဟု ဆိုလျှင်ပင် အခြား ရယူလိုသူ၊ ရယူခံလိုသူ ရှိကောင်းရှိနေဦးမည်ဖြစ်၍ ထိုသူ၏ အလိုဆန္ဒကို ကျော်လွန်ရာကျသဖြင့် မျှတသော စိတ်ထား မဖြစ်နိုင်သေးချေ။

'ယူလိုရာ ယူပါစေ' ဟုသာ အညီအမျှ သဘောထားရလေသည်။

ထို့အတူ သတ္တဝါအနန္တ တစ်လောကလုံးကိုလည်း လူပဲ၊ နတ်ပဲ မခွဲမခြား မိမိနှင့် တစ်သားတည်း၊ တစ်ထပ်တည်း ရှုမြင်တတ်ရလေသည်။

## ကိုယ်ပိုင်ကျေနပ်မှု ပေးနိုင်သည်အထိ

မေတ္တာဘာဝနာကို လက်တွေ့ပွားများ၍ အတော်အတန် အသားကျလာလျှင် 'သူက ဗမာပဲ၊ ကုလားပဲ၊ တရုတ်ပဲ' စသည်ဖြင့် လူမျိုးရေးခွဲခြားရှုမြင်မှု၊ ကိုယ့်သွေးသား၊ ကိုယ့်ဆွေမျိုး၊ ကိုယ့်နယ်သား၊ ကိုယ့်လူမျိုး၊ လူဖြူလူမည်း စသော ခွဲရေးအမြင်များ တဖြည်းဖြည်း ပြေပျောက်လာပါလိမ့်မည်။

ထို့အတူ ခွေး၊ ဝက်၊ ကြက်၊ ငှက် တိရစ္ဆာန်များအပေါ်၌လည်း 'ငါ့လိုပဲ ချမ်းသာလိုတဲ့ သတ္တဝါ တစ်ကောင်ပဲ' ဟု ကျေကျေနပ်နပ်ကြီး သိမြင်လာပါလိမ့်မည်။ နယ်ပယ်ခွဲခြား သတ်မှတ်မှုများ တစ်လွှာပြီးတစ်လွှာ ကွာကျသွားပါလိမ့်မည်။

'ပါဏာတိပါတ' စသော အဓိပ္ပာယ်များလည်း ပို၍ လေးနက်သက်ဝင် ကြည်လင်လာပါလိမ့်မည်။

ဘုရားစသော ရတနာသုံးပါး၏ ကျေးဇူးကြီးမားပုံ၊ လူဖြစ်ရကျိုးနပ်ပုံ၊ စသော ဝမ်းမြောက်စရာများလည်း တသီကြီး ဖြစ်ပေါ်လာပါလိမ့်ဦးမည်။

ထိုအခါ သင့်ကြောင့် အခြားသတ္တဝါတို့အပေါ်၌ စိုးရိမ်ကြောင့်ကျရမှု၊ မရှိတော့သကဲ့သို့ အခြားအခြားသော သတ္တဝါတို့ကြောင့်လည်း သင့်မှာ မည်သည့် အန္တရာယ်မျှ မရှိနိုင်တော့ကြောင်း ကိုယ်တိုင် တွေ့မြင်ခံစားနိုင်ပေတော့သည်။

ဘုရားဟောလို့သာ မျက်စိမှိတ် ယုံရသောအဖြစ်မျိုး မရှိတော့ပြီ။

အဋ္ဌသာလိနီ၊ ဝိသုဒ္ဓိမဂ် စသော ကျမ်းဂန်များအရ မေတ္တာအလုပ်သည်–

၁။ ဝိပဿနာသုခ=ဝိပဿနာအလုပ်အတွက် ချမ်းသာလွယ်ကူစေသော အထောက်အပံ့ကြီး၊

၂။ ဒိဋ္ဌဓမ္မသုခဝိဟာရ=လက်ငင်း ချမ်းချမ်းသာသာ နေရမှု လာဘ်ကြီး၊ (မေတ္တာအကျိုး ၁၁–ပါးရှု။)

၃။ ဘဝသမ္ပတ္တိ=ပစ္စုပ္ပန်၊ သံသရာ ချမ်းသာမြင့်မြတ်သော ဘဝကောင်း ရစေခြင်း၊

၄။ ပါရမိပူရိတ=အလောင်းတော်ကြီးများကဲ့သို့ ဒါနမှု၊ သီလမှု စသော သူတော်ကောင်းအလုပ်ကိစ္စ ပါရမီ မှန်သမျှ အလွယ်တကူ ပြီးမြောက်စေသည့်အပြင် တရားကောင်း မှန်သမျှ စီးဝင်လာကာ လိုရာ ဗောဓိဆုကြီးကိုပင် ချမ်းသာလွယ်ကူစွာ ပြည့်စုံပြီးမြောက်သွားစေနိုင်သည်ကို တွေ့ကြုံကြရပါလိမ့်မည်။ (မေတ္တာရှိက ဒါန, သီလ စသည် အခက်အခဲ မရှိနိုင်တော့ပုံကို ချဲ့ထွင်သိပါ။)

မေတ္တာထားတတ်လျှင် လောကီ, လောကုတ္တရာ လိုရာကိစ္စ အားလုံးပြီးတော့သည်။ အရာရာတွင် မိမိနှင့် တစ်ထပ်တည်း၊ တစ်ခုတည်း၊ တစ်သား

တည်းဖြစ်အောင် လေ့ကျင့်ပွားများကြရန်သာ လိုတော့သည်။

## စတင်မေတ္တာ မပွားရသူ

မေတ္တာနှင့်စပ်၍ ကြိုတင်သိထားသင့်သည်မှာ မေတ္တာစတင်၍ မပွားများသင့်သူ လေးဦးနှင့် မေတ္တာမပွားထိုက်သူ နှစ်ဦးအကြောင်းဖြစ်၏။

မေတ္တာဟူသည် ကိုယ်နှင့်ထပ်တူ အကျိုးစီးပွားရှိစေလိုခြင်း၊ ချမ်းသာကောင်းစားစေလိုသော စိတ်ထားရသည်ဖြစ်၍ အောက်ပါပုဂ္ဂိုလ်လေးမျိုးအပေါ် စလျှင်စချင်း ထိုစိတ်မျိုးထားရန် ခက်ခဲနေတတ်သည်။ ထို့ကြောင့် ထိုပုဂ္ဂိုလ်လေးဦးကို ဦးစွာ မပွားရ။ ကျင့်သားရပြီးနောက်မှ ပွားရသည်။

၁။ မုန်းသူ။ (မုန်းသူအပေါ် ပထမဆုံး ချမ်းသာကြီးပွားစေလိုသော စိတ်ထားရန် ခက်ခဲနေတတ်၏။)

၂။ အလွန်ချစ်သူ။ (အလွန်ချစ်သူ အပေါ်၌ တဏှာပေမ စိတ်များရင့်သန်ထားရှိရသဖြင့် ထိုသူ ဒုက္ခတွေ့လျှင် သောက, ဒေါသပင်ဖြစ်လာတတ်၏။ ပထမဆုံး ချစ်လွန်းသူကို ရွေးထုတ်၍ အလယ်အလတ် မျှတသော ချမ်းသာစေလိုသည့် (မေတ္တာစစ်စစ်)စိတ်ထားရန် မလွယ်။)

၃။ မချစ်မမုန်းသူ။ (ထိုအလယ်အလတ်ပုဂ္ဂိုလ်မျိုးကိုလည်း အကျိုးစီးပွား များပြားချမ်းသာစေလိုသော စိတ်ကို ပထမဆုံး ထပ်ကာထပ်ကာ ရှုပွားရန် ခက်ပြန်သည်။

၄။ ရန်သူ။ (ရန်သူကိုကား ပထမဆုံး မေတ္တာထားရန်ပင် မဆိုထားဘိ၊ မေတ္တာ၏ ဆန့်ကျင်ဘက် ဒေါသပင် ထွက်လာတတ်သည်။)

ထို့ကြောင့် ထိုလေးဦးကို ပထမဆုံး ရွေးထုတ်၍ မပွားများရ၊ အိမ်တစ်အိမ်ဆောက်ရာ၌ ပထမဆုံး အခြေခံ ပန့်ကျ တိုင်ထူမှုသည် အရေးကြီးသကဲ့သို့ မေတ္တာလုပ်ငန်း စတည်ရာ၌ မိမိမေတ္တာ ပွားပို့ရမည့်သူကို ရွေးချယ်တတ်ရမည်။

## ပွားပို့ရမည့်သူကို ကြိုတင်ရွေးချယ်

၁။ ပထမဆုံး ကိုယ်ချင်းစာစိတ် ထားတတ်ရန် မိမိကိုယ်ကို ဦးစွာပွား။

(၁) အဟံ အဝေရော ဟောမိ=ငါ ဘေးရန်ကင်းပါစေ၊ ကင်းရပါလို၏။

(၂) အဗျာပဇ္ဇော ဟောမိ=စိတ်ဆင်းရဲခြင်း ကင်းပါစေ။

(၃) အနိဃော ဟောမိ=ကိုယ်ဆင်းရဲခြင်း ကင်းပါစေ။

(၄) သုခီ အတ္တာနံ ပရိဟရာမိ=ချမ်းသာလွယ်ကူစွာ ခန္ဓာဝန်ကို ဆောင်နိုင်ရပါလို၏။ ဆောင်နိုင်ရပါစေ။

၂။ ပြီးလျှင် မိမိအပေါ် ကျေးဇူးကြီးမား လေးစားချစ်ခင်အပ်သော ဆရာသမားများ၊ (ယခုအခါ သာသနာ့ ကျက်သရေဆောင် တစ်တိုင်းပြည်လုံး၊ တစ်သာသနာလုံး အားထားရသော ဆရာသမားများ၊ ပုဂ္ဂလိက ဆရာသမားများ အားလုံး )နှင့် မိဘ ဘိုးဘွား၊ မိမိမျိုးရိုး၌ အသက်ထင်ရှားရှိသူ လူကြီးသူမများ။

၃။ ပြီးလျှင် ရပ်ရွာ နိုင်ငံ အကြီးအကဲများ။

၄။ ပြီးလျှင် မိမိနေသော အိမ်တွင်း၊ ကျောင်းတွင်း၊ ရွာ၊ မြို့၊ နိုင်ငံ၊ ကမ္ဘာ၊ စကြဝဠာ၊ အရပ်ရှစ်မျက်နှာ၊ စကြဝဠာ အနန္တတိုင်အောင် လူ, နတ်, ဗြဟ္မာ, သတ္တဝါအားလုံး ရဲ့၍ရဲ့၍ ဖြန့်၍ဖြန့်၍ ပွားပါ။

ပြဆိုပြီး ပထမဆုံး မပွားများရသည့် ပုဂ္ဂိုလ်လေးမျိုးကို နောက်မှ ပွားများရ၏။ သို့မဟုတ် အခြားပုဂ္ဂိုလ်များကို ဦးစွာပွားများပြီးလျှင် မေတ္တာစစ်၊ မေတ္တာမှန် ဖြစ်နိုင်လောက်သောအလှည့်ကျမှ ထည့်သွင်းပွားများပါ။

### ကုသိုလ်ဖြစ်လား၊ ဈာန်ရအောင်လား

**အထူးသတိပြုရန်မှာ**–ပါရမီကုသိုလ်ဖြစ် ပွားများလျှင် တစ်ခုပြီးတစ်ခု ဆက်၍ ပွားရမည်။ ဈာန်ရအောင် ပွားများလေ့ကျင့်သူဖြစ်လျှင် တစ်နံပါတ် ပုဂ္ဂိုလ်၌ ကျေညက်ပြီးမှ၊ (ဝါ) ဝိတက်, ဝိစာရ, ပီတိ, သုခ, ဧကဂ္ဂတာဈာန် အင်္ဂါတွေဖြစ်ပြီးမှ၊ ဈာန်ရပြီးသော အခြားနောက်တစ်ယောက်သို့ ရွှေ့ပြောင်းပွားများ ရသည်။

ရပ်ရွာအလိုက်၊ အရပ်ဒေသအလိုက် ပွားများရာ၌လည်း ထို့အတူ တစ်ခုနိုင်မှ အခြားတစ်ခုသို့ ကူးပြောင်း၍ ပွားများရသည်။

### သတ္တဝါတိုင်း သနားစရာ, ဝမ်းသာစရာချည်း

**ကရုဏာ**–ပွားမည်ဆိုလျှင်လည်း အထက်ပါနည်းကိုမှီ၍ ဆင်းရဲဒုက္ခ တွေ့ကြုံ နေရသူကို ဦးစွာ ပွားများရသည်။

**မုဒိတာ**လည်း ထို့အတူ၊ အရိယာပုဂ္ဂိုလ်ကြီး တစ်ပါးပါး၊ သို့မဟုတ် ပြည့်စုံကြွယ်ဝ ချမ်းသာနေသူကို ဦးစွာ ရွေးထုတ်၍ ပွားရသည်။ နောက်ကာလ တွင်ကား သတ္တဝါအားလုံးပင် သနားစရာအဖြစ်, ဝမ်းမြောက်စရာအဖြစ် တွေ့မြင် လာမည်။

(ဥပမာ–ကြွယ်ဝချမ်းသာနေသော်လည်း ဒုစရိုက် မကင်း၊ အို နာ သေဘေး အပါယ်ဘေး မကင်းသေး၍ သနားစရာကောင်းပုံ၊ နိဗ္ဗာန်ချမ်းသာကြီးကို အပြီးအပိုင် ရရှိနေသော ရဟန္တာပုဂ္ဂိုလ်ကြီးပင်လျှင် ခန္ဓာဝန်ဒုက္ခ ရှိနေပုံ ကရုဏာ ပွားနိုင်၏။ ငရဲသားများပင်လျှင် ဘုရားရဟန္တာများ ဖူးတွေ့ရသောအခါ ချမ်းသာခွင့်ကလေး ရရှိတတ်သကဲ့သို့ မည်မျှ ဆင်းရဲသူ ဖြစ်စေကာမူ ချမ်းသာခွင့်ကလေးများ အနည်းငယ် ရရှိတတ်ကြသဖြင့် သတ္တဝါတိုင်းအပေါ် မုဒိတာ ဖြစ်နိုင်ပုံကို သိမြင်လာမည်။)

## မေတ္တာ လုံးဝမပွားပို့ထိုက်သူ နှစ်ဦး

မေတ္တာလုံးဝ မပွားပို့ထိုက်သူ နှစ်ဦးရှိသည်။ နှစ်ဦးမှာ–

၁။ လိင်မတူ၊

၂။ ကွယ်လွန်ပြီးသူ၊

လိင်မတူသူတစ်ဦးအား ထပ်ကာထပ်ကာ မေတ္တာပွားလျှင် လောဘ–တဏှာ–ရာဂစိတ် ဝင်လာတတ်သဖြင့် လုံးဝ မေတ္တာမပွားရ။

သို့ရာတွင် ထိုစကားသည် ချာန်ရအောင် ပွားများသူများအတွက် ပြဆိုခြင်းဖြစ်၍ ပါရမီကုသိုလ်ဖြစ် ပွားများရာ၌ ပွားများနိုင်ပေလိမ့်မည်။ ယခုအခါ သက်တော်ထင်ရှားရှိသော ဆရာတော်ကြီးများအား မာတုဂါမများ မေတ္တာပွားပို့လျှင် အကျိုးများစွာ ရနိုင်၏။ ရာဂစိတ်ဖြစ်ဖွယ်မရှိလှ။ ရာဂစိတ် ဝင်နှောက်လာမည်ကို စိုး၍ တားမြစ်ခြင်းဖြစ်သည်။ ထိုစိတ် မဖြစ်နိုင်လျှင် ပွားပို့သင့်သည်ဟု ယူရမည်။

ကွယ်လွန်သူကား မိမိပို့လွှတ်သော မေတ္တာဓာတ်ကို မခံယူနိုင်တော့ပြီ။ အာရုံပြုရန် ထင်ရှားမရှိတော့သဖြင့် မေတ္တာအာရုံလည်း မဖြစ်နိုင်တော့ပြီ။ ထို့ကြောင့် သေသူများကို မေတ္တာ မပို့ရ၊ အမျှသာ ဝေရသည်။

## ဗြဟ္မဝိဟာရ၏ အနီးရန် အဝေးရန်

၁။ မေတ္တာ=ကြီးပွားချမ်းသာစေလိုသော စိတ်၊

၂။ ကရုဏာ=ဆင်းရဲမှ လွတ်ကင်းစေလိုသော စိတ်၊

၃။ မုဒိတာ=ချမ်းသာပြည့်စုံနေမှုအား ဝမ်းမြောက်နိုင်သော စိတ်၊ တရားနှင့် ပျော်မွေ့နိုင်သော စိတ်၊

၄။ ဥပေက္ခာ=လောဘ,ဒေါသ,ချစ်ခြင်း,မုန်းခြင်း မရှိ၊ ဘက်မလိုက် မျှတစွာ ကမ္မဿကတာ–'သူ့ကံနှင့်သူပဲ'ဟု ရှုမြင်နိုင်သောစိတ်။

သတ္တဝါတိုင်းအား ချမ်းသာစေလိုသော၊ ဆင်းရဲမှ လွတ်စေလိုသော၊

ချမ်းသာသည်ကို ဝမ်းသာနိုင်သော စိတ်ကား အလွန်မြင့်မြတ်လှ၏။ ထိုချမ်းသာစေလိုခြင်း၊ သနားခြင်း၊ ဝမ်းမြောက်ခြင်း ဖြစ်ရုံမျှဖြင့် ကုသိုလ်ရသော စိတ်မျိုးဖြစ်၏။ ထိုစိတ်မျိုး အထပ်ထပ်ဖြစ်ပေါ်စေရန် ပွား၍ ယူရခြင်းဖြစ်သည်။

သို့သော် ထိုစိတ်ထားကလေးများကား သိမ်မွေ့လှ၏။ ဆူးကြားသီးသော ဘူးကဲ့သို့ ဝဲယာအစွန်းနှစ်ဘက် အခက်အခဲရှိနေ၏။ အစွန်းနှစ်ဘက်လွတ်ကာ မဇ္ဈိမပဋိပဒါကျရန် အလွန်အရေးကြီးလှသည်။ မသိမသာ ဆင်တူရိုးမှား ဖြစ်နေသော သိမ်မွေ့သည့် အဖျက်အဆီးရန်သူကို 'အနီးရန်' ဟုခေါ်ရ၍ လုံးဝခြားနား၍ ကြမ်းတမ်းသော အဖျက်အစီးရန်သူကို 'အဝေးရန်' ဟု ဆိုရလေသည်။

အနီးအဝေး ရန်နှစ်မျိုးတွင် အနီးရန်မှာ ပို၍ ကြောက်ဖွယ်ကောင်း၏။ ဆင်တူယိုးမှား ပူးကပ်၍ သတ်တတ်သောကြောင့်တည်း။

### ၁။ မေတ္တာ၏ အနီးအဝေးရန်သူ

မေတ္တာကို ချစ်ခြင်းဟု သာမန်အားဖြင့် မြန်မာပြန်ကြ၏။ ချမ်းသာစေချင်သော အဓိပ္ပာယ် မပေါ်၊ တဏှာရာဂ ချစ်ခြင်း (မိသားစုအချစ်= ဂေဟာသိတပေမ) နှင့် ရောထွေး၏။ ထို့ကြောင့် တဏှာချစ် (ရာဂ)သည် မိတ်ဆွေဟန်ဆောင်သော ရန်သူကဲ့သို့ မေတ္တာ၏ အနီးရန်သူ မည်၏။

"မေတ္တာယနာမုခေန ရာဂေါ ဝဥ္စေတိ=

"တဏှာရာဂသည် မေတ္တာစစ် မေတ္တာမှန် အကျိုးစီးပွား လိုလားဟန်ဖြင့် လှည့်စားတတ်၏"ဟု နေတ္တိအဋ္ဌကထာ (ယုတ္တိဟာရဝိဘင်း-၉၀)၌ ပြဆိုသည်။

မိမိအကျိုးစီးပွားကို မျှော်၍ပွားသော မေတ္တာလည်း အကျုံးဝင်နိုင်၏။

ဒေါသ=ဗျာပါဒ=တစ်ဘက်သားအား အမျက်ထွက်ခြင်း၊ ပျက်စီးစေလိုခြင်းသည် မေတ္တာ၏ အဝေးရန်သူ မည်၏။ ထိုအစွန်းနှစ်ဘက်မှ လွတ်ထွက်အောင် ရှုပွားရသည်။

**မိမိအား ဒုက္ခ မပေးစေလို၍ စိုးရွံ့ကြောက်၍ ပွားသော မေတ္တာသည်လည်း အဝေးရန် (ဒေါသ) နယ်နိမိတ်မှ လွတ်ကင်းသော မေတ္တာစစ်ဟု မဆိုသာ။**

### ၂။ ကရုဏာ၏ အနီးအဝေးရန်သူ

လောကီအာရုံ (စီးပွား)များ မရခြင်း၊ ပျက်စီးခြင်းကို မြင်၍ စွဲလမ်းအောက်မေ့၍ နှလုံးမသာယာ ပူပန်ခြင်းကို ဒေါမနဿ=သောက ဟုခေါ်၏။ မိမိဘာသာ ထိုဒေါမနဿ, သောကဖြစ်၍ ဖြစ်စေ၊ ဒုက္ခ တစ်စုံတစ်ရာနှင့် တွေ့ကြုံနေရသူကို

မြင်ရသောအခါဖြစ်စေ အပူကူးစက်ကာ ပူပန်ကြောင့်ကြခြင်း၊ စိတ်နှလုံးမသာမယာ ဖြစ်ခြင်းသည် သနားသလိုလိုနှင့် သောက ဖြစ်နေတတ်၏။

သောက ဒေါမနဿ ဖြစ်နေသည်ကိုပင် ကရုဏာစိတ်ဟု ထင်မှား နေတတ်၏။

**"ကရုဏာယနာပတိရူပကေန သောကော ဝဍ္ဎတိ=သောကသည် သနားစိတ် ဟန်ဆောင်တတ်၏။"**

ထို့ကြောင့် သောကသည် ကရုဏာ၏ အနီးရန်သူဖြစ်၏။

**ကရုဏာဒေါသ**

တစ်ဖန် တစ်စုံတစ်ခု ဆင်းရဲဒုက္ခ ခံစားနေရသူကို မြင်လျှင် 'သေသွား တာကမှ ကောင်းသေးတယ်' ဟု စိတ်ဖြစ်တတ်၏။ ရဟန်းများ 'သေခြင်းကို ချီးကျူးမှု' ဖြင့် ပါရာဇိက ကျသည်အထိ ဖြစ်တတ်၏။

ခေတ်မီနိုင်ငံကြီးများ၌ သေလုနီးပါး ဝေဒနာ ခံစားနေရသူအား ဆေးထိုး၍ သေစေတတ်သည်ဟုဆိုကြရာ ကရုဏာဟန်ဆောင်သော လူသတ်မှုကြီးပင်တည်း။

တစ်စုံတစ်ယောက်က နှိပ်စက်၍ ခံရသော ဝေဒနာရှင်မျိုးကို တွေ့ရလျှင် ဝေဒနာရှင်ကို သနားသလောက် နှိပ်စက်သူအား ပြန်လက်စားချေ လိုစိတ် (ဝိဟိံသာ) ညှဉ်းဆဲလိုစိတ် ဝင်လာတတ်ပြန်သည်။

ယုတ်စွာ့အဆုံး ခွေးနှစ်ကောင် ကိုက်ရာ၌ ခံရသော ခွေးကို သနား၏။ နိုင်သောခွေးကို ရိုက်လို၏။ ကရုဏာမှ ဝိဟိံသာ ဟူသော ဒေါသကို ပေါက်ဖွား စေတတ်သည်။ ယင်းသို့ဖြစ်သည်ကိုပင် 'ကရုဏာ ဒေါသော' ဟု ကင်ပွန်းတပ်ကာ မြင့်မြတ်သောအကျိုးပြု ကုသိုလ်စိတ်ဖြစ်လေဟန် အပြစ်မရှိသကဲ့သို့ ထင်မှတ် ကြလေသည်။ အဆိပ်ကို သကြားဖုံးထားသော်လည်း အဆိပ်သည် အဆိပ်သာ လျှင်တည်း။ သကြား ဖြစ်မလာချေ။ အပြစ်မရှိ အကျိုးရှိသည်ထင်၍ အတင့်ရဲလျှင် ပို၍ပင် နစ်နာတတ်သည်။

ယခုအခါ အချို့သော နိုင်ငံကြီးများ၌ ဆင်းရဲသားများ၏ ဘဝဒုက္ခမျိုးစုံကို သနားလာအောင် စာပေ, ရုပ်ရှင် စသည်ဖြင့် ထုတ်ပြကြ၏။ ထိုသနားလာသော စိတ်ကို ကြွယ်ဝချမ်းသာသူများအား ဖျက်ဆီးတိုက်ခိုက်ရန် (ဝိဟိံသာ ဒေါသ ဣလသဘက်သို့) လမ်းလွှဲပေးနေကြသည်။ ညှဉ်းဆဲနှိပ်စက်လိုစိတ်သည် ကရုဏာ၏ အဝေးရန်သူ၊ ဆင့်ပွားရန်သူဖြစ်သည်။

### ၃။ မုဒိတာ အနီးအဝေးရန်သူ

မုဒိတာဟူသည် ဝမ်းမြောက်ရခြင်း ဖြစ်၏။ သူတစ်ဘက်သားတို့ ချမ်းသာပြည့်စုံမှုကို ကြားမြင်တွေ့သိရသောအခါ ဝမ်းမြောက်ဝမ်းသာ ဖြစ်နိုင်ခြင်းမှာ ပိုက်ဆံမကုန်ဘဲ ရသော ကုသိုလ်ကြီးဖြစ်သည်။

သို့ရာတွင် လောကီအာရုံ ကာမဂုဏ်နှင့် စပ်သော လာဘ်လာဘများကို ရှေးက မိမိရဖူး ပြည့်စုံခဲ့ဖူးသည်ကို ပြန်လည်အောက်မေ့၍ ရွှင်လန်းဝမ်းသာမိခြင်း၊ လောလောဆယ် ရရှိနေ၍ ရွှင်လန်းဝမ်းမြောက်မိခြင်းသည် မုဒိတာ မဟုတ်။ (ဂေဟဿိတသောမနဿ=ပဟာသ=)ကာမဂုဏ် ဝမ်းမြောက်ခြင်းမျှသာ ဖြစ်၏။ မုဒိတာ၏ အနီးရန်သူဖြစ်သည်။

> "မုဒိတာဝိဟာရပတိရူပေန ပဟာသော ဝဍ္ဎတိ=ကာမဂုဏ်ဖြင့် ပျော်ရွှင်ဝမ်းမြောက်ခြင်းသည် မုဒိတာဖြင့် နေထိုင်ရလေဟန် လှည့်စားတတ်သည်" (နေတ္တိ)။

သူတစ်ပါးတို့ (အလွန်အမင်းဖြစ်စေ၊ အထိုက်အလျောက်ဖြစ်စေ) စီးပွားဥစ္စာ ရာထူး ဂုဏ်သိန် ပြည့်စုံချမ်းသာနေသည်ကို မြင်သောအခါ 'သူတစ်ဘက်သား ကောင်းစားတာ ကိုယ့်မှာ မနာလို' ဆိုသည့်အတိုင်း မနာလိုမှု=ဣဿာစိတ် အဝင်မခံရ၊ မိမိ ရ,သကဲ့သို့ ဝမ်းသာနိုင်မှ မုဒိတာဖြစ်၏။

လူများစုကား ကရုဏာ ဖြစ်လွယ်သလောက် မုဒိတာ ဖြစ်ခဲ၏။

### ကြောက်စရာ မနာလိုစိတ်

'ချမ်းသာအောင် လုပ်ပါလျက် အဘယ့်ကြောင့် လူတို့ ဆင်းရဲ၍ချည်း နေကြရပါသနည်း' ဟု သိကြားမင်း အမေးကို ဘုရားရှင် ဖြေတော်မူရာ ထိုဣဿာ (မနာလိုမှု) နှင့် မစ္ဆေရ (ဝန်တိုမှု–နှမြောမှု)ကို ထောက်ပြတော်မူလေသည်။

ထိုဣဿာစိတ်သည် မျက်မှောက် ယခုဘဝ၌လည်း အခြွေအရံ မရှိ၊ ဆင်းရဲတတ်၍ သေလျှင် အပါယ်လေးပါးသို့ ပို့တတ်၏။ လူပြန်၍ ဖြစ်ဓိစေကာမူ အခြွေအရံ ဘုန်းကံ နည်းပါးသူ ဖြစ်ရတတ်ကြောင်း (ဥပရိ–စူဠကမ္မ ဝိဘင်္ဂသုတ်၌) ဟောတော်မူသည်။

"လက်ပြတ်နေသူ ရေဆာလို့မှ ရေခတ်ပေးမည့်သူ မရှိတာ ဒီဣဿာကြောင့်ပဲ" ဟု ယင်းအဋ္ဌကထာ ဆရာက ပြည့်စွက်မိန့်ဆိုတော်မူ၏။

မုဒိတာဖြစ်လျှင် ပိုက်ဆံမကုန်ဘဲ ကုသိုလ်ထူးကြီး ရသကဲ့သို့ မုဒိတာ ဖြစ်ရမည့်နေရာ၌ မုဒိတာ မဖြစ်စေဘဲ ဣဿာဖြစ်လျှင် မစားရ၊ မသောက်ရ၊

ငရဲကြီးလှသော အကုသိုလ်ကြီးပင်တည်း။

မုဒိတာ၏အဝေးရန်သူကား အရတိ=သူတစ်ပါးကောင်းစားတာ မမြင်လိုခြင်း၊ မနှစ်မြို့နိုင်ခြင်း ဖြစ်သည်ဟု (ဝိသုဒ္ဓိမဂ်၊ အဋ္ဌသာလိနီ တို့၌) ပြဆို၏။ 'အရတိ ဟူသည် ဣဿာ ပင်တည်း' ဟု တစ်ပိုင်းအားဖြင့် ယူသင့်လေသည်။ သို့သော် အရတိ၏ အဓိပ္ပာယ်ကား ထိုမျှမကသေးချေ။ သူတော်ကောင်းတရား၊ သူတော် ကောင်းအလုပ်တို့၌ ပျော်ရွှင်နှစ်ခြိုက်စွာ မနေနိုင်၊ မကျင့်သုံးနိုင်သည်ကိုလည်း အရတိဟုပင် ဆိုရ၍ သူတော်ကောင်းတရား၌ မပျော်ပိုက်နိုင်မှုကိုလည်း မုဒိတာ၏ အဝေးရန်သူဟု ဆိုလေသည်။

သူတော်ကောင်းတရား၌ နှစ်ခြိုက်ပျော်ရွှင်နိုင်မှသာလျှင်လည်း သူတစ်ပါး ကောင်းစားတာကို မနာလို မရှိ၊ အလွယ်တကူပင် နှစ်ခြိုက်ပျော်ရွှင်ဝမ်းသာစိတ် ဝင်နိုင်သောကြောင့် ယင်းသို့ ပြဆိုခြင်းဖြစ်သည်။(အဋ္ဌကထာ အဓိပ္ပာယ်များ ခက်ခဲလှ၏။)

### ၄။ ဥပေက္ခာ၏ အနီးအဝေးရန်သူ

ဥပေက္ခာ၏အဓိပ္ပာယ်မှာ လျစ်လျူရှုခြင်း ဖြစ်၏။ လောက ဝေါဟာရ အရေးမစိုက်ဘဲ စွန့်ပယ်ထားခြင်းမျိုး မဟုတ်။ ကံ, ကံ၏အကျိုးကို ဆင်ခြင်ကာ 'သူ့ကံနှင့်သူပဲ' ဟု တော်တည့်မှန်ကန်စွာ နှလုံးသွင်းဆင်ခြင်၍ စိတ်ဖြေရခြင်း ဖြစ်သည်။

ဥပမာ–သားသတ်ရုံသို့ ဆွဲငင်သွားသော တိရစ္ဆာန်ကို မြင်ရသောအခါ သနားစိတ် ဖြစ်သော်လည်း အသက်မသေစေရန် မည်သို့မျှ ကူညီခွင့် မရ။ ထိုအခါမျိုးတွင် ကမ္မဿကတာဉာဏ်အမြင်ဖြင့် ထိုသတ္တဝါ၏ ကံအကြောင်း ကိုသာ ဆင်ခြင်၍ နေရ၏။ သို့မှလည်း မှန်ကန်၍ စိတ်ချမ်းသာမှုကို ရနိုင် ပေမည်။

ဥပေက္ခာ၏ အနီးရန်သူကား မောဟ ဖြစ်၏။

ယင်းမောဟကိုပင် 'အညာဏုပေက္ခာ=အသိဉာဏ်ကင်းမဲ့သော လျစ်လျူရှုမှု' ဟုခေါ်သည်။ အရေးမစိုက် ဂရုမမူ နမော်နမဲ့နေခြင်းတို့ဖြစ်သည်။ သားဆိုးသမီးဆိုး များအား ဂရုမစိုက်ဘဲ ပစ်ထားခြင်းမျိုးကို 'ဥပေက္ခာထားလိုက်ပြီ' ဟု ပြောဆိုလေ့ ရှိကြရာ ဗြဟ္မဝိဟာရ ဥပေက္ခာ မဟုတ်၊ 'အညာဏ ပေက္ခာ'ဟုဆိုရလေသည်။ မိုက်မဲခြင်းပင်ဖြစ်၏။ ကုသိုလ်ရသော ဥပေက္ခာ မဟုတ်ချေ။ ထိုသို့ ဆင်တူရိုးမှား ရှိခြင်းကြောင့် အနီးရန်သူဟု ဆိုရလေသည်။

ထိုအညာဏုပေက္ခာမှာ ယောဂီများအတွက် အလွန်ထင်ရှား၏။ တိုက်ဆိုင်

လာသော အာရုံကို မသိလိုက်မှု၊ အာရုံ၏ အပြစ်ကို မသိမြင်မှု (မောဟ) ကိုပင် ခေါ်ခြင်းဖြစ်သည်။ ရုပ်ရှင်ကြည့်ရာ၌ မီးဆလိုက်များ အားလုံး ပိတ်လိုက်သောအခါ မှောင်ကျသွားသည်နှင့်တူ၏။

"ဥပေက္ခာဝိဟာရပတိရူပေန ကုသလေသု ဓမ္မေသု နိက္ခိတ္တဆန္ဒတာ ဝုစ္စတိ=

သူတော်ကောင်းတရား၌ စိတ်ပျက်လျှော့ချ၍ ပြုလုပ်ပွားများလိုသော ဆန္ဒ ကင်းမဲ့ခြင်းသည် ဥပေက္ခာဖြင့် နေလေဟန် ဆောင်တတ်သည်။"(နေတ္တိ)။

ဝေးသောရန်သူကား ဥပေက္ခာနှင့် တိုက်ရိုက်ဆန့်ကျင်သော ရာဂ၊ ဒေါသ နှစ်မျိုးပင်တည်း။

တွေ့ကြုံရသောသတ္တဝါ=အာရုံပေါ်၌ ချစ်မှု၊ မုန်းမှု မရှိစေရ၊ အချစ်, အမုန်းကြားမှ ကံတရားကို ဆင်ခြင်၍ (ချစ်မှု၊ မုန်းမှု)နှစ်ခုစလုံး ဘက်မလိုက်ဘဲ မျှမျှတတ နှလုံးသွင်းနိုင်မှုကို ဥပေက္ခာဗြဟ္မဝိဟာရခေါ်၏။

ဗြဟ္မစိုရ်တရားလေးပါးတို့တွင် အမြတ်ဆုံး အထွတ်အထိပ်ကျသော ဗြဟ္မစိုရ်တရားဖြစ်သည်။ 'ကြိုက်တာမြင်တော့ လောဘ၊ မကြိုက်တာ မြင်တော့ ဒေါသ' ဖြစ်လေ့ရှိသော လူတို့၌ ဥပေက္ခာ ဗြဟ္မာစိုရ်တရားဖြစ်ရန် မလွယ်ကူ လှချေ။

ရှေ့ဗြဟ္မစိုရ်တရားသုံးပါး ပွားများ၍ ပ-ဒု-တ-စ ဈာန်ရပြီးမှသာ ပဉ္စမဈာန်ခေါ် ဤဥပေက္ခာ ဗြဟ္မစိုရ်တရားကို ပွားများရလေသည်။

လက်တွေ့ရှုပွားမှသာလျှင် အနီးအဝေးရန်သူတို့၏ သဘောကို အတိအကျ အပြည့်အဝ နားလည်နိုင်ပေသည်။ ဈာန်မရသော်လည်း သင်္ခါရုပေက္ခာဉာဏ် ရောက်လျှင် သူ့သဘောကို ခန့်မှန်းနိုင်လေသည်။

## မေတ္တာ၏ ရန်ဓာတ်၊ မိတ်ဓာတ်

မေတ္တာ၏ အနီးရန်, အဝေးရန်ကို ပြခဲ့ပြီ။ ဒေါသသည် အဝေးရန် ဖြစ်သည်။ **မေတ္တာအလုပ်သည် ပဓာနအားဖြင့် ဒေါသကို ပယ်သတ်သော အလုပ်ဖြစ်၏။** ယင်းဒေါသကိုပင် ကျမ်းဂန်တို့၌ အမည်အမျိုးမျိုး ခေါ်ဝေါ်ကြသည်။

ကောပ=ကောဓ=အမျက်ထွက်ခြင်း၊ စိတ်ဆိုးခြင်း၊

ဗျာပါဒ=စိတ်ပျက်ခြင်း၊ သူတစ်ပါးအား ပျက်စီးစေလိုခြင်း၊

အာဃာတ=ဥပနာဟ=ရန်ငြိုးဖွဲ့ခြင်း၊ အမျက်သိုခြင်း စသည်ဖြင့် သုံးနှုန်းသည်။ ဒေါသကို စိတ်ဆိုးခြင်းဟု အများနားလည်ကြရာ စိတ်ကောင်းများကို ဖျက်ဆီးခြင်း

ပင်ဖြစ်၏။ ဒေါသစိတ် ဖြစ်ပေါ်နေလျှင် ထိုဒေါသဖြစ်သူကိုလည်း ဖျက်ဆီး၏။ သူတစ်ဖက်သားကိုလည်း ဖျက်ဆီး၏။ ထို့ကြောင့် 'ဒေါသဟူသည် မိမိ သူတစ်ပါး နှစ်ဦးသားလုံးကို ဖျက်ဆီးတတ်သော သဘော' ဟုပင် ယင်းအနက်ကို နားလည်ရန် လိုပေသည်။ (တစ်စုံတစ်ရာ ကြောက်လန့်ခြင်းလည်း ဒေါသပင်ဖြစ်၏။)

နှစ်ဦးသားလုံးကို ဖျက်ဆီးသည်ဆိုရာ၌ ပထမဆုံး ဒေါသဖြစ်သူကို ဖျက်ဆီး၏။ ပြီးမှ အခြားသူကို ဖျက်ဆီးလေသည်။ (မစင် ဥပမာ, မီးခဲ ဥပမာ ရှု။)

(၁) မေတ္တာပွားများမည့်သူသည် ဒေါသကို ပယ်သတ်ရသော အလုပ်ဖြစ်သည့်အတိုင်း ဒေါသ၏ အပြစ်များကို ကြိုတင်၍ ဆင်ခြင်ထားရသည်။ သို့မှသာလျှင် မေတ္တာပွားများသူ၌ အတွင်းရန်၊ အပြင်ရန်၊ အနီးရန်၊ အဝေးရန် ရန်တကာ ငြိမ်းအေးနိုင်၏။ ဖွဲမီးကဲ့သို့ တမြေ့မြေ့ ပူလောင်ရှို့မြိုက်တတ်သော အခဲမကျေမှု=ရန်ငြိုးများလည်း ပြေငြိမ်းလေတော့သည်။

(၂) သည်းခံခြင်း (ခန္တီ)၏ အကျိုးကျေးဇူး ကြီးမားပုံကိုလည်း ဆင်ခြင်ရ၏။ (နောက်၌ ပြမည်။)

## ရန်ငြိုးဖြေရာ မေတ္တာတိုက်ပွဲ

၁။ ရန်သူရှိလျှင် သို့မဟုတ် တနန့်နန့် တမြေ့မြေ့ စိတ်မကျေချမ်းဖွယ်ရာ ရန်ငြိုးဖွဲ့မိသူ ရှိနေလျှင် အလွန်ချစ်မြတ်နိုးသူ၊ မချစ်မမုန်း အလယ်အလတ်စား ရှိသူများအပေါ် မေတ္တာစျာန်စိတ် (အနည်းဆုံး ဥပစာရ သမာဓိ) ဖြစ်ပေါ်အောင် တစ်ဦးချင်း ပွားများနေရ၏။ ပြီးမှ ရန်သူကို ပွားရသည်။

အကယ်၍ မေတ္တာပွားနေဆဲ ဒေါသ အာဃာတစိတ် ဝင်နှောက်လာခဲ့လျှင် ရှေးပုဂ္ဂိုလ်များအပေါ် ပြန်၍ ပွားများရသည်။ မနိုင်လျှင် ရှေ့မတက်ရ၊ မိမိဒေါသကို မနိုင်မချင်း တိုက်ရသော မေတ္တာတိုက်ပွဲဖြစ်၏။

ဤနည်းဖြင့် မနိုင်နိုင်လျှင် အောက်ပါအတိုင်း ဆက်လက်ဆင်ခြင်ပါ။

## သင်–ဘုရားစကား နားထောင်သူလား

၂။ "လောကမှာလဲချမ်းသာ၊ သံသရာ လွတ်မြောက်မှုလည်း ရှာနေပါသည် ဆိုသော အို ယောဂီ၊ 'ခိုးသား ဓားပြ လူဆိုးများက အစွန်းနှစ်ဘက် အရိုးတပ်ထားသော ငါးမန်းစွယ်လွှဖြင့် တိုက်ဖြတ်ခံရသော်လည်း စိတ်မဆိုးရ၊ ထိုသူ့အပေါ်မှာ အမျက် မထွက်ရ၊ စိတ်ဆိုး စိတ်ပျက် အမျက်ထွက်သေးလျှင် ထိုယောဂီဟာ ငါဘုရားစကားကို နားထောင်သူ မဟုတ်တော့ဘူး' လို့ ဟောခဲ့တယ်

မဟုတ်လား၊ ဒါတင်မက–

### အရင်လူထက် နောက်လူမိုက်

၃။ ပထမ 'အမျက်ထွက်သူကို တုံ့ပြန်၍ အမျက်ထွက်လျှင် ပထမသူထက် ယုတ်မာတဲ့သူ ဖြစ်သွားပြီ။ တုံ့ပြန်အမျက်မထွက်ဘဲ သည်းခံနိုင်မှ အောင်နိုင်ခဲသော စစ်ပွဲ (ကိလေသာစစ်ပွဲ)ကို အောင်နိုင်မယ်' လို့လဲ ဟောတော်မူခဲ့တယ်။ အမျက်ထွက်တာ အကျိုးယုတ်မှန်း သင် မြင်နေရပါလျက် ထိုလမ်းစဉ်ကိုပဲ သင် ထပ်ပြီး လိုက်နေပြန်ပြီ။

### ပြည်သူ့အကျိုး ကိုယ့်အကျိုး

၄။ သူတစ်ပါး အမျက်ထွက်၍ လက်တွေ့ ဆင်းရဲပူပန်ရသည်ကို သိတဲ့သူဟာ အမျက်မထွက်ဘဲ ချက်ချင်းစိတ်ကို နိုင်အောင် ထိန်းလိုက်နိုင်လျှင် ငြိမ်းချမ်းစွာ နေရရုံမက တစ်ဘက်သားအကျိုးကိုပါ ကျင့်ဆောင်သည် မည်သတဲ့။ (မိမိ သူတစ်ပါး နှစ်ဦးသား အကျိုးရှိအောင် လုပ်လိုသူလို့ ခေါ်သတဲ့)။

### စိတ်ဆိုးလျှင် ရုပ်ဆိုး

၅။ အို.....ယောဂီ၊ ဒေါသထွက်နေတဲ့ လူဟာ (က) အရုပ်ဆိုးလာတယ်၊ (ခ) ချမ်းချမ်းသာသာ မအိပ်ရ၊ မနေရဘူး၊ (ဂ) အကျိုးစီးပွားလဲ ပျက်တယ်၊ (ဃ) စည်းစိမ်ဥစ္စာ ယုတ်လျော့တယ်၊ (င) မြွေဆိုးနား မကပ်ရဲသလို ဒေါသကြီးသူမှာ အခြွေအရံလဲ မရှိဘူး၊ (စ) မိတ်ကောင်းဆွေကောင်း မရှိဘူး၊ (ဆ) သေတဲ့နောက် သုဂတိဘဝကို မရ၊ အပါယ်လေးပါးသို့ ကျတတ်တယ်။

အို..... ယောဂီ၊ ဒါတွေဟာ သင့်ရန်သူက သင့်ကို ဖြစ်စေချင်နေတဲ့ဟာတွေချည်းပဲ၊ သင်ဟာ သင့်ရန်သူအကြိုက်ကိုချည်း လျှောက်ပြီး လုပ်နေသလို ဖြစ်နေပါပကောလား။ သင့်အပေါ် ရန်သူက လုပ်ရမယ့်အလုပ်တွေကို ရန်သူအကြိုက် သင့်ဟာသင် လိုက်ပါလုပ်နေရာ မရောက်ပါလား။

### ထင်းကုလားတုံး အသုံးမကျ

၆။ အို..... ယောဂီ၊ သူသေကောင် မီးဖုတ်ရာ၌ ထိုးဆွတဲ့ တံစူးဝါး ထင်းကုလားတုံးဟာ အိမ်ဆောက်ဖို့၊ မီးဆိုက်ဖို့၊ တောရွာအိမ်ပါ ဘာမှ အသုံးမဝင်တော့သလို အလိုရမ္မက်နှင့် အမျက်ဒေါသကြီးတဲ့ ယောဂီဟာ ကာမဂုဏ်ခံစားမှုကိုလဲ မရ၊ အကျင့်ဓမ္မလဲ ဆုံးရှုံး ထင်းကုလားတုံးပဲလို့လဲ ဟောတော်မူခဲ့တယ်။

အို.....ယောဂီ၊ သင်ဟာ ဘုရားစကားကို မလိုက်နာသူ၊ ပထမ ဒေါသ ထွက်သူထက် ပို၍ ယုတ်မာကာ အောင်ပွဲ မရသူ၊ ရန်သူအကြိုက် ခုရော နောင်ပါ ကိုယ့်ကိုယ်ကို နစ်နာဆုံးရှုံးအောင်လုပ်သူ၊ ထင်းကုလားတုံးလိုလူ ဖြစ်နေပြီ။"

ဤသို့ စသည်ဖြင့် ဘုရားဟောဒေသနာ စာပေကျမ်းဂန်အရလည်း ဆင်ခြင်၍ ဒေါသကို ရှောင်ကြဉ်ရ၏။ အရိယာ သူတော်ကောင်းကြီးများ ပြောဆိုဆုံးမချက်များကို အောက်မေ့၍လည်း ရှောင်ကြဉ်ရ၏။ ဤနေရာ၌ အရှင်သာရိပုတ္တရာ၏ ရန်ငြိုး ဖြေနည်းကိုလည်း မှတ်သားသင့်သည်။

## ကောင်းကွက်ကလေးကို ရှာကြည့် အရှင်သာရိပုတ္တရာ ရန်ငြိုးဖြေနည်း

၇။ ရန်ငြိုးဖြေဖျောက်နည်းနှင့်စပ်၍ အရှင်သာရိပုတ္တရာက ရဟန်းများကို ဟောကြားဖူး၏။ 'အင်္ဂုတ္တိုရ် ပဉ္စကနိပါတ် ဒုတိယ အာဃာတ ပဋိဝိနယသုတ်' ဟုခေါ်၏။ အတိုချုပ် ဆိုလိုချက်မှာ အောက်ပါအတိုင်း ဖြစ်သည်။

လောက၌ ရန်ငြိုးထားမိသော ပုဂ္ဂိုလ်ကို ငါးမျိုးငါးစား ခွဲခြား၍ ပုဂ္ဂိုလ်အလိုက် 'ဆိုးတာကို မေ့ဖျောက်လျက် ကောင်းကွက်ကလေးများကိုသာ ရှာကြံနှလုံးသွင်း၍ ဖြေဖျောက်ရသောနည်း' ဖြစ်သည်။ လူတိုင်း၌ အဆိုး ရှိသကဲ့သို့ အကောင်းကလေး များလည်း ရှိမြဲပင်။

(၁) အချို့ရန်သူမှာ ကိုယ်အမူအရာ ယုတ်သော်လည်း နှုတ် ကောင်း၏။ (ကာယကံ ဒုစရိုက် ပြုသော်လည်း ဝစီသုစရိုက် ကျင့်သူဖြစ်၏။) ပံ့သကူ အဝတ်စုတ်ကို သင်္ကန်းချုပ်ရန် ကောက်ယူသော ရဟန်းသည် အညစ်အထေး အဆွေးအမြည့်နေရာကို ဖြတ်ပယ်၍ အကောင်းကလေးများကိုသာ ရွေးချယ် ချုပ်စပ်ရသကဲ့သို့ ထိုသူ၏ ရိုင်းပြသော ကိုယ်အမူအကျင့်ကို မေ့ဖျောက်ကာ ဝစီကံ စင်ကြယ်မှုကိုသာ ကြည့်ရှုဝမ်းမြောက်၍နေရမည်။

(၂) နှုတ်ရိုင်း၍ ကိုယ်ယဉ်သူမျိုး အပေါ်၌လည်း ခရီးပန်း ရေဆာ နေသူအတွက် မှော်သေး မှော်မှိုက်များရှိသော ရေကန်ကိုတွေ့လျှင် မှော်ရေညှိ များကို ဖယ်ကာဖယ်ကာ ရေကိုသာ လက်ခုပ်ဖြင့် သောက်ရသကဲ့သို့ ကောင်းကွက် ကိုသာ ရှု၍ ဖြေဖျောက်ရမည်။ ('အပြောက သူ့ဝသီမို့ အပေါက်ဆိုးပေမယ့် သူ့လုပ်ဆောင်ချက်ကတော့ ကောင်းပါတယ်' စသည်။)

(၃) အချို့သူမှာ ကိုယ်ရောနှုတ်ပါ ရိုင်းပြသော်လည်း ထိုသူနှင့်စပ်၍ ရံခါ ဝိပဿနာ အခွင့်အလမ်းနှင့် စိတ်ချမ်းမြေ့မှုကို ရတတ်သော အလှည့် ရှိတတ်သေး၏။ ထိုသူမျိုးအပေါ်၌ နွေအခါ ခရီးပန်းရေဆာနေသူအတွက်

နွားခြေရာခွက်ထဲက ရေသည်ပင် အကျိုးပြုတတ်သကဲ့သို့ သဘောထားရသည်။ ထိုနွားခြေရာခွက်ထဲက ရေကို လက်ခုပ်ဖြင့်၊ ခွက်ဖြင့် ခပ်ယူလျှင် နောက်ကျုသွားနိုင်၏။ လေးဘက်ထောက်၍ သောက်တတ်ပါလျှင် မွတ်သိပ်မှု ပြေပျောက်နိုင်သကဲ့သို့ ထိုသူ၏ ကိုယ်နှုတ်ရိုင်းပြမှုကို မေ့ဖျောက်ကာ သူ့ကို အကြောင်းပြု၍ ရရှိသော ဝိပဿနာအခွင့်အလမ်းနှင့် စိတ်ချမ်းမြေ့မှုကလေးကိုသာ အာရုံပြုပြီး ကျေနပ်ရမည်။

(၄) ကိုယ်နှုတ်လည်း ရိုင်းပြ၊ နွားခြေရာခွက်ထဲက ရေလောက်မှ ကျေးဇူးမရှိ၊ ဝိပဿနာအခွင့်အလမ်းနှင့် စိတ်ချမ်းမြေ့ဖွယ်ရာ တစ်ကွက်မှ ရှာမတွေ့သော လူမျိုးလည်း ရှိပေသေး၏။

ထိုလူမျိုးအပေါ်၌ အနာရောဂါကြီး နှိပ်စက်၍ ကူဖော်လောင်ဖက် မရှိ၊ အစာရေစာ ဆေးဝါး မရှိ၊ ရွာဆက်ဝေးသော ခရီးအကြား ဒုက္ခကြီးစွာဖြင့် ခရီးသွားနေရသော လူ့ဒုက္ခိတကို မြင်တွေ့ရသောအခါ မိမိလည်း ဘာမှ မတတ်နိုင်၊ သနားစိတ်ကိုသာ မွေးမြူရသကဲ့သို့ 'ဒုစရိုက် ဖယ်ရှားကာ သုစရိုက်တရား ကျင့်ပွားနိုင်ပါစေ ၊ အပါယ်ငရဲလွတ်ပါစေ' ဟုသာ ကောင်း ကွက်ကို ရှာမရသဖြင့် ကရုဏာကိုသာ ပွားနေရမည်။

(၅) ကိုယ်နှုတ်ယဉ်ကျေး၊ ဝိပဿနာအခွင့်အရေးနှင့် စိတ်အေးချမ်းမှု ရသော ပုဂ္ဂိုလ်မျိုးအပေါ်၌ကား နွေအခါ ရေဆာ ခရီးပန်းသူ 'ရေကန်အသင့် ကြာအသင့်' တွေ့နေရသကဲ့သို့ အကောင်းတွေကိုချည်း ဆင်ခြင်အောက်မေ့ကာ ရန်ငြိုးကို လွယ်ကူစွာ ပြေပျောက်နိုင်ရမည်။

## ကံတရားကို ဆင်ခြင်၊ တရားကိုသော်လည်း ဖိ၍ရှု

၈။ အထက်ပါအတိုင်း ဆင်ခြင်၍မှ မပြေပျောက်သေးလျှင် ကံ၊ ကံ၏ အကျိုးကို ဆင်ခြင်ရမည်။

"အို.....ယောဂီ၊ သတ္တဝါ မှန်သမျှ ကိုယ်ပြုတဲ့ ကံတရားအတိုင်းသာ ခံကြ၊ စံကြရတယ်၊ သူက သင့်အပေါ်ပြုလို့ သင့်မှာ မခံရ၊ မစံရဘူး၊ သူ့ထိုက်နဲ့ သူ့ကံသာ ရှိပါစေ၊ အကုသိုလ်ဟာ အလွန်ကြောက်စရာ ကောင်းတယ်၊ သင်ဟာ ကံ၊ ကံ၏အကျိုးကို သိပါလျက် အလွန်တာဝန်ကြီးလှတဲ့ ဒေါသကြီးကို လက်မခံ သင့်ဘူး။

"သူတစ်ပါးကို နှိပ်စက်ပုတ်ခတ်ရန်၊ မီးကျီးခဲနှင့်မစင်ကို ကိုင်ယူမိတဲ့ သူဟာ သူတစ်ပါးကို မနှိပ်စက်ရခင် ပထမဆုံး မိမိမှာ ပူလောင် ညစ်ပေစေသလို ကိုယ့် ဒေါသကပဲ ကိုယ့်ကို အရင်ဆုံး ဒုက္ခပေးနေပြီ၊ လေအောက်ကနေပြီး လေညာက

လူကို သဲနဲ့ ဖုံနဲ့ပက်သလို မလုပ်သင့်ဘူး။"

ဤသို့စသည်ဖြင့် ဒေါသ၏ အပြစ်များကို ကြားနာဖတ်ရှုဖူးသမျှ၊ တွေ့မြင်ဖူးသမျှ ဆင်ခြင်၍ ဒေါသမထွက်မိအောင် စိတ်ကိုထိန်းနိုင်ရ၏။ လေ့ကျင့်ရ၏။ ဒေါသဖြစ်စရာကို ရှောင်တန် ရှောင်သွားရ၏။

တစ်စုံတစ်ခုသော တရားလေ့ကျင့်နည်း လက်ကိုင်ရှိလျှင်ကား အလွယ်တကူပင် ကျော်လွှန်အောင် ရှုမှတ်ပစ်ရလေသည်။ ယောဂီများအတွက် မခက်ခဲတတ်။ ထို့ကြောင့် ကမ္မဋ္ဌာန်းရှုပွားနေသော ယောဂီများ မေတ္တာကို လေ့ကျင့်လျှင် ပို၍ လွယ်ကူထမြောက် ခရီးပေါက်မြန်ကြလေသည်။

### အရွှံးပေးမှ အနိုင်ရ

မေတ္တာလေ့ကျက်သူအတွက် စတင်လေ့ကျက်စတွင် မေတ္တာ၏ ဆန့်ကျင်ဘက် ဒေါသထွက်စရာ ဖြစ်ရပ်ကလေးများက ကြိုကြိုဖန်ဖန် ထိပ်တိုက် ဝင်လာတတ်သည်ကိုလည်း သတိနှင့် စောင့်ကြည့်၍ လက်နက်ကို တစ်ခုပြီးတစ်ခု အဆင်သင့် ပြင်ဆင်ထားရသည်။

မေတ္တာပွားသူသည် ဒေါသ၏အပြစ်ကို ဆင်ခြင်ရသကဲ့သို့ (အဘိဓမ္မာအရ မေတ္တာနှင့် အဒေါသချင်း တူညီသော) ခန္တီ=သည်းခံခြင်း၏ အကျိုးကျေးဇူးကိုလည်း 'နှလုံးသွင်းထားရမည်' ဟု မိန့်မှာကြားသည့်အတိုင်း မည်သည့် လက်နက်နှင့်မှ ခုခံ၍ မရသည့်အဆုံး ခန္တီတံတိုင်းကြီး ခတ်ကာ ကြံ့ကြံ့ခံရလေသည်။ ခန္တီသည် မေတ္တာ၏ မိတ်ဓာတ်ဖြစ်၏။ အကောင်းဆုံးသော ခံတပ်ကြီး၊ စစ်တပ်ကြီးပင်ဖြစ်သည်။ (ခန္တီဗလံ ဗလာနီကံ)။

**ခန္တီ အကူအညီရသော မေတ္တာ၌ မအောင်မြင်သောပွဲ ဟူ၍ မရှိ စကောင်းပေ။**

လူတို့သည် အလွန်ပင် လောဘ, ဒေါသကြီးကြကုန်၏။ 'မိုးကလဲ ရွာနိုင်ရန်ကော၊ နေကလဲ ပူနိုင်ရန်ကော'ဟု အခြောက်တိုက် မဆင်မခြင် စိတ်ဆိုးလွယ်ကြ၊ အပြစ်တင် လွယ်ကြ၏၊ အဋ္ဌာနကောပ–အရာမဟုတ်သည်၌ အမျက်ထွက်ခြင်း– အဓိပ္ပာယ်မရှိ စိတ်ဆိုးစိတ်ပျက်ခြင်း' ဟုခေါ်သည်။ ယုတ်စွာ့အဆုံး မတော်တဆ ခလုတ်ထိ ခေါင်းတိုက်မိသည်ကိုပင် စိတ်တို၏။ 'တိုက်ဦးဟာ–တိုက်ဦးဟာ' ဟု ကြိမ်းဝါးကာ အနာခံလျက် ထပ်၍ တိုက်သည်အထိ မိုက်မဲကြ၏။

ထိုလူရိုင်းကြီးများအတွက် မေတ္တာနှင့်ခန္တီတရားသည် ဆန့်ကျင်လှပေ၏။ ယုံပင် မယုံနိုင်ရှာကြ၊ " ဘုရားရဟန္တာများမှသာ ဖြစ်တာပါ၊ တို့လိုလူတွေ ခန္တီ သုံးရင် နင်းပြားဖြစ်သွားရုံ ရှိတော့မပေါ့" ဟုထင်နေကြရှာ၏။ လူတို့သည်

အရာရာတွင်-အနိုင်ယူလေ့ရှိကြရာ ခန္တီ=သည်းခံခြင်းကား ဘာပဲဖြစ်ဖြစ် အရှုံးပေးရခြင်းဖြစ်၍ ဘဝင်မကျနိုင်လေ။

အရှုံးပေးမှ (မမြင်ရသော–မရေတွက်နိုင်သော) အမြတ်များ ရ,လာသည်ကို မည်သို့မျှ မသိမမြင်နိုင်ကြပေ။

## မဟုတ်ရင် မခံဘူးကွ

ဟုတ်တာပြောတော့ "ပြောရကောင်းလား" စိတ်ဆိုး၏။ မဟုတ်တာပြောပြန်လျှင်လည်း "မဟုတ်ဘဲ ပြောရမည်လား" စိတ်ဆိုးပြန်၏။ အဘယ်မှာ ခန္တီတရားကြီး၏ အရသာကို ခံစားရမည်နည်း။ "ကျုပ်က မဟုတ်တာလုပ်ရင် မခံဘူး"ဟုဆိုကာ တကယ့်အမှန်ကျင့်သူကြီးအဖြစ် ဟန်ဆောင်ကြရ ပြန်လေသည်။

ဘုရားစသော အရိယာ သူတော်ကောင်းကြီးများ၌ အံ့ဩဖွယ် ကျေးဇူးဂုဏ် တန်ခိုးသတ္တိများ ရရှိနေကြသည်မှာ ခန္တီကြောင့်သာလျှင်ဖြစ်သည်။ သို့ရာတွင် တမင်အောင့်အည်း၍ သည်းခံရရိုး မရှိ။ ကောင်းဆိုးအာရုံကို အလိုလိုပင် ခံနိုင်ရည် ရှိနေတော်မူကြ၏။ အရိယဝံ့ဒ္ဓိ='အရိယာတို့တန်ခိုး' ဟုခေါ်သည်။

အရိယာအင်အား မရှိသေးစေကာမူ မေတ္တာခန္တီ ပါရမီအားများကို လေ့ကျင့်ရရှိထားပါမူလျှင် အရိယာ သူတော်ကောင်းကြီးများပမာ အံ့ဩလောက်သည့် ကျေးဇူးဂုဏ် တန်ခိုးသတ္တိများ ရရှိမှန်းမသိ ရရှိပိုင်ဆိုင် နေသူဖြစ်ကြောင်း အရေးကြုံက ကိုယ်တိုင် သိမြင်လာရပါလိမ့်မည်။

## အနည်းဆုံး ရှုံးသလောက် မြတ်မည်

ဆင်ခြေ မတက်နှင့်၊ မသိသေးလျှင် သိအောင်လုပ်၊ ကျေနပ်အောင် လေ့လာ၊ လက်တွေ့လိုက်နာ၍ အကြွင်းမဲ့ ခြွင်းချက်မရှိ ယုံကြည်နိုင်သူ ဖြစ်အောင်သာ ကြိုးစားကြရပေလိမ့်မည်။ ခန္တီမေတ္တာစသော သူတော်ကောင်းတရားများသည် လောကုတ္တရာလွန် အင်အားများဖြစ်၍ မျက်စိတစ်ဆုံး လောကအမြင်ဖြင့် မကြည့်ရ၊ ယာယီ အမှန်တရားများနှင့်လည်း မတိုင်းတာရ။

"ကောင်းသည်ဖြစ်စေ၊ ဆိုးသည်ဖြစ်စေ၊ မှားသည်ဖြစ်စေ၊ မှန်သည်ဖြစ်စေ သည်းခံ။ ဒါ ဘုရားရှင်တိုင်း၏ ဩဝါဒ၊ အရှုံးပေးမှ အနိုင်ရသည်ကို လက်တွေ့စမ်းကြည့်မှ သိမယ်"ဟု မိမိကိုယ်တိုင် အားပေး၍ လေ့ကျင့်ရာ၏။

"ငါ့မှာ ဤရွေ့ဤမျှ ဆုံးရှုံးနစ်နာသွားတော့မှာပဲ" ဟု ဆန့်ငင်ဆွဲသော စိတ်မဖြစ်ရ။ အရှုံးပေးခြင်းဖြင့် ရရှိလာနိုင်သော အမြတ်များကို လူသာမန်တို့ မမြင်နိုင်။

စွန့်လွှတ်နိုင်သလောက်၊ အရှုံးပေးနိုင်သလောက် အတိုင်းမသိသော အင်အားများ တိုးတက်လာကာ (အရိယာ မဟုတ်သေးစေကာမူ) မေတ္တာခန္တီကိုသာ နိုင်နင်းလာပါက အရိယာများနှင့် ထပ်တူနီးပါး တန်ခိုးသတ္တိ၊ ချမ်းသာမှု အစီးအပွားများ ရရှိလာမည်ကို အကြွင်းမဲ့ ယုံကြည်အပ်၏။

**"သည်းခံမှ နိဗ္ဗာန်ရသည်" ဆိုသော စကားမှာ ပိဋကတ်သုံးပုံကို မြှင့်မိသော စကားဖြစ်လေသည်။**

အကယ်၍ ဖြေရှင်းမှ ပြီးမည့်ကိစ္စ၊ သို့မဟုတ် ဖြေရှင်းလို့ရမည့် ကိစ္စဖြစ်လျှင် နှစ်ဦးနှစ်ဝ ဒေါသပြေငြိမ်းလောက်သောအခါ အခြေအနေကို ကြည့်ပြီးမှ ချောင်ဖွာ မေတ္တာဖြင့် ပြောဆိုဖြေရှင်းရပေသည်။

## အဓိဝါသန ခန္တီ

သည်းခံခြင်းကို အဓိဝါသနခန္တီဟုခေါ်၏၊ 'အဓိ=မိမိအပေါ်၌၊ ဝါသန= တည်နေစေခြင်း'၊ သူတစ်ပါး ဆဲရေးရိုက်ပုတ်ခြင်းပြုလျှင် ပြန်လှန်၍ ဆဲရေးခြင်း၊ ရိုက်ပုတ်ခြင်း မပြုဘဲ ခေါင်းငုံ့၍ ခံယူသည်ဟု ဆိုလို၏။

လူလူချင်း ဆဲရေးရိုက်ပုတ်သည်ကိုသာမက ပူမှု၊ အေးမှု၊ မှက်၊ခြင်၊ယင် အကောင်းအဆိုး လောကဓံ အစစအရာရာ သည်းခံရခြင်းသည်လည်း အဓိဝါသန ခန္တီပင်ဖြစ်၍ ထိုသို့ သည်းခံရကြောင်း (မူလပဏ္ဏာသ၊ ကောသမ္ဗိယသုတ်၌) ဟောတော်မူခဲ့လေသည်။

ကြည့်ချင်တိုင်း မကြည့်ရ၊ စားချင်တိုင်း မစားရ စသော အာရုံခြောက်ပါး အပေါ်၌လည်း အနုစိတ် သည်းခံနိုင်ရည်ရှိအောင် သတိပဋ္ဌာန်တရားကို ရှုပွားကြရ လေသည်။

အဓိဝါသနခန္တီ=အည့်ခံ ခေါင်းထိုး၍ ခံသော်လည်း မိမိသန္တာန်၌ ခန္တီ ဟူသော သူတော်ကောင်းတရားကြီးက ရပ်တည်နေရာယူထားသဖြင့် ဒေါသ၊ ဒေါမနဿစသော အယုတ်တရားများကား ရပ်တည်ခွင့် မရ၊ ပြုလုပ်သူ အပေါ်၌သာ ပြန်၍ ကျသွားတတ်၏။ တုံ့ပြန်လျှင် နှစ်ဦးနှစ်ဝ ခံကြရသည်။

ဘုရားရှင်ကား ဆဲရေးကြိမ်းမောင်းသူ 'အက္ကောသကဘာရဒွါဇ' ခေါ် ပုဏ္ဏားတစ်ဦးအား 'သင့်အိမ်မှာ ဧည့်သည်လာလို့ တည်ခင်းကျွေးမွေးတဲ့အခါ ဧည့်သည်က မစားမသုံးဘဲ ချန်ထားလျှင် အိမ်ရှင်ပဲ ယူရသကဲ့သို့ သင့်ဆဲရေးခြင်း ကို ငါ လက်မခံ' ဟု မိန့်တော်မူသည်ကို သတိပြု၍ 'အဓိဝါသန' ခံယူခြင်း ဟူသည် သူတော်ကောင်းတရားကို ခံယူခြင်းဟု နားလည်သင့်၏။ ကောင်းဓာတ်ခံ ရှိနေလျှင် အဆိုးဓာတ်များ မဝင်သာတော့ချေ။

## ရှေးထုံးစဉ်လာ အရိုးခံ တရားကြီး

(၁) ရှေးအခါက ပွင့်တော်မူပြီး ဘုရားသခင်အဆူဆူတို့သည် ၂၂၇- သွယ်သော သိက္ခာပုဒ်များကိုလည်း မပညတ်၊ ပိဋကတ်သုံးပုံလည်း မဟော ထားခဲ့။ 'ခန္တီ ပရမံ တပေါ တိတိက္ခာ=အကျင့်မှန်သမျှ အောင့်အည်းသည်းခံမှုသာ ပဓာန' ဟု ခန္တီတရားကိုသာ ထိပ်ဆုံးထား၍ သုံးဂါထာမျှကိုသာ ဟောကြားတော်မူ၏။

(၂) မြေကြီးသည် မိမိအပေါ်၌ ရတနာများကို တင်ထားသည်ဖြစ်စေ၊ မစင်အညစ်အကြေးများကို စွန့်ထားသည်ဖြစ်စေ ပြောင်းလဲခြင်း မရှိ ခံယူသကဲ့သို့ ကောင်းဆိုး လောကဓံကို မြေကြီးလို ခံရမည်။ (ဗုဒ္ဓဝံသ ၁၁၇။)

## အခွံ့ပေး၍ နှလုံးအေးခဲ့သူများ

(၃) စီးပွားဉစ္စာ အာဏာ ခွန်အား ကြီးမားလျက်က အားနည်းသူ အပေါ် သည်းခံရခြင်းသည် အမြတ်ဆုံး အင်အားအကြီးဆုံး ခန္တီမည်၏။

(အသူရာများအား သိကြားမင်း သည်းခံပုံ၊ သဂါထာ-ဝေပစိတ္တိသုတ်၊ ဘူရိဒတ် နဂါးမင်း သီလပျက်မည်စိုး၍ သည်းခံပုံထောက်၊ သီလစောင့်ခါမှပင် ရန်သူနှင့်တိုးတတ်သော သဘာဝကိုလည်း ကြိုတင်သိထားသင့်၏။)

(၄) ဆူးရှိသော ကြိမ်လုံးဖြင့် တစ်ကိုယ်လုံး ရစရာ မရှိအောင် အချက်ပေါင်း နှစ်ထောင်လောက် အရိုက်ခံရခြင်း၊ ခြေ, လက်, နား, လျှာ, နှာခေါင်း စသည် အဖြတ်ခံရခြင်း စသည်ကြောင့်လည်း ကလာဗုမင်းနှင့် အာဏာသားများအပေါ် မေတ္တာ မပျက်၊ သည်းခံနိုင်သော **ခန္တီဝါဒီ ရသေ့** အကြောင်း၊ (ခန္တီဝါဒီဇာတ်-ဇာ၄၃၊) မုဆိုးအား သေဘေးက ကယ်တင်၍ လမ်းပြပေးမိသဖြင့် ခေါင်းရိုက်ခွဲ ခံရသော အလောင်းတော် **မျောက်မင်းကြီး** အကြောင်း၊ (မဟာကပိဇာတ်။)

(၅) သုနာပရန္တတိုင်း (အိန္ဒိယအနောက်ဘက်စွန်း)သို့ သာသနာပြု ကြွမည့် **အရှင်ပုဏ္ဏ မထေရ်**အား "သုနာပရန္တ တိုင်းသားတို့သည် ကြမ်းတမ်း သူများဖြစ်၍ သင့်အားဆဲရေးလျှင် ဘယ့်နှယ်နေမလဲ" စသည်ဖြင့် ဘုရားရှင်က မေးတော်မူရာ 'ဆဲရုံပဲ ဆဲကြပေတယ်၊ ကိုယ်ထိလက်ရောက် မပုတ်ခတ်ကြသေး၍ တော်သေးကြောင်း နှလုံးသွင်းပါမည်' ဟု လျှောက်လေ၏။

ပုတ်ခတ်လျှင်လည်း ခဲဖြင့် မပေါက်သေး၍ ၊ ပေါက်လျှင်လည်း တုတ်ဖြင့် မရိုက်သေး၍၊ ရိုက်လျှင်လည်း ဓားဖြင့် မခုတ်သေး၍၊ ခုတ်လျှင်လည်း မသတ်သေး၍ တော်သေးကြောင်း၊ သတ်လျှင်လည်း 'သူတကာမှာ ကိုယ့်ဟာကိုယ် ကြောင့်ကြ စိုက်ထုတ်၍ သေကြရသေးသည်' ဟု နှလုံးသွင်း မည့်အကြောင်း လျှောက်ထား၍

သာသနာပြုကြရာ ထိုနှစ်, ဝါတွင်းမှာပင် ရဟန္တာဖြစ်တော်မူ၏။ (ပဏ္ဏာသ၊ ပုဏ္ဏောဝါဒသုတ်။)

## အားလုံး စာတ်သဘောချည်း

(၆) "သဒ္ဒတ္တပရမာ အတ္တာ=အကျိုးစီးပွား မှန်သမျှ ကိုယ်ကျိုး ကိုယ်စီးပွားသည် ပဓာနဖြစ်၏။ ခန္ဓာ ဘိယျော န ဝိဇ္ဇတိ=သည်းခံခြင်းထက် သာလွန်သော ကိုယ့်စီးပွား ဖြစ်ထွန်းမှုဟူ၍ မရှိ" (ဝေပစိတ္တိသုတ်။) ဤသို့ စသည်ဖြင့် ဒေါသ၏အပြစ်၊ ခန္တီ၏အကျိုးတို့ကို နှလုံးသွင်း ဆင်ခြင်၍ ရန်ငြိုးကို ဖြေရသည်။

(၇) 'ရှည်လျားလှသော သံသရာတစ်ခွင်၌ မိဘညီအစ်ကို မောင်နှမ သားသမီး မတော်စပ်ဖူးသူ မရှိ' ဟု ဟောတော်မူသည်ကိုလည်း ထောက်၍ ရန်သူကို မိမိ၏ မိဘအရာ၊ သားသမီးအရာ ထားပြီးလျှင် ကြင်နာယုယ အကျိုးပြုခဲ့ပုံများကို တစိမ့်စိမ့် စဉ်းစား၍လည်း ဖြေဖျောက်ရမည်။

(၈) ယင်းသို့ ဖြေဖျောက်၍မှ မရလျှင် 'အဖြဲမရှိတဲ့ ဓာတ်လေးပါး အစုတွေပဲ' စသည်ဖြင့် ပုဂ္ဂိုလ် သတ္တဝါ မရှိ၊ အဘိဓမ္မာ ရုပ်နာမ်ဓာတ် ခွဲ၍လည်း ဆင်ခြင်ရှုကြည့်ပြီး ဖြေဖျောက်ရသည်။

(၉) ထို့ပြင် အတိတ်ဘဝက ပါလာခဲ့သော အမျက်ဒေါသ ရန်ငြိုးကိုပင် ပြေပျောက်စေနိုင်သော ပစ္စည်း အပေးအယူနည်းကိုလည်း ကျင့်သုံးသည့်အခါ ကျင့်သုံးရသည်။ (ဒါနံ သိနေဟဘောသဖွံ=ဒါနဟူသည် ပိယဆေး၊ ပေးကမ်းခြင်းသည် အောင်မြင်ရာ။)

## ကျေကျေနပ်နပ် အလိုလို စံနိုင်ရည်ရှိအောင်

အထက်ပါနည်းများသည် ကျမ်းဂန်လာ လက်တွေ့နည်းများ ဖြစ်ကြ၏။ တကယ်လိုက်နာလျှင် တစ်ခုတစ်ခုသော နည်းကလေးသည်ပင် ကြီးကျယ်သော ခိုက်ရန်ဒေါသ ဆင်းရဲဒုက္ခ ဘဝသံသရာ ဘေးကြီးများကို တားဆီးနိုင်လေသည်။ လောကီ လောကုတ္တရာ ချမ်းသာအမျိုးမျိုးကိုလည်း သယ်ဆောင်ပို့ပေးနိုင်လေသည်။

(ရဟန္တာနှင့် ပုဂ္ဂိုလ်ထူးများ စာအုပ် သီးလုံးဆရာတော်အခန်း၊ 'ခန္တီတရားပူဇော်ပွဲ' နှင့် စွန်းလွန်းဆရာတော်အခန်း 'နွားနှစ်ကောင် ဖေ့ရာ တရားနာပုံ' ကိုလည်း ရှုပါလေ။)

လူနှစ်ယောက် ခိုက်ရန်ဖြစ်မည်ရှိစဉ် မိမိက သည်းခံလိုက်နိုင်၍ ခိုက်ရန်မဖြစ်၊ အနာတရ မရှိ၊ အောက်တန်း မကျ၊ ငွေ မကုန် ၊ ဒုက္ခ မရောက်ရရုံ အကျိုးလောက်ကိုသာလျှင် မြင်တော်မူ၍ သည်းခံရန် ဟောကြားတော်မူခဲ့သည်

မဟုတ်ချေ။ ထို့ထက် အဆပေါင်းများစွာ လူ့သာမန်တို့ မသိမမြင် မဆင်ခြင်နိုင်သော ငုပ်ကွယ်နေသည့် ခန္ဓာ၏အင်အား အဆက်ဆက်ကို မြင်တော်မူသောကြောင့်သာလျှင် ဖြစ်သည်။

သည်းခံခြင်းကိုလည်း တွေ့ကြုံမှတ်သားဖူးသမျှ ဗုဒ္ဓဪဝါဒကိုစသည်ကို စဉ်းစားဆင်ခြင်လျှင်လည်း အတန်အသင့် ခံနိုင်ရည် ရှိလာတတ်၏။ သို့ရာတွင် ဆင်ခြင်စဉ်းစား၍ အောင့်အည်းသည်းခံရခြင်းထက် လက်တွေ့အလုပ်ဖြင့် အလိုလို ခံနိုင်ရည်ရှိအောင် ကြိုးစားရှုပွားခြင်းက သာ၍ခိုင်မာ၏။ အောင့်အည်းရခြင်း မရှိ၊ ခန္ဓာ၏သဘောကို ပြည့်ပြည့်ဝဝ ကြည်ကြည်လင်လင်ကြီး သဘောကျနိုင်လေသည်။

'မဟာရာဟုလောဝါဒသုတ်'၌ မြတ်စွာဘုရား ဟောတော်မူသည်မှာ ဗြဟ္မစိုရ်တရားလေးပါး၊ အမြဲမရှိ နှလုံးသွင်းမှု၊ မတင့်တယ်ခြင်း နှလုံးသွင်းမှုနှင့် အာနာပါနရှု မှတ်မှု ရှိနေလျှင် လောကဓံ ကောင်းဆိုးဒဏ်ကို ခံနိုင်ရည်ရှိကြောင်း ဟောတော်မူလေသည်။ စင်စစ်အားဖြင့် မည်သည့် ကမ္မဋ္ဌာန်း ရှုမှတ်မှုမဆို တစ်ခုခု လက်ကိုင်ရှိထားလျှင် 'တာဒိ=ဒိအတိုင်းတိုင်း=နေမြဲ' အရည်အသွေးများ ပြည့်၍ပြည့်၍ လာသည်မှာ ဓမ္မတာပင်ဖြစ်၏။ အလိုလို ခံနိုင်ရည် ရှိလာလေတော့သည်။

## မေတ္တာသုတ်လာ မေတ္တာပွားနည်း

အများနှုတ်တက်ရရှိနေကြသော်လည်း တကယ် ထိုအတိုင်း ပွားပို့သူ နည်းပါးနေသော မေတ္တာသုတ်လာ မေတ္တာပွားပုံ သဘောအချုပ်ကို ဤ၌ ဖော်ပြဦးအံ့။

၁။ သတ္တဝါအားလုံး ဘေးရန်ကင်းကြပါစေ၊ ကိုယ်စိတ်နှစ်ဖြာ ချမ်းသာကြပါစေ၊ ဤပွားပို့ပုံသည် လိုရင်းအနှစ်ချုပ်ဖြစ်၏။
ထိုမှနောက် သတ္တဝါအများကို နှစ်ပိုင်း သုံးပိုင်းခွဲ၍ ပွားပို့ပုံကို ဆက်၍ ဟောတော်မူ၏။

၂။ တဏှာ မကင်းသေး၍ ထိတ်လန့်တတ်သော ပုထုဇဉ်၊ သေက္ခ ပုဂ္ဂိုလ်တွေ အားလုံး ချမ်းသာကြပါစေ၊ တဏှာကင်း၍ ထိတ်လန့်ခြင်းမရှိ၊ ပကတိ ခိုင်မြဲတည်တံ့သော ရဟန္တာ ပုဂ္ဂိုလ်အားလုံး– (တသာ၊ထာဝရ။)

၃။ ကိုယ်ထည်ရှည်သော သတ္တဝါတွေ၊ ကိုယ်ထည်တိုသော ပုသော သတ္တဝါတွေ၊ ကိုယ်ထည် မရှည်မတို အလယ်အလတ် သတ္တဝါတွေ။ (ဒီဃ၊ မဇ္ဈိမ၊ ရဿက။)

၄။ ကိုယ်ထည် ကြီးမားသော၊ သေးငယ်သော၊ မကြီးမငယ် အလယ်

အလတ်ဖြစ်သော သတ္တဝါတွေ။ (မဟန္တ၊ မဇ္ဈိမ၊ အဏုက။)
၅။ ကိုယ်ထည် လုံးဝန်းဝဖြိုးသော၊ အလွန်သေးငယ်သော၊ အလယ် အလတ်ဖြစ်သော။ (ထူလ၊ မဇ္ဈိမ၊ အဏုက။)
၆။ မြင်တွေ့ဖူးသော သတ္တဝါတွေ၊ မမြင်တွေ့ဖူးသော သတ္တဝါ တွေ။(ဒိဋ္ဌ၊ အဒိဋ္ဌ။)
၇။ အနီး၌ နေကြသော၊ အဝေး၌ နေကြသော သတ္တဝါတွေ။ (ဒူရ၊အဝိဒူရ။)
၈။ (နောက်ထပ် ဘဝသစ် ဖြစ်ရန်မရှိ၊ အပြီးတိုင်) ဖြစ်ပြီးမည်သော ရဟန္တာပုဂ္ဂိုလ်တွေ၊ ဖြစ်ရန်ရှိသေး၍ ဖြစ်ဆဲမည်သော ပုထုဇဉ် သေက္ခပုဂ္ဂိုလ်တွေ၊ (တစ်နည်း) ဘဝသစ် ဖြစ်ဆဲ၊ ပဋိသန္ဓေ နေဆဲ သတ္တဝါတွေ၊ ဖြစ်ပြီး ဖွားမြင်ပြီး သတ္တဝါတွေ အားလုံး ချမ်းသာကြပါစေ။ (ဘူတ၊ သမ္ဘဝေသီ။)
၉။ ထို့နောက် အရပ်ဆယ်မျက်နှာရှိ သတ္တဝါတွေ။
၁၀။ အချင်းချင်း မလှည့်ပတ်ကြပါစေနှင့်၊ အထင်မသေးကြပါစေနှင့်၊ တစ်ဦးက ဆင်းရဲတာ တစ်ဦးက မလိုလားပါစေနှင့်။

ဤကား မေတ္တသုတ်လာ မေတ္တာပွားပို့ပုံ အချုပ်ဖြစ်၏။

## တိပိဋကဓရ မဟူနှာဒ ဆရာတော်ဘုရားကြီး မေတ္တာပွားနည်း လင်္ကာ

အထက်ပါ မေတ္တသုတ်လာ မေတ္တာပွားပို့နည်းကို လွယ်လင့်တကူ မှတ်ယူပွားပို့နိုင်ရန် ကျေးဇူးရှင် ပထမကျော် သဗ္ဗအာဒိကမ္မိက ဝင့်သကာ တိပိဋကဓရ မဟာဗလ္လာဂါရီက အဂ္ဂမဟာပဏ္ဍိတ မဟူနှာဒ မင်းကွန်းဆရာတော် ဘုရားကြီး(၁၂၇၃-၁၃၅၄)က အောက်ပါအတိုင်း အလင်္ကာဆောင်ပုဒ် ရေးသား ထားတော်မူလေသည်။

၁။ အလုံးစုံများစွာ သတ္တဝါ၊ ချမ်းသာကိုယ်စိတ် မြဲပါစေ၊ ဥပဒ်ရန်ဘေး၊ ကင်းစင်ဝေး၊ ငြိမ်းအေးကြပါစေ။
၂။ မတပ်မက်တတ်၊ တပ်မက်တတ်ဟု ၊နှစ်ရပ်များစွာ၊ သတ္တဝါ၊ ချမ်းသာကိုယ်စိတ် မြဲပါစေ၊ ဥပဒ်.....ကြပါစေ။
၃။ ကြောက်တတ်၊ မကြောက်တတ်၊ နှစ်ရပ်များစွာ၊ သတ္တဝါ ချမ်းသာကိုယ်စိတ် မြဲပါစေ၊ ဥပဒ်.....ကြပါစေ။
၄။ မမြင်အပ်၊ မြင်အပ်၊ နှစ်ရပ်များစွာ၊ သတ္တဝါ၊ ချမ်းသာကိုယ်စိတ်

မြဲပါစေ၊ ဥပဒ်.....ကြပါစေ။

၅။ ဝေးနေ၊ နီးနေ၊ နှစ်ထွေများစွာ၊သတ္တဝါ၊ ချမ်းသာကိုယ်စိတ် မြဲပါစေ၊ ဥပဒ်.....ကြပါစေ။

၆။ ဘဝဇာတ်ဆုံး၊ မဆုံးများစွာ၊ သတ္တဝါ၊ ချမ်းသာကိုယ်စိတ် မြဲပါစေ၊ ဥပဒ်.....ကြပါစေ။

၇။ ရှည်-တို-အလတ်၊ သုံးရပ်ခန္ဓာ၊ သတ္တဝါ၊ ချမ်းသာကိုယ်စိတ် မြဲပါစေ။ ဥပဒ်....ကြပါစေ။

၈။ ကြီး-ငယ်-အလတ်၊ သုံးရပ်ခန္ဓာ၊ သတ္တဝါ၊ ချမ်းသာကိုယ်စိတ် မြဲပါစေ၊ ဥပဒ်.....ကြပါစေ။

၉။ ဆူ-ကြုံ-အလတ်၊ သုံးရပ်ခန္ဓာ၊ သတ္တဝါ၊ ချမ်းသာကိုယ်စိတ် မြဲပါစေ၊ ဥပဒ်ရန်ဘေး၊ ကင်းစင်ဝေး၊ ငြိမ်းအေးကြပါစေ။

၁၀။ လူအချင်းချင်း၊ လှည့်ပတ်ခြင်း၊ ကင်းရှင်းကြပါစေ။

၁၁။ အထင်သေးခြင်း၊ အချင်းချင်း၊ ကင်းရှင်းကြပါစေ။

၁၂။ ဆင်းရဲလိုခြင်း၊ အချင်းချင်း၊ ကင်းရှင်းကြပါစေ။

## ၅၂၈-သွယ် မေတ္တာပွားပုံ

ငါးရာနှစ်ဆယ့်ရှစ်သွယ် မေတ္တာပွားပုံ အမြွက်မျှ ပြဆိုဦးအံ့။

သတ္တဝါကို အထူး မရည်ညွှန်းဘဲ သာမည ပွားပို့သော မေတ္တာကို 'အနောဓိသမေတ္တာ' ခေါ်၏။ အထူးရည်ညွှန်းလျှင် 'ဩဓိသမေတ္တာ' ခေါ်၏။ အနောဓိသ ၅-မျိုး၊ ဩဓိသ ၇-မျိုးရှိသည်။

**(၁) သတ္တဝါအမျိုးအစား**

၁။ သဗ္ဗေ သတ္တာ=အလုံးစုံသော သတ္တဝါတို့သည်။

၂။ သဗ္ဗေ ပါဏာ=အလုံးစုံသော အသက်ရှူရှိုက်သူတို့သည်။

၃။ သဗ္ဗေ ဘူတာ=အလုံးစုံသော ထင်ရှားဖြစ်သူတို့သည်။

၄။ သဗ္ဗေ ပုဂ္ဂလာ=အလုံးစုံသော ပုဂ္ဂိုလ်တို့သည်။

၅။ သဗ္ဗေ အတ္တဘာဝ ပရိယာပန္နာ=အလုံးစုံသော ခန္ဓာကိုယ် အတ္တဘော ရှိသူတို့သည်။ **(အနောဓိသ ၅-မျိုး)**

၁။ သဗ္ဗာ ဣတ္ထိယော=အလုံးစုံသော မိန်းမ=အမတို့သည်။

၂။ သဗ္ဗေ ပုရိသာ=အလုံးစုံသော ယောက်ျား=အထီးတို့သည်။

၃။ သဗ္ဗေ အရိယာ=အလုံးစုံသော အရိယာတို့သည်။
၄။ သဗ္ဗေ အနရိယာ=အလုံးစုံသော ပုထုဇဉ်တို့သည်။
၅။ သဗ္ဗေ ဒေဝါ=အလုံးစုံသော နတ်ဗြဟ္မာတို့သည်။
၆။ သဗ္ဗေ မနုဿာ=အလုံးစုံသော လူတို့သည်။
၇။ သဗ္ဗေ ဝိနိပါတိကာ=အလုံးစုံသော အပါယ် သတ္တဝါတို့သည်။
(ဩဓိသ ၇။) (၅ + ၇ = ၁၂။)

(၂) ပွားနည်းလေးမျိုး

ယင်း သတ္တဝါ ၁၂–မျိုးကို ပွားပို့ပုံ ၄–မျိုးနှင့် ဆက်စပ်၍ ပို့ရ၏။ (အနောဓိသ ၅–မျိုးမှာ သဘောအတူပင်ဖြစ်၏။) ပွားပို့ပုံ ၄–မျိုးကား–

၁။ အဝေရာ ဟောန္တု=ဘေးရန်ကင်းကြပါစေ။
၂။ အဗျာပဇ္ဈာ ဟောန္တု=စိတ်ဆင်းရဲကင်းကြပါစေ။
၃။ အနီဃာ ဟောန္တု=ကိုယ်ဆင်းရဲကင်းကြပါစေ။
၄။ သုခီ အတ္တာနံ ပရိဟရန္တု=ကိုယ်စိတ်နှစ်ဖြာ ချမ်းသာလွယ်ကူစွာဖြင့် မိမိတို့ ခန္ဓာဝန်ကို ဆောင်ရွက်နိုင်ကြပါစေ။

ယင်းသို့ ပွားပို့ရမည့် သတ္တဝါ ၁၂–မျိုး၊ ပွားပို့ပုံ ၄–မျိုးကို အရပ်မျက်နှာ ၁၀–ခု နှင့် စပ်၍ပို့လျှင် ၅၂၈–သွယ်မေတ္တာဖြစ်တော့သည်။

၁။ 'သဗ္ဗေ သတ္တာ အဝေရာ ဟောန္တု=သတ္တဝါတွေအားလုံး ဘေးရန်ကင်းကြပါစေ' စသည်ဖြင့် အနောဓိသ သတ္တဝါ ၅–မျိုးနှင့် ပွားပို့ပုံ ၄–မျိုး (၅ X ၄=၂၀) အနောဓိသမေတ္တာ ၂၀။

၂။ 'သဗ္ဗာ ဣတ္ထိယော အဝေရာ ဟောန္တု=မိန်းမ(အ မ)တွေအားလုံး ဘေးရန်ကင်းကြပါစေ' စသည်ဖြင့် ဩဓိသသတ္တဝါ ၇–မျိုးနှင့် ပွားပို့ပုံ ၄–မျိုး (၇ X ၄=၂၈) ဩဓိသမေတ္တာ ၂၈၊ ပေါင်း ၄၈။

(၃) ၁၀–မျိုးအရပ်

၃။ အရပ် ၁၀–မျက်နှာ နှင့်တွဲ၍ 'ပုရတ္ထိမာယ ဒိသာယ သဗ္ဗေသတ္တာ အဝေရာ ဟောန္တု=အရှေ့အရပ်၌ရှိသော သတ္တဝါတွေအားလုံး ဘေးရန်ကင်းကြပါစေ' စသည်ဖြင့် ဒိသာအနောဓိသ (၁၂ X ၄=၄၈)ရ၏။

ထို့အတူ ပစ္ဆိမာယ ဒိသာယ (အနောက်)၊ ဥတ္တရာယ ဒိသာယ (မြောက်)၊ ဒက္ခိဏာယ ဒိသာယ (တောင်)၊ ပုရတ္ထိမာယ အနုဒိသာယ (အရှေ့တောင်)၊ ပစ္ဆိမာယ အနုဒိသာယ (အနောက်မြောက်အရပ်)၊ ဥတ္တရာယ အနုဒိသာယ

(အရှေ့မြောက်)၊ ဒက္ခိဏာယ အနုဒိသာယ (အနောက်တောင်)၊ ဟေဋ္ဌိမာယ ဒိသာယ (အောက်)၊ ဥပရိမာယ ဒိသာယ (အထက်)။ ဒိသာဩဓိသ ၄၈ X ၁၀=၄၈၀။ ၄၈၀ နှင့် ၄၈_ပေါင်းသော် ၅၂၈-သွယ် မေတ္တာ ဖြစ်၏

**အောက်,အထက်အရပ် ပို့နည်း**

ဤ၌ 'အောက်အရပ်' နှင့်စပ်၍ မိမိက မြေမြင့်ရာ သို့မဟုတ် အဆောက်အအုံ အထက်၌နေလျှင် မိမိအောက် နိမ့်ကျသော အရပ်လေးမျက်နှာရှိ သတ္တဝါများကို စိတ်ညွှတ်မှန်းဆ၍ ပို့ရမည်။ 'မြေအောက်ရေ, ရေအောက်လေ' ဟူသော အဋ္ဌကထာလာ ကမ္ဘာတည်နေပုံကို ထောက်၍လည်းကောင်း၊ သိပ္ပံပညာအရ ကမ္ဘာမြေကြီးလည်း ဂြိုဟ်တစ်ခုဖြစ်၍ လဟာပြင်လေထုထဲ၌ နေသည်ကို ထောက်၍လည်းကောင်း အလားတူ အောက်အရပ်၌လည်း အခြားစကြဝဠာ သတ္တဝါများ ရှိနေမည်ကို ညွှတ်၍ ပို့လျှင်လည်း သင့်မြတ်ရာ၏။ အထက်လည်း နည်းတူ။

ဤကား ၅၂၈-သွယ် ယူပုံဖြစ်၏။

**ကရဏီယ စသည်ပွားပုံ**

ကရဏီယ၌ ပွားပို့ပုံမှာ 'ဒုက္ခမုစ္စန္တု=ဆင်းရဲက လွတ်ကင်းကြပါစေ' ဟူသာ ပွားရ၏။ အဝေရာ, အဗျာပဇ္ဈာ စသည် မလိုတော့ချေ။ ထိုသို့ပွားပို့ပုံ တစ်မျိုးတည်းရှိ၍ (မေတ္တာပွားပို့နည်းကိုမှီ၍) အနောဓိသ ကရဏီ ၅၊ ဩဓိသ ၇၊ ပေါင်း ၁၂။ အရပ် ၁၀-မျက်နှာဖြင့် ပွားပို့သော် တစ်မျက်နှာလျှင် ၁၂-ဖြစ်၍ ၁၂၀။ ပထမ ဒိသာအနောဓိသ ၁၂- နှင့် ပေါင်းသော် ၁၃၂-သာလျှင်ရ၏။

မုဒိတာ၌လည်း 'ယထာ လဒ္ဓ သမ္ပတ္တိတော=ရရှိပြီး စည်းစိမ်ချမ်းသာမှ၊ မာဝိဂစ္ဆန္တု=မဆုတ်ယုတ် မပျက်စီးကြပါစေနှင့်=ချမ်းသာပြည့်စုံမြဲ ချမ်းသာ ပြည့်စုံကြပါစေ'ဟု ပွားပို့ပုံ တစ်မျိုးတည်းသာရှိ၍ ကရဏာကဲ့သို့ မုဒိတာပွားပုံ ၁၃၂-ပါး ဖြစ်သည်။

ဥပေက္ခာ၌လည်း 'ကမ္မဿကာ=မိမိပြုသောကံသာလျှင် ကိုယ်ပိုင်ဥစ္စာ ရှိကြပေသည်တကား' ဟု တစ်မျိုးတည်း နှလုံးသွင်းရသဖြင့် ကရဏာ, မုဒိတာ တို့ကဲ့သို့ ၁၃၂-ပါးသာလျှင် ဖြစ်သည်။ (ရတနာသုံးပါးကျေးဇူး စာအုပ်၌လည်း ၅၂၈-ယူပုံ ပါရှိလေပြီ။)

## အထွတ်အထိပ် ဈာန်ချမ်းသာကြီး

သတ္တဝါတို့သည် တရားသဘောနှင့်စပ်၍ အဘယ်မျှ သနားစရာ ကောင်းပုံ၊ မြတ်စွာဘုရားရှင် အဘယ်သို့ သနားတော်မူပုံများ ဝိဘင်းပါဠိတော်၌ အကျယ်ဟောတော်မူထား၏။ သူတော်ကောင်းအလုပ်ကို လက်တွေ့လုပ်ကိုင် နေသူများဖြစ်က မိမိတရား အင်အားအလိုက် သနားစရာ ကောင်းပုံတွေ တသီကြီး ပေါ်လာတတ်၏။ ဘုရားရှင်၏ မဟာကရုဏာကို ခန့်မှန်းနိုင်ကြ ပေသည်။ ကိုယ်တိုင်လေ့ကျင့်ပွားများမှ အရသာ ပေါ်သော သန္ဒိဋ္ဌိကတရားများပေတည်း။

ဥပေက္ခာကား အလွန်သိမ်မွေ့၏။ သခ်ါရုပေက္ခာဉာဏ် ရောက်သောယောဂီများမှာ အထူးသဖြင့် သဘောပေါက်နိုင်လေသည်။ မေတ္တာ ကရုဏာ မုဒိတာတို့ဖြင့် ပွားပို့ရခြင်းသည် စတုက္ကနည်းအားဖြင့် တတိယဈာန်၊ ပဥ္စက နည်းအားဖြင့် စတုတ္ထဈာန်မျှလောက်ကိုသာ ရနိုင်၏။ ဥပေက္ခာပွားမှ ထိပ်ဆုံး ပဥ္စမဈာန်ကိုရသည်။ ရှေ့ရှေ့ဈာန်များကို ရပြီးမှလည်း နောက် နောက်ဈာန်ကိုရ၏။ နောက်နောက်ဈာန်ကို ရရန်လည်း ရှေ့ရှေ့ဈာန်တို့၏ အပြစ်ကိုမြင်မှ ရနိုင်လေသည်။

မေတ္တာ ကရုဏာ မုဒိတာများ ပွားရခြင်းသည် လောဘ ဒေါသများ ခြိမ်းနေသေးသဖြင့် စင်စစ် အထွတ်အထိပ် မဟုတ်သေးချေ။ ချစ်ခြင်း၊ မုန်းခြင်းကို လွန်မြောက်သော ယောနိသော မနသိကာရ အခြေခံ၍ ကမ္မဿကတာ ဉာဏ်၌ ရပ်တည်နိုင်သော ဘက်မလိုက် မျှတသော ဥပေက္ခာသည်သာ အထွတ်အထိပ် ဈာန်ချမ်းသာကြီး ဖြစ်လေသည်။

## မေတ္တာဈာန် အဆင့်ဆင့်

'ဈာန်' ဆိုသည်ကို ကောင်းကင်ပျံတက်ခြင်း ဟု လူအများစုက ထင်နေ၏။ ကောင်းကင်ပျံတက်ခြင်းမှာ ဈာန်သက်သက်ဖြင့် မဖြစ်။ အဘိညာဉ် ရမှ ဖြစ်လေသည်။ အဘိညာဉ်ဟူသည်လည်း ဈာန်စခန်းကုန်ပြီးမှ ထပ်ဆင့်၍ လေ့ကျင့်ရသော တန်ခိုးဖြစ်သည်။

## ဥပစာသမာဓိ–ဥပစာရဈာန်

မေတ္တာ, ကရုဏာ, မုဒိတာ ပွားများသူများသည် ပ–ဒု–တ ဈာန် သုံးဆင့်အထိ ရနိုင်၍ ဥပေက္ခာပွားများမှ စတုတ္ထဈာန်ကို ရ၏။ ကာမ နယ်ပယ်ရှိ ချမ်းသာတို့ထက် လွန်မြတ်၍ 'မဟဂ္ဂုတ်' ဟုခေါ်သည်။ အာရုံတစ်ခုတည်း၌သာ စွပ်ဝင်စွဲကိုင်ထားနိုင်၍ 'အပ္ပနာဈာန်' ဟုလည်းခေါ်၏။

ထိုဈာန်များကို ပွားများအောင်မြင်သူသည် လူသားစင်စစ်က ဖြစ်ဖွာ

ဖြစ်နေသူဖြစ်သည်။ လောကီနယ် ၃၁–ဘုံ အတွင်း အမြင့်မြတ်ဆုံးသော စည်းစိမ်ရှင်ကြီးဖြစ်၏။

ဤဗြဟ္မဝိဟာရ တရားလေးပါး ကျင့်စဉ်သည် ကျင့်သုံးလိုက်နာ၍ အောင်မြင်သူတိုင်း ပစ္စုပ္ပန် ယခုဘဝ၌သာ ဗြဟ္မာ့စည်းစိမ်ကြီးကို ရရှိနိုင်သည် မဟုတ်၊ သေလွန်သောအခါတွင်လည်း ဗြဟ္မာ့ပြည်သို့ ရောက်နိုင်၏။ မေတ္တာ အကျိုး ၁၁–မျိုးတွင် 'လားလေဗြဟ္မာ' ဟု ပြဆိုထားသည်။

ဗြဟ္မာ့ပြည်ရောက်ရာတွင်လည်း ပထမဈာန် ရသူဖြစ်လျှင် ပထမ ဈာန်ဘုံ ၃–ဘုံ၌ဖြစ်ရ၏။ ပ။ တတိယဈာန်ရသူဖြစ်လျှင် တတိယဈာန် ၃–ဘုံသို့ ရောက်ရ၏။ စတုတ္ထဈာန်ရလျှင် သက်တမ်းကမ္ဘာပေါင်း ငါးရာ အသက်ရှည်သော ဝေဟပ္ဖိုလ် ဘုံထိရောက်နိုင်၏။ ပုထုဇဉ်အနေဖြင့် အမြင့်မြတ်ဆုံး ရောက်ရာဘုံဖြစ်၍ 'ပုထုဇ္ဇနဘဝဂ်' ဟုခေါ်လေသည်။ (နိကာယ်ကဏ္ဍ+၁၀= 'မေတ္တာအကျိုး ၁၁–မျိုး' ကြည့်။)

ယုတ်စွာ့အဆုံး အပ္ပနာဈာန်ဟုခေါ်သော ပထမ ဒုတိယ စသော ဈာန်များကို မရစေကာမူ အထိုက်အလျောက် သမာဓိရလျှင်ပင် ဥပစာရ (ရှေ့ပြေး) သမာဓိ ခေါ်သော ကာမာဝစရ ကုသိုလ်ကံကြီးကား တော်ရုံတန်ရုံ ဝီရိယဖြင့်ပင် ဖြစ်နိုင်၍ လူ့လောက, နတ်လောက၌ မြင့်မြတ်ကြီးကျယ်သော လူ့စည်းစိမ်၊ နတ်စည်းစိမ်များကို ရရှိခံစားရမည်မှာကား မလွဲချေ။ ထို့ကြောင့် ဈာန်စိတ်စွမ်းအင်များ ကုန်ဆုံး၍ ဗြဟ္မာ့ဘုံမှ စုတေကာ အောက်သံသရာသို့ လျှောကျရစေကာမူ အလွန်နိမ့်ကျသော အပါယ်သံသရာ နံ့ချာသော လူ့ ဒုက္ခိတ ဘဝမျိုးသို့ တောက်လျှောက်မကျ၊ လူ့ဘုံ, နတ်ဘုံ၌ အဆင့်အတန်းမြင့်သော ဘဝများ၌သာ ဖြစ်ရ၏။

မဟဂ္ဂုတ်ခေါ်သော အပ္ပနာဈာန်စိတ် မဖြစ်စေကာမူ (ဝါ) ဈာန် မရစေကာမူ ထိုဈာန်ရရန် အခြေခံမေတ္တာပွားပို့ ထူထောင်ရသော ကာမာဝစရ ကုသိုလ်ကံ၏ အရှိန်သည်ပင် ထိုမျှလောက် ကြီးကျယ်လှပေသည်။

စနစ်ဝါကျ မေတ္တာပွားသူတိုင်း ဥပစာရသမာဓိ ကာမာဝစရ ကုသိုလ်ကြီး မဖြစ်သူ ရှားပေလိမ့်မည်။ ဥပစာရသမာဓိ ဖြစ်လျှင်လည်း ဈာန်မရသူ ရှားပေ လိမ့်မည်။ အားကျဖွယ် ကောင်းလေစွာ့။

ဥပစာရသမာဓိဟူသည် အခြားမဟုတ်။ မေတ္တာပွားသောအခါ 'မည်သူ မည်ဝါ ချမ်းသာပါစေ' ဟု နေ့ရောညပါ ထိုအာရုံ တစ်ခုတည်းကိုသာ ကြိမ်ဖန် များစွာ ရာထောင်သောင်းချီ၍ စူးစိုက်ပွားများလျှင် တခြားစိတ်ကူးများ မပေါ်။ မည်သည့် ကြားအာရုံ၊ မြင်အာရုံ စသည့်နောက်ကိုမျှ မလိုက်၊ မေတ္တာခံ ပုဂ္ဂိုလ်အပေါ်မှတစ်ပါး အခြားသို့ စိတ်မထွက်။ ထိုသူအပေါ်၌သာ ရှိသမျှ

မိမိစိတ် အကုန်လုံး (သဗ္ဗတ္တတာယ) စုပြုံးစိုက်နေလျှင် နီဝရဏငါးပါး အပိတ်အဆီးငါးမျိုး ကင်းကွာနေတော့၏။

## နီဝရဏ=အပိတ်အဆီးငါးမျိုး

ဈာန်အလုပ်ကို လုပ်သူတိုင်း အရေးတကြီး သိမြင်ရှောင်ကြဉ်နိုင်ရသည်မှာ နီဝရဏငါးပါးပင်ဖြစ်သည်။ ယင်းကို မကျော်လွှန်နိုင်လျှင် မရချေ။ နီဝရဏ တရား ၅–မျိုး၏ အကျဉ်းချုပ်သဘောကား–

၁။ **ကာမစ္ဆန္ဒနီဝရဏ**=ဤဩ မိမိအကျိုးကို ငဲ့၍၊ ဘေးရန် ကင်းချင်၍ မေတ္တာပွားခြင်း၊ တစ်စုံတစ်ရာ လိုချင်တပ်မက်ခြင်း၊

၂။ **ဗျာပါဒနီဝရဏ**=စိတ်ဆိုး၊ စိတ်ပျက်၊ စိတ်ညစ်ခြင်း၊ အလို မကျခြင်း၊ 'ငါမေတ္တာပို့လိုက်တာ ဒင်း ဒုက္ခရောက်ရော' စသော လူတစ်ဘက် သား နစ်နာဆုံးရှုံးစေခြင်း၊

၃။ **ထိနမိဒ္ဓနီဏဝရဏ**=အိပ်ချင် ထိုင်းမှိုင်း ပျင်းရှိခြင်း၊

၄။ **ဥဒ္ဓစ္စကုက္ကုစ္စနီဝရဏ**=စိတ်ပျံ့လွင့်ခြင်း၊ ပူပန်ကြောင့်ကြနေခြင်း၊ (ငါ ဒီအလုပ်လုပ်မိတာ နောက်ကျလေခြင်း စသည်။)

၅။ **ဝိစိကိစ္ဆာနီဝရဏ**=မိမိလုပ်နေသော မေတ္တာနှင့်တကွ ရတနာ သုံးပါးနှင့်စပ်၍ မပြတ်သားခြင်း၊ သို့လောသို့လော ရှိနေခြင်း၊ ချီတုံချတုံ မယုံမရဲလုပ်ခြင်း။

ယင်း နီဝရဏများ ကင်းကွာ၍ မေတ္တာခံ ပုဂ္ဂိုလ်ပေါ်၌သာ စူးစိုက်တည်နေလျှင် 'ဥပစာရသမာဓိ=ဥပစာရဈာန်ဖြစ်ပြီ' ဟု အတိုချုပ်မှတ်၊ ထိုသမာဓိသည် အခြေခံမျှသာ ရှိနေသော်လည်း အနည်းဆုံး လူ့ထက်လူ၊ နတ်ထက်နတ်ဖြစ်ရန် သေချာလှသော ကာမာဝစရ ကုသိုလ်ကြီးပင်တည်း။

## အပ္ပနာဈာန်ရသူ ချမ်းသာပုံ

ဥပစာရ သမာဓိသည် ယခုအခါ ယောဂီတိုင်းလောက်နီးနီး လွယ်လင့်တကူ ဖြစ်ပွားနိုင်၏။

ထိုဥပစာရသမာဓိ အားကောင်းသည်ထက် ကောင်းလာသောအခါ မေတ္တာခံပုဂ္ဂိုလ် အပေါ်၌သာ စူးစိုက်နစ်မြုပ်ပြီး သက်ဝင်တည်နေတော့၏။ မေတ္တာခံ ပုဂ္ဂိုလ်နှင့်အတူ မျက်နှာချင်းဆိုင် ထိုင်နေရသကဲ့သို့ အလွယ်တကူပင် ထင်မြင်နေရ၏။ ပထမတွင် တစ်မိနစ် နှစ်မိနစ်မျှသာ ရှိကောင်းရှိမည် ဖြစ်သော်လည်း ကြာလျှင် နာရီနှင့်ချီ၍ ကြာမြင့်စွာ သက်ဝင်တည်နေလိမ့်မည်။

ထိုအခါ အပြင်အာရုံ ဘေးအာရုံများ အနားသို့ပင် မသီနိုင်တော့ဘဲ မေတ္တာခံပုဂ္ဂိုလ် တစ်ယောက်တည်းအပေါ်၌သာ စွဲမြဲကြံ့ခိုင်စွာ ငြိမ်ဝပ်တည်နေကာ ထိုသူချမ်းသာ ကောင်းစားစေလိုသော စိတ်ကလေးသာလျှင် ဖြစ်ပွားနေတော့၏။

- ကျေနပ်ဝမ်းသာနေ၏။
- နေလို့ထိုင်လို့ ပေါ့ပါးသွက်လက်နေ၏။
- ကြည်လင်ချမ်းမြေ့၍သာ နေတော့၏။

ထိုသဘောများကား ယောဂီကိုယ်တိုင် ပထမဈာန် ရနေသူဖြစ်ကြောင်း ဖော်ပြနေသော အမှတ်အသားများပင်တည်း။ အဘယ်မှာ ခက်ခဲပါသနည်း။

## အပျော်တမ်းမေတ္တာ

ပထထမဈာန်သည် ရရှိရန် မခက်ခဲပေ။ သို့ရာတွင် ခက်ခဲနေကြသည်ကား ရှိပေ၏။ ပါးစပ်ကသာ မေတ္တာပို့၍ စိတ်ထဲက မေတ္တာစစ်၊ မေတ္တာမှန် မထားနိုင်သူ၊ စိတ်ထဲကပါ ပါပါသည် ဆိုသော်လည်း နှုတ်ရော ကိုယ်ပါ မလိုက်နိုင်သူများကား ဈာန်ကိုထား၍ ကာမာဝစရ ကုသိုလ်ကံ လောက်မျှပင် အစော်မနံသေးချေ။

ပို၍ဆိုးသည်ကား 'မေတ္တာပို့သည်' ဟုဆိုကာ ဆိုကောင်းရွတ်ကောင်း ကာရန်နဘေတွေနှင့် "လန်းဖြာဖြာဝေ၊ ဝမ်းသာပါစေ၊ အဝိဋ္ဌာန်ပေါက်ပါစေ၊ စိတ်အကြံမြောက်ပါစေ"စသော မေတ္တာမျိုးကား အပျော်တမ်း နှုတ်မေတ္တာများဖြစ်၍ အပျော်တမ်းကုသိုလ်လောက်သာ အဖတ်တင်နိုင်၏။ 'မေတ္တာပို့တယ်ဆိုတာ ဒါကို ခေါ်တယ်' ဟုသာ နှုတ်ခမ်းသတ် နားလည်ထားပါလျှင်ကား အလွယ်တကူ ရနိုင်သော အခွင့်ကောင်း ခေတ်ကောင်းကြီးနှင့် လွဲချက်နာလေပြီ ဟုမှတ်။

စင်စစ် မေတ္တာကမ္မဋ္ဌာန်းသည် 'တဝဋ္ဋ သမာဓိယတိ=သမာဓိ ရလွယ်သော ကမ္မဋ္ဌာန်းဖြစ်သည်' ဟု ဟောတော်မူသည့်အတိုင်း ကမ္မဋ္ဌာန်း ၄၀-တို့တွင် အလွန်အားရဖွယ် ကောင်းသော ကမ္မဋ္ဌာန်းကြီးဖြစ်၏။ ဥပစာရသမာဓိသည် အလွယ်ပင်ဖြစ်၍ ဈာန်ရရန် အလွန်လွယ်ကူသော ကျင့်စဉ်ကြီးပါပေတည်း။

ဓနဉ္စာနိ ပုဏ္ဏားကြီးသည် ဤကျင့်စဉ်ကို အရှင်သာရိပုတ္တရာထံမှ သေခါနီး နာရိဝက်လောက်မှ ကြားနာရပြီး လေ့ကျင့်ရာ ဈာန်ရ၍ သေလွန်လျှင် ဗြဟ္မာကြီးဖြစ်သွား၏။ လွယ်ကူလွန်းစွ။ ထိုမျှလောက် အခွင့်သာသော ခေတ်အခါ ဘဝကြီးတွင် ဘာမဟုတ်သည့် အပျော်တမ်း မေတ္တာမျှလောက်ဖြင့် အားရ ရပ်တန့်၍ မနေကြကုန်လင့်။

### ပထမဈာန် အမှတ်အသားငါးခု

'ပထမဈာန်သို့ ရောက်နေပြီ' ဟု သိနိုင်သော အမှတ်အသား အထောက်အထား ငါးချက်ကား အောက်ပါတို့ ဖြစ်ကုန်၏။

၁။ မေတ္တာခံ ပုဂ္ဂိုလ်ကို မပေါ်ထင်, ပေါ်ထင်အောင် (တောင်ထိပ်ရောက်အောင် တအဲ့လှူလှူတက်သော ယောက်ျားကဲ့သို့) စိတ်ကူးအာရုံပြု၍ ကြည့်ရခြင်း၊ ကြည့်ဖန်များသောအခါ လွယ်လွယ်ကူကူ စိတ်ထဲ၌ ခတ်ပုံရိုက်သကဲ့သို့ ပေါ်ထင်လာ အောင် စိတ်ကူးရလွယ်ခြင်း၊ (ဝိတက်)၊

၂။ (ရှပ်လုံးတစ်ခုကို အထက်အောက် ပြန်လှန် အဖန်ဖန် အထပ်ထပ်ဆေးခြယ်သကဲ့သို့) မေတ္တာခံပုဂ္ဂိုလ်၏ ကိုယ်နေပုံဟန် (အာရုံနိမိတ်) ကို ထက်ထက်သန်သန် ဆင်ခြင်စဉ်းစားခြင်း၊ (ဝိစာရ)၊

၃။ ပေါ်ထင်စွဲမြဲလာသဖြင့် ဝမ်းမြောက်တက်ကြွခြင်း၊ ကျေနပ်နေခြင်း၊ (ပီတိ)၊

၄။ စိတ်ချမ်းမြေ့ခြင်း (သုခ)၊

၅။ တခြားသို့ ထွက်မသွားတော့ဘဲ (တခြားစိတ်ကူး မဝင်တော့ဘဲ) ထိုပုဂ္ဂိုလ် အပေါ်၌သာ သက်ဝင်စူးစိုက်၍ တည်ငြိမ်နေခြင်း၊ (ဧကဂ္ဂတာ=သမာဓိ)။

ထိုအချက်ငါးခုသည် ပထမဈာန်၏ အမှတ်အသားများဖြစ်၏။ ဈာန်အင်္ဂါ (အစိတ်အပိုင်း) ငါးခုခေါ်သည်။ ထိုငါးမျိုးသော သဘောတရားများ ဖြစ်နေပြီဆိုလျှင် ပထမဈာန် ရပြီဟုမှတ်။ ဝိသုဒ္ဓိမဂ်၌ 'အပ္ပနာသမ္ပဝတ္တိ= အပ္ပနာဈာန် ပြည့်စုံ၏' ဟု မိန့်ဆိုလေသည်။

### ဒုတိယဈာန် စသည်

(၁) ပထမဈာန်။ ။ထိုငါးချက်တွင် အာရုံကို ကြံစည်စိတ်ကူးနေရမှု (ဝါ) မေတ္တာပို့ရမည့်သူကို မပေါ်ပေါ်အောင် ရွေးထုတ်၍ စိတ်ကူးဖြင့် ပုံဖော်နေမှု (ဝိတက်)နှင့် စဉ်းစားဆင်ခြင်နေရသေးမှု (ဝိစာရ) ရှိနေသဖြင့် အားမကောင်းတတ်၊ ဈာန်ဝင်စားနေတုန်း ဘေးက အသံဗလံစသည် အတိုက်ကြမ်းလာလျှင် ပျက်ပြယ်သွားနိုင်သေး၏။

ယင်းသို့ ပျက်သွားသည်ကို 'ဈာန်မှုထသည်' ဟုခေါ်သည်။ ထို့ကြောင့် ခိုင်မာအားကောင်းတဲ့ ဈာန်စိတ်ဖြစ်အောင် ထိုအာရုံတစ်ခုထဲကို စွဲစွဲမြဲမြဲ သဲသဲမဲမဲ စူးစိုက်နေအောင် အထပ်ထပ်ပွားပါ။

(၂) ဒုတိယဈာန်။ ။အာရုံကို ကြံစည်စိတ်ကူးနေရမှု၊ စဉ်းစားနေရမှု မရှိတော့ဘဲ ခုအောက်မေ့ကြည့် ခုချက်ချင်း ထင်မြင်လာလျှင် ကြမ်းတမ်းသော ဝိတက်, ဝိစာရမှ လွန်မြောက်သွားပြီဟု ဆိုရ၏။ အာရုံကို တမင်ကြောင့်ကြစိုက်၍ စိတ်ကူးစဉ်းစား ပုံဖော်မနေရတော့သဖြင့် သမာဓိပို၍ အားကောင်းလာလိမ့်မည်။ ပီတိသုခများ ရှေးကထက်ပို၍ ထင်ရှားလာလိမ့်မည်။

ဝမ်းမြောက်တက်ကြွမှု (ပီတိ)မှာ အထင်ရှားဆုံးဖြစ်ကာ ရှေ့တန်းသို့ ထွက်လာလိမ့်မည်။ ဤသည်ပင် ဒုတိယဈာန်ရောက်နေသော အမှတ်အသားများ ဖြစ်၏။

(၃) တတိယဈာန်။ ။ဝမ်းမြောက်တက်ကြွမှုကိုလည်း ကြမ်းတမ်းသော အရသာဟု မြင်လာပြီးနောက် ဝမ်းမြောက်တက်ကြွနေမှုကိုပင် မလိုလားဘဲ ထိုမေတ္တာခံ ပုဂ္ဂိုလ်ကိုသာ အထပ်ထပ် ရှုပွားသော်အခါ ပီတိသဘော မရှိ။ ချမ်းသာမှု (သုခ) နှင့်တည်ငြိမ်နေမှု (သမာဓိ) များသာ ထင်ရှားလာလိမ့်မည်။ တတိယဈာန်သို့ ရောက်နေပြီဟုမှတ်။

(၄) စတုတ္ထဈာန်။ ။ထို့နောက် စိတ်ချမ်းသာမှုကိုပင် ကြမ်းတမ်းသေးသည်ဟု ထင်မြင်လာကာ ချမ်းသာရမှုကိုပင် မလိုလား။ မေတ္တာခံ ပုဂ္ဂိုလ်အပေါ် အထူးအားမထုတ်ရဘဲ အလွယ်တကူ အာရုံကျရောက်ရုံသာ ကျရောက်၍ တည်ငြိမ်နေလိမ့်မည်။

ချမ်းသာ ဆင်းရဲခြင်း မရှိ၊ ကမ္ဘသကတာ အမြင်အရ ချမ်းသာစေလိုခြင်း၊ သနားခြင်း၊ ဝမ်းမြောက်ခြင်းများ မဖြစ်။ စူးစူးစိုက်စိုက် အားမစိုက်ရဘဲ 'ကမ္ဘ သတ္တေ ဝိဘဇတိ သတ္တဝါသဘော' သိရုံသာ သိနေလိမ့်မည်။ စတုတ္ထဈာန်၏ အမှတ်အသားပင်တည်း။ (စတုက္ကနည်းအရ ပြဆိုခြင်းဖြစ်သည်။)

### လျှော်ထမ်းသမား

မြန်မာနိုင်ငံ၌ ယင်းသို့ ဈာန်လမ်း၊ မဂ်လမ်းများ လမ်းစပျောက်ကာ ပဋိပတ်ရေကြောကြီး ငုပ်ကွယ်နေသည်ကို မဖော်ထုတ်နိုင်ခဲ့ကြသဖြင့် သီလ ကိုသာ အစွမ်းကုန်ဖြည့်၍ ဓုတင်တွေကိုသာဖိ၍ လုပ်ခဲ့ကြရဖူးသည်။ ရသေ့စိတ်ဖြေ **စိတ်ပုတီးတချောက်ချောက်** နှင့်သာ တစ်ဘဝကုန်ခဲ့ကြရသည်။ အချိန်အခါကို သိကြကုန်။

ကျောက်သံပတ္တမြားတွေကို တွေ့ရသော်လည်း ယခင်ကတည်းက ထမ်းလာရသော လျှော်စည်းကို မပစ်ရက်သဖြင့် အဖိုးအနဂ္ဃထိုက်သော ရတနာတို့မှ လွဲချော်နေရသူကဲ့သို့ မဖြစ်သင့်တော့ပြီ။

### စတုတ္ထအကြိမ်

## မေတ္တာအကျိုး ၁၁–မျိုး

ဈာန်အလုပ်သည် အာရုံတစ်ခုတည်းကိုသာ ရှုကြည့်ရ၍ ဝိပဿနာ အလုပ်သည် အာရုံအများကို ဖြန့်ပွားရှုကြည့်ရသည်ဖြစ်ရာ တစ်ခုကို မိုင်မှ (ဝါ) ဈာန်ဝင်စားနိုင်မှ အခြားအာရုံ (ပုဂ္ဂိုလ်၊ အရပ်မျက်နှာ) တစ်ခုသို့ ကူးပြောင်းရသည်။ အနည်းဆုံး ဥပစာရဈာန်လောက်ရမှ ကူးပြောင်းရ၏။

နောက်က ပြခဲ့သော "သဗ္ဗေ သတ္တာ အဝေရာ ဟောန္တု" စသော ၅၂၈– ပွားနည်းများနှင့် ပဋိသမ္ဘိဒါမဂ်လာ အရပ်ဆယ်မျက်နှာ ပွားနည်းများမှာ **တကယ် ဈာန်ရပြီးသူတို့ ပွားများပုံကိုသာ** ပြဆိုခြင်းဖြစ်၏။

ယခုကာလ ထိုအကျယ်ပွားနည်းများကို အသုံးပြုနေကြသည်မှာ ပါရမီ ကုသိုလ်ဖြစ် ပွားများနေခြင်းသာဖြစ်သည်။ တကယ့် ၅၂၈–မေတ္တာစစ် မဟုတ်သေး။

"အိပ်,နိုး ချမ်းသာ၊ ကောင်းစွာအိပ်မက်၊ ချစ်လျက်လူ,နတ်၊ စောင့်လတ်နတ်များ၊ မီး, ဆိပ်, ဓားတို့၊ ရှောင်ရှားကိုယ်မှာ၊ လျင်စွာ စိတ်တည်၊ ရွှင်ကြည်မျက်နှာ၊ သေခါမတွေ၊ လားလေဗြဟ္မာ၊ ဆယ့်တစ်ဖြာ သည် မေတ္တာပွားမှု အကျိုးတည်း"

'မေတ္တာပွားလျှင် အကျိုး၁၁–ပါး ရသည်' ဆိုခြင်းမှာလည်း အထက်ပါ အတိုင်း ဈာန်ရသူတို့သာ ရနိုင်သော အကျိုးများဖြစ်၏။ ပါရမီကုသိုလ်ဖြစ် ပွားများသူတို့ကား မိမိတို့ သမာဓိအလျောက်သာ အကျိုးရနိုင်မည်ဖြစ်၏။ (ပါဠိတော်တို့၌ 'မဟာဂ္ဂတေန စေတသာ' ပုဒ်ကို ထောက်ရန်။)

## အနာဂါမ်နှင့်တူသော သောတာပန်

အထူးမှတ်သားရန်မှာ ပုထုဇဉ်သည် မေတ္တာဈာန်ကို ရသော်လည်း သုဒ္ဓါဝါသဘုံသို့ကား မရောက်နိုင်ချေ။ ဝိပဿနာရှု၍ ဈာန်ပင် မရစေကာမူ အနာဂါမ်ဖြစ်သွားသော ပုဂ္ဂိုလ်များ သုဒ္ဓါဝါသဘုံသို့ ရောက်နိုင်၏။

အနာဂါမ်ပုဂ္ဂိုလ်အတွက် စတုတ္ထဈာန်သည် အခက်အခဲမရှိ ရနိုင်သော ကြောင့်ဖြစ်သည်။ ထို့ကြောင့် ဝိပဿနာယောဂီများ မေတ္တာဈာန်ကို ပူးတွဲ ပွားနေလျှင် လွယ်ကူစွာ အောင်မြင်နိုင်၏။ ဈာန်ရလျှင် တန်ခိုးအဘိညာဉ်ကိစ္စ သည် အခက်အခဲ တစ်စုံတစ်ရာ မရှိတော့ပြီ။

မေတ္တာဈာန်အခြေခံ၍ အောက်ထစ်ဆုံး သောတာပန် ဖြစ်သွားလျှင်ပင် **'ဈာန်အနာဂါမ်ပုဂ္ဂိုလ်'** ဟု ခေါ်ရ၏။ အနာဂါမ်ပုဂ္ဂိုလ်အလား ဗြဟ္မာ့ပြည်မှ ဆင်းကာ ကာမဘုံသို့ ပြန်၍ မလာရတော့ပြီ။

မေတ္တာဈာန်ဖြင့် သောတာပန်ဖြစ်သူနှင့် သုဒ္ဓ ဝိပဿနာ (ဝိပဿနာ

သက်သက်)ဖြင့် အနာဂါမ်ဖြစ်သူမှာ ကိလေသာ အနည်းအများ ခြားနားသော်လည်း ဖြစ်ရာဘုံဘဝအားဖြင့် ခြားနားမှု မရှိ။ အခွင့်အရေး တူညီနေသောကြောင့်တည်း။ အားကျဖွယ် ကောင်းလေစွ။

အရိယာအင်အားကြီးနှင့် တွဲစပ်နိုင်သော မေတ္တာအင်အားသည် ပို၍ အားရဖွယ် ကောင်းလှပေသည်။ မေတ္တာဈာန် မရသော အောက်တန်းအရိယာများ နတ်ပြည်လောကတွင် 'သောင်တင်နေ' ရသည်မှာ အဘယ့်ကြောင့်ဟု နားလည် သင့်ကုန်၏။

ကာမဂုဏ်တောထဲ၌ အရိယာအဖြစ်ဖြင့် နေရသည်မှာလည်း ကျပ်တည်း ကျဉ်းမြောင်းလှပေစွ။

နတ်ပြည်မှာ တစ်ထောက်နားရင်းနှင့်မှ လက်မှတ်ယူလိုသူများ စဉ်းစား ကြရာ၏။

## မေတ္တာဈာန်မှာ လမ်းမဆုံးစေနှင့်

မေတ္တာကမ္မဋ္ဌာန်းနှင့်စပ်၍ မြတ်စွာဘုရားရှင်၏ အလိုဆန္ဒတော်ကား ၃၁– ဘုံတွင် မည်သည့်ဘုံ၌မျှ နောက်တစ်ဖန် ပဋိသန္ဓေ မဖြစ်စေရတော့အောင် အရဟတ္တဖိုလ်အထိ ပေါက်မြောက်စေတော်မူလို၏။

မစင်ကျင်းကြီးဟူသည် မီးခြစ်ဆံတစ်ကော်မျှသာ ရှိသော်လည်း အနံ့ကောင်း မထွက်၊ နတ်သုဒ္ဓါထဲ မစင်တစ်ရွေးသားကျလျှင် ပျက်ရတော့သကဲ့သို့ ၃၁–ဘုံ၌ အပြစ်ကင်းစင်သော စင်းလုံးချော ချမ်းသာဟူ၍ မရှိချေ။

အသက်ရှည်သမျှ ဒုက္ခရှည်နေခြင်းပင် ဖြစ်တော့သည်။

ထို့ကြောင့်လည်း 'တင်ပျဉ်တစ်ခွေတည်းဖြင့် အရဟတ္တဖိုလ် မရသမျှ ငါ မထတော့ဘူး'ဟူသော ဆန္ဒဖြင့် ဤဘဝ၌ပင် အပြတ်လုပ်နိုင်သူမျိုးသာ ဘုရားရှင် လိုလားမျှော်လင့်တော်မူလေသည်။ (မူလပဏ္ဏာသ မဟာဂေါသိင်္ဂသုတ်။) ထိုသို့ လုပ်လျှင် ရနိုင်သည်ကို မြင်တော်မူ၍လည်း သာသနာ ထားတော်မူခဲ့ခြင်း ဖြစ် သည်။

ဈာန်ချမ်းသာသည် ၃၁–ဘုံ လောကီနယ်၌ အကောင်းဆုံး ရတနာဖြစ်၏။ သို့ရာတွင် မေတ္တာဈာန် အစွမ်းကြောင့် ချမ်းသာသက်ရှည်သော ဗြဟ္မာမင်းကြီးပင် ဖြစ်ရစေကာမူ ဈာန်အရှိန်ကုန်က အောက်သို့ စုန်ကျရမြဲကား မလွဲချေ။ 'ဗြဟ္မာပြည်မှာ တဝင်းဝင်း၊ ဝက်စာကျင်းမှာ တမြုံ့မြုံ့' ဆိုသကဲ့သို့ ဈာန်အင်အားလည်း ကုန်၊ ဈာန်ရအောင် ထူထောင်ထားသော ကာမာဝစရ ဥပစာရ သမာဓိ ကုသိုလ်အဟုန်လည်း ကုန်ဆုံးသွားသောအခါ အပါယ်လေးဘုံသို့ ကျရောက်သွားနိုင်လေသည်။

ဈာန်ရဖူးသော ငရဲသားနှင့် ခွေး၊ ဝက်၊ ကြက်၊ ငှက်ပင် မရေမတွက်နိုင်တော့ချေ။

ထို့ကြောင့်လည်း မေတ္တာသုတ်ကို ဟောတော်မူရာ၌–

"ဒိဋ္ဌိဉ္စ အနုပဂမ္မ၊ သီလဝါ ဒဿနေန သမ္ပန္နော" စသော ဂါထာဖြင့် နိဂုံးချုပ်ဆုံးမတော်မူခဲ့၏။ မေတ္တာဈာန်ကို အခြေခံကာ အောက်ထစ်ဆုံး အတ္တဒိဋ္ဌိကွာသော သောတာပန်မှသည် အရဟတ္တဖိုလ်တိုင်အောင် အားသွန် လေ့ကျင့်စေတော်မူလိုပေသည်။

## သနားစရာ ယောဂကျင့်စဉ်၊ ဈင် နှင့် ဂန္ဓာရီ

ဈာန်ချမ်းသာမျှဖြင့် ယနေ့ ဖြဟ္မာကြီး ဖြစ်နေသော်လည်း နက်ဖြန်အဝီစိရောက်နိုင်သည်ကို မြင်တော်မူသောကြောင့်ဖြစ်သည်။ ဗြဟ္မာဖြစ်ဖူးသော ခွေးတွေ၊ ဝက်တွေ ရှောင်မလွတ်အောင် တွေ့နေရသောကြောင့်ဖြစ်သည်။

ဓနဉ္ဇာနိ ပုဏ္ဏားကြီး သေခါနီး နှာရိဝက်ခန့်အလို အရှင်သာရိပုတ္တရာဟောပြသော ဗြဟ္မဝိဟာရကျင့်စဉ်ကြောင့် ကွယ်လွန်သောအခါ ဗြဟ္မာ့ပြည်သို့ ရောက်သွားသည်ကို ထောက်လျှင် လောကီနယ်ပယ်၌ ခုရောနောင်ပါ ကမ္ဘာအသချေ အကောင်းဆုံးသော ချမ်းသာကြီးကို ပေးစွမ်းနိုင်သော မေတ္တာကမ္မဋ္ဌာန်းအတွက်ဘာမျှ အခက်အခဲမရှိကြောင်း သိသာလှပေ၏။

ယင်းသို့ဆိုသော် ယခုအခါ ဟိန္ဒူယောဂကျင့်စဉ်များ သမထ အနံ့အသက်မျှသာပါသော အနောက်တိုင်း စိတ်ပညာ၊ ဈင်ကျင့်စဉ်နှင့် ဂန္ဓာရီများကို ပြောဟော ရေးသား လေ့လာနေကြသည်မှာ လောကီလောကုတ္တရာ စွယ်စုံပညာရှိ သူတော်ကောင်းကြီးများအမြင်၌ ကရုဏာသက်ဖွယ် ဖြစ်နေပေလိမ့်မည်။

## ရှင်သာရိပုတ္တရာ မြည်တွန်စံရခြင်း

အတုမရှိ မြင့်မြတ်၍ ကျင့်ကြံလိုက်နာရာ၌ အလွန်လွယ်ကူလှသော ရှင်းလင်းပေါ်လွင်လှသော မြတ်စွာဘုရားရှင်၏ ဘက်စုံသာသနာတော်ကြီးနှင့် ကြုံကြိုက်ရသောအခါ တစ်လောကလုံးတွင် အထွတ်အထိပ်ဖြစ်သော ဈာန်ချမ်းသာကြီးပင် စင်စစ်အားရကျေနပ်ဖွယ် မဟုတ်သေး။ ထို့ကြောင့် ဓနဉ္ဇာနိပုဏ္ဏားကြီးအားတရားဟောပြီး ပြန်လာသူ အရှင်သာရိပုတ္တရာအား ဘုရားရှင်က ဆီး၍ မြည်တွန်တော်မူခဲ့ဖူးလေသည်။

"ချစ်သား၊ သာရိပုတ္တရာ၊ ငါဘုရား သာသနာ၌ ဗြဟ္မဝိဟာရ ဈာန်ကျင့်စဉ်ထက် မြင့်မြတ်သော အရိယမဂ်ဖိုလ် ရစေနိုင်သော ကျင့်စဉ်များရှိပါ

လျက် ခနဥ္စာနိကို ယုတ်ည့်တဲ့ဖြဟ္မာပြည်သို့ ပို့ပြီး ထလာခဲ့သကိုး"ဟု မိန့်ဆို အပြစ်တင်တော်မူရာ အရှင်သာရိပုတ္တရာ ဗြဟ္မာ့ပြည်ကြွ၍ သစ္စာ ၄-ပါး လိုက်လံ ဟောရသေးကြောင်း (အဋ္ဌကထာ ဆရာက)ဖော်ပြခဲ့လေသည်။

ဈာန်သမာပတ်ဟူသည် သာသနာပ ကာလမှာပင် ရနိုင်သော ကျင့်စဉ်ဖြစ်၍ ထိုမျှနှင့် အားရနေပါလျှင် သာသနာနှင့် ကြုံရကျိုးမနပ်ချေ။

## မေတ္တာဈာန်မှ ဝိပဿနာတက်နည်း

ပြဆိုပြီး အကြောင်းများကြောင့် လောကီနယ်ပယ်၌လည်း ငြိမ်းချမ်း သာယာ အန္တရာယ်လွတ်ကင်း ဘေးရန်ရှင်းပေးသော မေတ္တာဈာန်လည်း ရစေ၊ ဘဝသံသရာ၌ အမာခံ အနှစ်တည်သော အရိယာ သူတော်ကောင်းလည်း ဖြစ်စေ နိုင်သော မြတ်စွာဘုရား သာသနာသည် အခွင့်သာလှပေ၏။

ယခု မေတ္တာဈာန်မှ ဝိပဿနာ ကူးပြောင်းပုံကို ဆက်၍ ပြဆိုပါဦးအံ့။

မေတ္တာဈာန်ဝင်စားသူသည် အာရုံတစ်ခုတည်းအပေါ်၌ အကြိမ်ပေါင်း ထောင်သောင်းချီ၍ ထိုသူ ချမ်းသာကြီးပွားစေလိုသောစိတ် ဖြစ်နေ၏။ ထိုစိတ်ကို ဈာန်စိတ် (မဟဂ္ဂုတ်စိတ်) ခေါ်၏။ ထိုစိတ်ဖြစ်ပေါ်စေရန် သမာဓိ စတင်မွေးမြူသော မူလ မေတ္တာစိတ်မှာ ကာမာဝစရ ကုသိုလ်စိတ် ဖြစ်သည်။

အပြင် အဖျက်အဆီးအာရုံ တစ်စုံတစ်ခုကြောင့်ဖြစ်စေ၊ ဝိပဿနာရှုရန် အလို့ငှာဖြစ်စေ၊ ဈာန်ဝင်စားခြင်းမှ ရပ်စဲသွားသည်ကို **'ဈာန်မှ ထသည်'** ဟုခေါ်၏။ ဈာန်မှ ထလျှင် မဟဂ္ဂုတ်စိတ်အစား ကာမာဝစရကုသိုလ်စိတ် ပြန်၍ ဖြစ်လာသည်။

## ဈာန်နှင့် ဝိပဿနာ ပူးတွဲသွားပုံ

ဝိပဿနာ ရှုပွားခြင်းသည် အနိစ္စ၊ ဒုက္ခ၊ အနတ္တ လက္ခဏာရေး သုံးပါး မြင်အောင် ရှုပွားခြင်းဖြစ်သည်။ ပဋ္ဌာန်းပါဠိတော်၌ ဈာန်မှ ဝိပဿနာ ကူးပြောင်းပုံကို .....

၁။ "ဈာနာ ဝုဋ္ဌဟိတွာ ဈာနံ ပစ္စဝေက္ခတိ၊ ..... ဝိပဿတိ = ဈာန်မှ ထပြီးလျှင် ထိုဝင်စားသော ဈာန်စိတ်ကိုပင် ဆင်ခြင်ပြီးနောက် လက္ခဏာရေး သုံးပါး ရှုရသည်။" ဟု ဟောတော်မူ၏။ (ထိုဈာန် စိတ်ကလေးသည် အမြဲမရှိပုံ စသည်။)

၂။ အင်္ဂုတ္တရ၊ ဒုတိယ မေတ္တာသုတ်၌-"ယဒေဝ ရူပဂတံ" စသည်ဖြင့် ဈာန်စိတ် (ဝိညာဏ်) နှင့် အတူတကွ ပူးတွဲဖြစ်ပေါ်နေသော ရုပ်၊ ဝေဒနာ၊ သညာ၊ သင်္ခါရတို့ကို အနိစ္စ စသည်ဖြင့် ရှုရမည်ဟု

ဟောတော်မူ၏။ (နိကာယ်ကဏ္ဍ၊ ၁၅-'ဖြဟ္မာပြည်သွား ဖြဟ္မစိုရ်ရထား' ရှု) ၊အံ-နဝက-ဈာနသုတ်အဖွင့် အံ-ဋ္ဌ-၃၊၂၇ ၌လည်း ဈာန်စိတ်၏ မှီရာတည်ရာ ရုပ်နှင့် ဈာန်စိတ်ကြောင့် အသစ်အသစ် ဖြစ်ပွားသော ရုပ် စသည် ရှုရပုံကို ဖွင့်ပြထား၏။

၃။ ဈာန်မှထပြီးလျှင် ထိုဈာန်စိတ်ကိုပင် ဝိပဿနာ ရှုသည်ဆိုခြင်းမှာ ဈာန်ဝင်စားလိုက်, ထိုဝင်စားသော ဈာန်စိတ်ကိုပင် ဝိပဿနာ ရှုလိုက် လုပ်ရခြင်းဖြစ်၏။ ဈာန် (သမထ) နှင့် ဝိပဿနာကို တွဲ၍ တွဲ၍ ရှုပွားသောနည်းဖြစ်သဖြင့် 'ယုဂနဒ္ဓ=ထမ်းပိုးထမ်းရှုနည်း' ဟုခေါ်သည်။

"ရှေ့စိတ်သွားဘိ
နောက်စိတ်သိ
သိတိုင်း ကိလေစင်"

ဤ၌ ရှေ့စိတ်က ဈာန်ဝင်စားသော မဟဂ္ဂုတ်စိတ်၊ ထိုစိတ်ကို နောက်က လိုက်၍ ဝိပဿနာရှုသော စိတ်က ကာမကုသိုလ်စိတ်။

## နာမ်ရုပ်ကွဲခါ ဒိဋ္ဌိကွာ

ဈာန်မှထပြီး ဝိပဿနာ ရှုသောအခါ ထိထိမိမိ မရှိလျှင်၊ ကိုယ်စိတ် ပင်ပန်းလာလျှင် အသိ, အမှတ်, အရှု ကျဲနေသေးလျှင် မူလဈာန်ကိုပင် ပြန်၍ ဝင်စားပါ။ ဈာန်နှင့် ဝိပဿနာ လွန်းထိုးရှုပွားသွားလျှင် "ချမ်းသာပါစေ" ဟု နှလုံးသွင်းနေသော ဈာန်စိတ်က တခြား၊ နောက်ကလိုက်၍ ရှုနေသော ရှုသိစိတ် (ကာမစိတ်)က တခြားဖြစ်နေသည်ကို သဲသဲကွဲကွဲ တွေ့မြင်လာမည်။

တစ်ဖန် ထိုကြဲသိသော စိတ်သည် ဤရုပ်ကိုယ်၌ပင် မှီတွယ်နေပုံ ရုပ် တခြား နာမ်တခြားဖြစ်ပုံ (နာမရူပ ပရိစ္ဆေဒ) စသည် အသိအမြင်များ ရှင်း၍ရှင်း၍ လာလိမ့်မည်။ ပယင်းပုတီးလုံးနှင့် ပုတီးအတွင်း၌ သီထားသော ကြိုးနှစ်မျိုးလုံးကိုပင် အတူတကွ ရှိနေသော်လည်း တခြားစီပင်ဖြစ်ကြောင်း မြင်နေရသကဲ့သို့ မြင်ရ၏။ (နာမ်ရုပ်ကွဲပုံ ဘုရားဟောတော်မူသော ဥပမာဖြစ်၏။ ရှင်းလှပေသည်။ သာမည ဖလသုတ်။)

ထိုအခါ "ချမ်းသာပါစေ" ဟု ပုဂ္ဂိုလ်တစ်ဦး၊ သတ္တဝါ တစ်စုံတစ်ဦးကို အာရုံယူ၍ ရှုပွားနေသော မေတ္တာအလုပ်သည် ပညတ်အားဖြင့် လူကောင်, နတ်ကောင် အကောင်အထည်ဖြင့် မ,တည် ပွားပို့ရသော်လည်း "ဒိဋ္ဌိဉ္စ အနုပဂမ္မ" ဟု ဟောတော်မူသည့်အတိုင်း ငါ သူတစ်ပါး ယောကျ်ား မိန်းမ အတ္တလိပ်ပြာ

ကာရက ဝေဒက ဖန်ဆင်းသူ သိသူမရှိ၊ "ရုပ်နာမ်တရားတို့ ကြောင်းကျိုးဆက်သွယ် နေခြင်းမျှသာပါတကား" ဟု အလိုလို နားလည်သွားစေ၏။ အတ္တဒိဋ္ဌိ ကွာလေပြီ။

**ပေါ်ရာပေါ်ရာ မှတ်ရုံသာ**

၃။ ထိုသို့ ချာန်စိတ်မျှလောက်ကိုသာမက ထိုချာန်စိတ်နှင့်အတူတကွ ဖြစ်နေသော ဝေဒနာ၊ သညာ စသော သဘောများနှင့် ထိုချာန်စိတ်ကြောင့် ဖြစ်ပေါ်လာသော ရုပ်တရားများကိုလည်း အသိဉာဏ်ရှင်းရာရှင်းရာ ရှုမှတ်နိုင်၏။ ချာန်စိတ်ကြောင့် ဖြစ်ပေါ်နေသော ရုပ်တရားများသည် တစ်ချိန်ထက်တစ်ချိန် နုပျိုသွက်လက်၍ နူးညံ့၍လာ၏။ စင်ကြယ်သန့်ရှင်း၍လာ၏။ ခံစားမှု (ဝေဒနာ)၊ မှတ်သားမှု (သညာ)၊ စေ့ဆော်တိုက်တွန်းမှု၊ လုံ့လပြုမှု စသည် (သင်္ခါရ)တို့လည်း ချာန်စိတ် (ဝိညာဏက္ခန္ဓာ)နှင့် အတူတကွ ပူးတွဲ ဖြစ်ပေါ် နေသဖြင့် ခန္ဓာငါးပါးလုံးပင် ပေါ့သွက်ကြည်လင်နေတော့၏။

ချာန်ဝင်စားမှုကို ရပ်ဆိုင်းပြီးနောက် တစ်ကိုယ်လုံး (ခန္ဓာငါးပါးလုံး) ပေါ်ရာပေါ်ရာကို အနိစ္စ စသည် ရှုကြည့်ခြင်းကိုပင် ချာန်မှ ဝိပဿနာသို့ ကူးပြောင်း ရှုပွားခြင်းမည်တော့သည်။

**အထူးမှတ်ချက်။** ။ လူကောင်နတ်ကောင် ပညတ်သက်သက်ချည်းကိုပင် ရှုပွားရသော မေတ္တာမှပင် ဝိပဿနာကူးကာ မဂ်ဖိုလ်ရနိုင်ပါသေးလျှင် "ဖောင်းတယ်၊ ပိန်တယ်၊ ကြွတယ်၊ လှမ်းတယ်၊ ချတယ် မှတ်နေတာ ပညတ်ကြီးပဲ၊ ဝိပဿနာဆိုတာ ပညတ်ကို မမှတ်ရဘူး၊ ဒါ့ကြောင့် မှားတယ်၊ ဝါယောဓာတ် စသည်ကိုသာ မှတ်၊ ဝါယော ဓာတ်မှာလဲ လက္ခဏာကိုသာ မှတ်မှ မှန်တယ်" စသည်ဖြင့် ဘုရားရှင် အာဘော်ကိုပင် ကျော်လွန်ကာ မွေးကင်းစကလေးကိုပင် ဒံပေါက် ထမင်းကျွေးသကဲ့သို့ လက်ရှိသတိပဋ္ဌာန်နည်းများကို နားယောင်ရှုပ်ထွေးအောင် ပြောဆိုရေးသား နေကြသည်မှာ အံ့ဖွယ်ကောင်းပေစွ။ စင်စစ် မေတ္တာကဲ့သို့ ပညတ်အာရုံ လည်း မဟုတ်ချေ။

ဝိပဿနာသို့ အချိန်တိုတိုနှင့် ပေါက်ရောက်အောင် ခဏိက သမာဓိ ဖြစ်စေရန် 'ချည်တိုင်' လုပ်ပေးထားခြင်းမျှသာ ဖြစ်သည်ကိုလည်း မမေ့ သင့်ချေ။

## ဈာန်အဘိညာဉ်ရ အရိယာဓေတ်ကောင်းကြီး

ယခုအခါ ယောဂီများအတွက် အသိဉာဏ် ရှုပ်ထွေးစရာ၊ မလုပ်တတ်စရာ မရှိ၊ အလွယ်တကူပင် နားလည်နိုင်ကြ၏။ ဈာန်ဝင်စားပြီးလျှင် ဈာန်စိတ်ကို လက်လွှတ်၍ (ဈာန်မှထ၍) ဝိပဿနာသို့ ကူးပြောင်းလိုလျှင်–

ဖောင်းမှု ပိန်မှုကို ချည်တိုင်ထားသော ယောဂီများ ဖောင်းမှု ပိန်မှုကို ကူးပြောင်းရှုမှတ်ရန်ပင်ဖြစ်၏။

နှာသီးဖျား ချည်တိုင်ထားသူဖြစ်က နှာသီးဖျား ကူးပြောင်း ရှုမှတ်ရန်ပင်ဖြစ်၏။

နောက်ဆုံး တစ်ကိုယ်လုံး ပေါ်ရာပေါ်ရာ အသိဉာဏ် ရှင်းလင်းလွယ်ကူစွာဖြစ်ပျက်မှုကို စူးစိုက်ကြည့်ရှုရုံသာဖြစ်သည်။ လွယ်လှပေ၏။ ဆရာယောင်စကြိ၏စကား နားမယောင်ကြကုန်လင့်။

ယခုအခါ ယောဂီတို့အတွက် တရားတိုးတက်လွယ်သော မေတ္တာ အလုပ်သည် ဘာမျှ အခက်အခဲ မဟုတ်တော့ပြီ။

ယင်းသို့ ရှုမှတ်သွားရာ အာရုံကိုလည်း အထူးကြောင့်ကြ မစိုက်ရ၊ အလိုလို ပေါ်ထင်၍နေ၏။ ရှုသိစိတ်လည်း တမင် အားမစိုက်ရ။ ရှဉ်းစုံကောင်းသော နွားလှည်းယဉ်ပေါ် လိုက်ပါစီးနင်းသွားရသကဲ့သို့ အာရုံနှင့် ရှုသိစိတ်သည် အလွယ်တကူပင် ချိန်ချက်မိနေရာ (သခ်ါရုပေက္ခာဉာဏ်) အတန်ကြာလျှင် ရှုစရာအာရုံရော ရှုသိစိတ်ပါ ချုပ်ငြိမ်းရာသို့ ပြေးဝင်သွားလေတော့၏။ (နံပဟိ ဓာတုဂ္ဂဏ္ဍသေယျ ပုနရေတိ။)

ဤကား ဈာနလာဘီ အရိယာစခန်း အမြွက်မျှဖြင့် ပြည့်စုံအောင် ပြဿနာရခြင်းဖြစ်၏။

လောကီ, လောကုတ္တရာ လိုရာအကုန်ပြီးသော ဈာန်အဘိညာဉ်ရ အရိယာကြီးများ ဖြစ်ထွန်းပေါ်ပေါက်ရန် ဘုရားရှင်၏ အဆုံးအမတော် နည်းစနစ်ကား လွယ်ကူလှပေစွ။ 'မာ ဝေါ ခဏံ ဥပစ္စဂါ'=အခွင့်ကောင်း, အခါကောင်း, ဘဝကောင်းကြီးကို လက်မလွှတ်ကြစေရာ။



**စည်းလုံးခြင်းနှင့်ကွဲပြားခြင်း**

မူလဘူတ ဓာတ်ကြီးလေးပါးကို ဆွဲငင်ပေါင်းစည်းပေးသော အရာမှာ မေတ္တာဖြစ်၍ ကွဲပြားအောင် ပြုလုပ်သောအရာမှာ မုန်းတီးမှု (ဒေါသ)ပင်ဖြစ်သည်။

**အင်ပီဒေါ့ကလီ**

**မေတ္တာဝါဒ၊ ၅။**

မိမိမေတ္တာပွားပို့ခြင်းကြောင့် ကမ္ဘာသူ–ကမ္ဘာသား၊ ၃၁–ဘုံသူ၊ ၃၁–ဘုံသားတို့ အအေးဓာတ်ကူးကာ ချမ်းသာနိုင်သည့် သဘောသည် မည်သည့်ရှုထောင့်၊ မည်သည့်အမြင်အရ မဆို ထင်ရှားလှပေသည်။ ကျေနပ်ထိုက်လှပေသည်။ ယုံကြည် အားကိုးထိုက်လှပေသည်။

**စတုတ္ထအကြိမ်**



# အခန်း (၇)

# ကိုယ်တွေ့ မေတ္တာပွားနည်း



**အတုမဲ့ ရောင်ခြည်တော်လျှိုင်း**

ယခုအခါ မည်မျှ အစွမ်းထက်၍ ကမ္ဘာ့ဂုဏ်ဟိုး အသီးသီးသို့ တက်ရောက်နေသော မည်သည့်လက်နက် စက်ကိရိယာမဆို ကမ္မနိယာမ ပညာရှင်က ထုတ်လုပ်ထားသော လူသားခန္ဓာကိုယ်တည်ဆောက်မှုလောက် စက်ကိရိယာများပြားခြင်းမရှိ၊ သိမ်မွေ့ခြင်း မရှိ၊ ထက်မြက်ခြင်း မရှိ။

ယနေ့ ထက်မြက်လှပါသည်ဆိုသော စစ်လက်နက် ကိရိယာအားလုံးသည် လူသားစက်ရုံကလေးမှ ထုတ်လုပ်ပေးလိုက်သော သာမန် စက်ကိရိယာကလေးများသာ ဖြစ်ချေသည်။

ယင်းသို့ဆိုသော် စက်ကိရိယာ အစုံလင်ဆုံး၊ အသိမ်မွေ့ဆုံး၊ အထက်မြက်ဆုံးသော သဘာဝလူသား ကမ္ဘာ့လူသား (ကိုယ်ခန္ဓာ) စက်ယန္တရားမှ ထုတ်လွှတ်ပစ်ပေါက်လိုက်သော (မေတ္တာစသော) ရောင်ခြည်တော်လျှိုင်းများကို ကြံ့ကြံ့ခံနိုင်ပါအံ့နည်း။

(မေတ္တာဝါဒ ၂၂၆–ရှုပါ)

**ကိုယ်တွေ့ မေတ္တာပွားနည်းများ**

- မေတ္တာပွားပို့စဉ် စိတ်ထားနည်း
- ချင်းချောင်း နန်းသစ်တက်ပွဲမှ
  ဆည်ကြီးဆရာတော်၏ မေတ္တာ
- ဗုဒ္ဓ၏ မေတ္တာနှင့် ဗုဒ္ဓ၏တရားပွဲများ
- မေတ္တာဈာန် ထူထောင်နည်း
  (သေကျွတောင် ဆရာတော်)
- မေတ္တာဓာတ်ရိုက်နည်း (မြဝတီဆရာတော်)။

ဗုဒ္ဓအသံစာပေ

**ကိုယ်တွေ့ မေတ္တာပွားနည်းများ**

ဤအခန်း ၇–၌ ကိုယ်တွေ့ မေတ္တာပွားနည်းများကို ဖော်ပြပါအံ့။ မြန်မာနိုင်ငံ၌ ထင်ရှားကျော်ကြား၍ မေတ္တာဘာဝနာကို အထူးလေ့လာ အောင်မြင်တော်မူကြသော နာမည်ကျော် ပညာရှိ သူတော်ကောင်းကြီးများ၏ လက်တွေ့နည်းနာများကို မူရင်းအတိုင်း ဖော်ပြထားပါသည်။

ရှေ့ပိုင်း၌လည်း စပ်ရာစပ်ရာ ကိုယ်တွေ့မေတ္တာပွားပုံများကို အလျဉ်းသင့်သလို ဖော်ပြခဲ့ပြီးဖြစ်၏။ ကျမ်းဂန်၌ လာသော နည်းများမှာ ပညာရှိအများ သိရှိတော်မူကြပြီးပင် ဖြစ်ပါသည်။ 'ဗုဒ္ဓကိုယ်တွေ့ မေတ္တာ အောင်ပွဲများ' (အခန်း–၁) တွင်လည်းကောင်း၊ 'ဗြဟ္မဝိဟာရအဖွင့်' (အခန်း–၆)တွင်လည်းကောင်း ကျယ်ကျယ်ပြန့်ပြန့် ဆူရာဆူရာ ရွေးနုတ်၍ ပြဆိုခဲ့၏။ ယခုဖော်ပြမည့် နည်းများမှာ သိမ်တောင်ဆည်ကြီးဆရာတော်၊ သေက္ခတောင် ဆရာတော်၊ မြဝတီ ဆရာတော်ကြီးများ၏ နည်းနာများ ဖြစ်ပါသည်။

ကျမ်းဂန်နှင့် ချွတ်စွပ်မတူသော်လည်း ဒေသနာနုလောမ= ကျမ်းဂန်နှင့် ဆီလျော်၍ လက်တွေ့အောင်မြင်ခဲ့သော နည်းနာများဖြစ်သဖြင့် အထူးမှတ်သားဖွယ် ကောင်းလှပါသည်။ ကိုယ်တိုင် စမ်းသပ်လေ့ကျင့်၍ ကြည့်သောအခါ အလွန်လွယ်ကူ၍ အလွန်ကျေးဇူးများသော နည်းနာများဖြစ်ကြောင်း တွေ့မြင်ရပါလိမ့်မည်။

## ကောင်းသော အသက်ရှင်နေသူ

သေဒကသုတ်ပါဠိတော် (နိကာယ်ကဏ္ဍ–၃)အရ 'သူ့အကျိုးဆောင်၍ ကိုယ့်အကျိုးအောင်' သော အလုပ်သည် ပြဟ္မဝိဟာရ လုပ်ငန်းသာလျှင် ဖြစ်ကြောင်း ဟောတော်မူ၏။ မိမိမေတ္တာပွားပို့ခြင်းကြောင့် ကမ္ဘာသူကမ္ဘာသား ၃၁–ဘုံသူ၊ ၃၁–ဘုံသားတို့ အအေးဓာတ်ကူးကာ ချမ်းသာနိုင်သည့်သဘောသည် မည်သည့် ရှုထောင့် မည်သည့်အမြင်အရမဆို ထင်ရှားလှပေသည်။ ကျေနပ်ထိုက်လှပေသည်။ ယုံကြည်အားကိုး ထိုက်လှပေသည်။

မေတ္တာပွားခြင်းဖြင့် သတ္တဝါများအတွက် အကောင်းဆုံးသော အကျိုး ဆောင်ခြင်း၊ ဆုလာဘ်ကြီးများကို ဝေငှနေခြင်းပင်ဖြစ်၍ တန်ဖိုးကြီးမြတ်လှသော အသက်ရှင်ရခြင်းဖြစ်ကြောင်း ထင်ရှားလှပေသည်။

ဤခြံ ပို၍ တွင်ကျယ်ပြီးမြောက် ခရီးပေါက်စေရန် မေတ္တာပွားပို့ရာ၌ (အထူးသဖြင့် ကုသိုလ်ဖြစ် ပါရမီ မေတ္တာပွားပို့ရာ၌) စိတ်ထားပုံထားနည်းကို ထပ်မံ သတိပေးသောအားဖြင့် ဖော်ပြလိုပေသည်။

## မေတ္တာပွားပို့စဉ် စိတ်ထားနည်း

၁။ မေတ္တာမပို့မီ မိမိတစ်ကိုယ်လုံး (ရုပ်ကလာပ်၊ နာမ်ကလာပ် များအားလုံး) သန့်စင်သွားစေရန် ဦးစွာ သီလဖြင့် ဆေးကြောပါ။ ပို့လွှတ်ရာ၌ ပို၍ အင်အားကြီးမားစေရန် ဂုဏ်တော်များကို ပွားကာ တစ်ကိုယ်လုံး မွမ်းထုံ ထားရမည်။

၂။ မေတ္တာ၏ သဘောအဓိပ္ပာယ်ကို ကျေညက်အောင် လေ့လာ၍ မေတ္တာအင်အားကို အကြွင်းမဲ့ ယုံကြည်ရမည်။

၃။ အသက်ထင်ရှား ကျေးဇူးများ၍ လေးစားထိုက်သော ဆရာသမား၊ ဘိုးဘွားမိဘနှင့် သာသနာ့အကျိုး၊ သတ္တဝါအကျိုးကို ဆောင်တော်မူနေကြသော ဆရာတော်ကြီးများ၊ အရိယာ သူတော်ကောင်းကြီးများ (အနည်းဆုံး ဆယ်ဦးခန့် သီးသန့်ရွေးကောက်၍) ဦးစွာပို့ရမည်။

၄။ ပြီးလျှင် တိုင်းပြည် မြို့ရွာ အကြီးအကဲများနှင့် အရပ်ဆယ်မျက်နှာ ရှိ သတ္တဝါများ၊ (သို့မဟုတ် တိုင်းပြည်နိုင်ငံများ)ကို လီ၍လီ၍ စိတ်ကို ညွှတ်၍ ညွှတ်၍ တစ်လောကလုံးသို့ မေတ္တာအအေးဓာတ်များ ပို့လွှတ်ရမည်။ (သာသနာ စောင့်နတ်များ၊ ကပ်ဆိုက်နေသော တိုင်းပြည်ဒေသများကို အထူးပို့ပါ။)

၅။ သတ္တဝါအများ ကောင်းစားချမ်းသာစေလိုသော မိမိပို့လွှတ်သည့် မေတ္တာဓာတ်လှိုင်း (နာမ်သတ္တိ)များ မိမိပို့လွှတ်ရာသို့ အမှန်တကယ် ရောက်ရှိသွားပြီ၊

မေတ္တာခံသူများ အမှန်တကယ် ချမ်းသာနေကြပြီဟု စိတ်ထဲက ယုံကြည်ထင်မှတ်နေရမည်။ (မေတ္တာခံသူထံ မိမိမေတ္တာရောက်ကြောင်း သင်ကိုယ်တိုင် သိလာပါလိမ့်မည်။)

၆။ "ငါသည် တစ်လောကလုံး ငြိမ်းချမ်းသာယာရေးအတွက် ဖ၄–ကမ္ဘာတိုင်တိုင် အာနိသင်အား မကုန်ဆုံးနိုင်အောင် အင်အားကြီးမားသော အကောင်းဆုံး အမြတ်ဆုံးကုသိုလ်ကြီးကို လုပ်နေသူဖြစ်သည်" ဟု ဝမ်းမြောက်ကာ အသက်မှန်မှန်ရှူ သက်သာသော အနေအထားဖြင့် အဆက်မပြတ် ပို့လွှတ်ရမည်။

၇။ မိမိခန္ဓာကိုယ်မှ ဖြာထွက်နေသော ကာယရောင်ခြည်လှိုင်း အအေးဓာတ်များသည် မေတ္တာဓာတ်လှိုင်းများနှင့်အတူ စကြဝဠာအနန္တသို့ ကွန့်မြူးပြေလွှားနေကြပြီဟု ဝမ်းမြောက်ရမည်။

၈။ တောတောင်ရေမြေ သမုဒ္ဒရာ စကြဝဠာအနန္တ၊ သတ္တဝါအနန္တဟူသည် အစိုင်အခဲ ဒြပ်ဝတ္ထုဟု ထင်ရသော်လည်း အမြဲဖြစ်ပျက် လှုပ်ရှားနေသော မဟာဘုတ် ကလာပ်မှုန် ကလာပ်မွှား (အဏုမြူရောင်ခြည်လှိုင်း) များသာဖြစ်၍ မည်သည့်ရုပ်နာမ်အင်အား တစ်စုံတစ်ရာကမျှ မိမိပို့လွှတ်သော မေတ္တာဓာတ်လှိုင်းကို မဖျက်ဆီး မဟန့်တားနိုင်ဘဲ မိမိ၏ အလိုဆန္ဒအတိုင်းသာ လိုက်ပါနေကြပြီဟု ယုံကြည်နေရမည်။ (သဗ္ဗံ လောကံ အဘိဘုယျ။)

၉။ ကိစ္စတစ်စုံတစ်ရာ ဆောင်ရွက်ရန် ရှိသောအခါ သွားမည့်နေရာ၊ သွားမည့်ကိစ္စနှင့်စပ်သမျှ တစ်ဦးချင်း မြင်အောင်ကြည့်ပြီး 'ချမ်းသာပါစေ' ဟု မေတ္တာအအေးဓာတ်များကို ကြိုတင်ပို့လွှတ်ထားရမည်။ သတ္တဝါ တစ်စုံ တစ်ဦးနှင့် ကြုံတွေ့ရရာ၌လည်း အလျင်ဦးအောင် မိမိက စတင်မေတ္တာပို့ပေးပါ။ (သို့သော် မိမိအကျိုးရမှု၊ မိမိအား အနှောင့်အယှက် မပေးစေလိုမှုများ အလျှင်း မပါရှိစေရ။ ထိုသူများ ချမ်းသာကောင်းစားစေချင်သည့် စိတ်ကိုသာ ဖြစ်ပွားနေစေရမည်။ နိဝရဏ ငါးပါးကိုကြည့်ပါ။)

၁၀။ တတ်နိုင်လျှင် မေတ္တာခံယူသူ တည်ငြိမ်အေးဆေးစွာ နေချိန်မျိုး (ဥပမာ–ညအိပ်နေချိန်မျိုး)မှာ ပို့လွှတ်ရမည်။ (သို့ရာတွင် အိပ်မွေ့ချသကဲ့သို့ အမိန့်ပေးခြင်း၊ စုံစမ်း စမ်းသပ်ခြင်းမျိုး မဖြစ်စေရ) လိုအပ်လျှင် နိမိတ်ထင်လွယ်အောင် ထိုသူ၏ ကိုယ်လုံးပေါ် ဓာတ်ပုံကို အသုံးပြုနိုင်သည်။

၁၁။ မေတ္တာခံယူသူကို မိမိအနီးအပါး၌ မျက်နှာချင်းဆိုင် ထိုင်လာနေသကဲ့သို့ စိတ်ညွှတ်ယူ၍ ထိုသူ၏ မျက်စိမျက်နှာ ပုံပန်းသဏ္ဌာန်ကို ဓာတ်ပုံရိုက်သကဲ့သို့ ခြေဆုံးခေါင်းဆုံး ကွက်ကွက်ကွင်းကွင်း ထင်အောင် မြင်အောင်ကြည့်ပြီး အထပ်ထပ် ပွားပို့ရမည်။ (သို့ရာတွင် ထိုသူများထံမှ အရိုအသေ ထူးထူး

ခြားခြားပြုခြင်း၊ အကူအညီရခြင်း၊ အထူးသဖြင့် မိမိနှင့်စပ်၍ အထူးအဆန်း အရိပ်နိမိတ်များ တအံ့တသြ ပြုလုပ်ပြောဆိုပြန်ကြားချက်ရလျှင် မိမိကိုယ်ကို အထင်ကြီးခြင်း မရှိစေရ။ အပေါ်စီးစိတ် မဝင်ရ။ 'ဘယ်သူက ငါ့ကို ဘယ်လို ထင်နေမှာပဲ' စသော စလုံးစခုစိတ် မထားရ၊ 'ကျေနပ်စေရမည်၊ ချမ်းသာစေရမည်၊ ချမ်းသာနေပြီ' ဟု စိတ်ချလက်ချ ယူမှတ်ပို့သပါ။)

**ချင်းချောင်းနန်းသစ်တက်ပွဲမှ**
**ဆည်ကြီးဆရာတော်၏ မေတ္တာ**

၁၂၈၂-ခုနှစ်၊ ညထုံမြို့၊ ဖင်းကျိုက်တောင်၏မြောက်ဘက် ကတွန်မိုင်း အတွင်း ချင်းချောင်းသူဌေးက ဆောက်လုပ်သော စံကျောင်း၌ လယ်တီဆရာတော် ဘုရားကြီး ဝါကပ်ရာ ဦးဇဝနလည်း လိုက်ပါသွားရ၏။

ထိုဌ၌နေစဉ်.....

"မောင်ဇဝန၊ ပညတ် ပရမတ် ခွဲပုံနှင့် အနုသယဓာတ်ကြီးအကြောင်း စာမသင်ဘူးတဲ့လူတွေ သဘောပေါက်အောင် ဥပမာပြပြီး ကျကျနန ရေးစမ်း" ဟု ဆရာတော်ဘုရားကြီးက အမိန့်ရှိ၍ စမ်းရေးထားရာ ထိုစာကို အတူနေ ဦးဋေယျ ကိုယ်တော်က ဆရာတော်ကြီးအား သွားရောက်ဖတ်ပြရာ.....

"အေး.....ကောင်းသကွယ့်၊ အကျယ်ရေးဦး"ဟု မိန့်တော်မူသည်။ အကြောင်းအမျိုးမျိုးကြောင့် ၁၃၁၂-ခုနှစ်၊ ကဆုန်လပြည့်နေ့ရောက်မှသာ ရေးပြီးတော့သည်။ 'အရိယာ ဝိဇ္ဇာမဂ္ဂ အလင်းပြကျမ်း' ဟုခေါ်သည်။

ထိုကျမ်း၌ အရိယဝိဇ္ဇာနှင့် လောကီယဝိဇ္ဇာ ခြားနားပုံ၊ လောကီ ဝိဇ္ဇာဓိုရ်ကြီးများ တန်ခိုးဖြင့် လိမ်လည်လှည့်စားကြပုံများကိုပါ အထူးရေးသားထားသည်မှာ မှတ်သား ဖွယ် ကောင်းလှ၏။ (ယင်းကျမ်း ၃၆၈။)

လယ်တီဆရာတော်ဘုရားကြီးသည်.....ခုနှစ်လောက်က ရန်ကုန်မြို့တွင် ချင်းချောင်းသူဌေး ဆောက်လုပ်ထားသော ချင်းချောင်းနန်းတော်ကြီး ပြီးစီး၍ နန်းသစ်ဖွင့်ပွဲ စံကျောင်းအဖြစ်လှူရာ ဦးဇဝနလည်း လိုက်ပါလာရသည်။

ထိုအတွင်း ဒလပျော်ဘွယ်ဆရာသက်ကြီးထံသွားရာ ပျော်ဘွယ် ဆရာသက်ကြီး ဇရပ်၌ ကံဒွါရ ပြေငြိမ်းရေးတရား ဟောရသည်။ ရန်ကုန်သို့ ရောက်လျှင် ဆရာတော်ဘုရားကြီးက.....

"ဒကာသက်တို့ဆီမှာ ဘာတရားတွေ ဟောခဲ့သလဲ" မေး၍ အကျိုးအကြောင်း လျှောက်ထားရာ ဆရာတော်ဘုရားကြီးကပင် နာချင်သည်ဆို၍ ဦးဇဝနက ထပ်၍ ဟောပြရသည်။ သာဓု ခေါ်တော်မူ၏။

ထိုချင်းချောင်းနန်းသစ်ဖွင့်ပွဲ၌ လယ်တီဆရာတော်ဘုရားကြီး ညစဉ် တရားဟောတော်မူရာ ပရိသတ်များအလွန်စည်ကားလှသည်။ သို့ရာတွင် လူသာမန် တို့ နားမလည်နိုင်သော အနှောင့် အယှက် အခက်အခဲ တစ်စုံတစ်ရာ ရှိဟန် တူလေသည်။ အဘယ်ကြောင့်ဆိုသော် တစ်ရက်နှစ်ရက် တရားဟောပြီးနောက် ဆရာတော်ဘုရားကြီးက–

"မောင်ဇဝနရေ၊ တို့များ ရှေ့က တရားဟောနေရင် မင်းက နောက်က နေပြီး 'မှန်ကူကွက်' လိုက်ပေးစမ်းပါကွယ်"ဟု မိန့်တော်မူ၏။ ('မှန်ကူကွက်' ဆိုသည်မှာ မေတ္တာပွားပို့ခြင်းကို ဆိုလို၏။) ဦးဇဝနလည်း ဆရာတော်ဘုရားကြီး၏ အမိန့်အရ ခါတိုင်းထက် အထူးကြိုးစား၍ မေတ္တာဘာဝနာ ပွားပို့ရလေ၏။ တစ်ရက်နှစ်ရက်ရှိလျှင်.....

"မောင်ဇဝန၊ မင့်မှန်ကူကွက်က တယ်ထိရောက်ပါကလားဟေ့၊ ဘယ်လို ပို့သလဲဆိုတာ တို့များကို အသေးစိတ်လုပ်ပုံ လျှောက်စမ်းပါအုံး၊ လူရှင်းတုန်း။"

ချင်းချောင်းနန်းတော် အခန်းတစ်ခုထဲ၌ လူသူရှင်းခိုက် ဆရာတပည့် ဝမ်းသာအားရ တရင်းတနှီး ပြောဆိုကြသည်။ ဦးဇဝနက အောက်ပါအတိုင်း မေတ္တာပွားပုံကို လျှောက်ရသည်။

"ဆရာတော်ဘုရား၊ တပည့်တော် မှားရင်လဲ ပြုပြင်ပေးပါ၊ တပည့်တော် သည်အတိုင်းပဲ အမြဲပွားပို့ပါတယ်။

"ပထမဆုံး တရားဟောတော်မူနေတဲ့ ဆရာတော့်မျက်နှာ ကိုယ်ဟန်က အစ သိမ်းခြုံပြီး ပို့ပါတယ်။ နောက် ဒီပွဲမှာ ပဓာနဖြစ်ကြတဲ့ ချင်းချောင်း ဒကာကြီး၊ ဒကာမကြီးများ၊ ဝေယျာဝစ္စ ဆောင်ရွက်တဲ့လူများ အားလုံး နာမည်သိတဲ့လူ နာမည်ကိုပါ ပါးစပ်က ရွတ်ပြီး ပို့ပါတယ်၊ နာမည်မသိတဲ့ ပရိသတ်ကိုလဲ ခွဲဝေခြုံငုံပြီး ပို့ပါတယ်၊ နောက် ထုံးစံအတိုင်း ဒီအနီးအနားမှာရှိတဲ့ နတ်တွေကအစ လောကဓာတ်တစ်ခုလုံးအထိ ဖြန့်လိုက် ခြုံလိုက် ပွားပို့ပါတယ်ဘုရား။"

"အေး ..... ဟုတ်ပြီ၊ ဒါက ပရိကံ, ဥဂ္ဂဟသဘောကိုး။ ပို့တဲ့စကား အဓိပ္ပာယ်ကကော..... ။"

"မှန်ပါအရှင်ဘုရား၊ လျှောက်ပါ့မယ်၊ ပုဂ္ဂိုလ်တိုင်းကို ဒွါရခြောက်ပေါက် ကနေ အတွင်းအာယတန ပသာဒခြောက်ပါးကို စိတ်ထဲကမှန်းပြီး စူးစိုက်ထားပြီး စက္ခုပသာဒ၊ စက္ခုဝိညာဏ်က စပို့ပါတယ်ဘုရား" ဟု အောက်ပါမေတ္တာပွားပုံကို လျှောက်ရာ လယ်တီဆရာတော်ဘုရားကြီးက.....

"အေး.....ဒါကြောင့် ခရီးရောက်တာကိုးကွယ့်၊ နေရာကျလိုက်လေ၊ သာဓု၊ သာဓု"ဟု ကောင်းချီးပေးတော်မူလေသည်။

## အကြည်ဓာတ် ၆-ပါး မေတ္တာပွားပို့နည်း

၁။ **စက္ခုဒွါရ**-(မိမိ၏ မျက်စိအကြည်ဓာတ်၊ မျက်စိဝိညာဏ် ဘေးရန် ခပ်သိမ်းကင်းငြိမ်းချမ်းသာသလို) မည်သူမည်ဝါ၏ သို့မဟုတ် သတ္တဝါတို့၏ (အရှေ့အနောက် မည်သည့်ပုဂ္ဂိုလ်၊ မိမိ သတ်မှတ်ထားသည့်အတိုင်း ရည်ညွှန်း၍) မျက်စိ အကြည်ဓာတ်၊ မျက်စိဝိညာဏ် ဘေးရန်ခပ်သိမ်း ကင်းငြိမ်းချမ်းသာပါစေ။

၂။ **သောတ**-နားအကြည်ဓာတ် နားဝိညာဏ် ဘေးရန်ခပ်သိမ်း ကင်းငြိမ်းချမ်းသာပါစေ။

၃။ **ဃာန**-နှာခေါင်းအကြည်ဓာတ် နှာခေါင်းဝိညာဏ်၊

၄။ **ဇိဝှာ**-လျှာအကြည်ဓာတ်၊ လျှာဝိညာဏ်၊

၅။ **ကာယ**-ကိုယ်လုံးအကြည်ဓာတ် ကိုယ်လုံးဝိညာဏ်၊

၆။ **မနောဒွါရ**-မနောအကြည်ဓာတ်၊ မနောဝိညာဏ် ဘေးရန် ခပ်သိမ်း ကင်းငြိမ်းချမ်းသာပါစေ။

(**မှတ်ချက်**။ ပုဂ္ဂိုလ်ထူးများစာအုပ် ပထမရိုက်စဉ် 'ဟဒယ အကြည်ဓာတ်' ဟု မှားယွင်းသွားသည်။ ပြင်ဆင်၍ ယူကြပါရန်။)

ဤမေတ္တာပွားပို့နည်းသည် ပို့ရင်းပို့ရင်း ပို့လိုရာ (မေတ္တာဓာတ် စေလွှတ်ရာ) သို့ ထိထိခိုက်ခိုက် ပို့လွှတ်နိုင်၏။ အပို့ခံရသူ၏ ပုံပန်းသဏ္ဌာန်ကို အထူးကြိုးစား၍ ပုံဖော်စိတ်ညွှတ်ရန် မလိုတော့ဘဲ ဒွါရခြောက်ပေါက် အကြည်ဓာတ်ခြောက်ပါးကနေ၍ ကိုင်လိုက်သောအခါ သို့သူ၏ ပုံပန်းသဏ္ဌာန် မပေါ်ဘဲ နေ၍မရပြီ၊ လွယ်လွယ်ပင် ပေါ်ထင်လာရ၏။

ယင်းသို့ ပေါ်ထင်လာရာ၌လည်း သတ္တဝါတစ်ဦး၏ ခန္ဓာကိုယ် တစ်ခုလုံးတွင် အချက်အချာ ပဓာနကျသော သုခုမရုပ် အကြည်ဓာတ် (ပို၍ အပေးအယူ လုပ်နိုင်သဖြင့် စွမ်းအင်သတ္တိရှိသော ရုပ်နု) များကိုချည်း ဆုပ်ကိုင်လိုက်သည်ဖြစ်၍ မေတ္တာအပို့ခံရသူ၌ ပို့သူ၏ မေတ္တာဓာတ်လှိုင်းများ အပြည့်အဝ ဝင်ရောက် ထိခိုက်သွားနိုင်လေသည်။ (ရုပ်အကြည်ဓာတ် ပရမတ္ထတရားများကို သုံးသပ် ပြောဆိုရသော်လည်း ပညတ်အာရုံကိုသာ ယူသည်ဟု မှတ်ပါ။)

ပရမတ်ဓာတ်ကြီးငါးပါး၊ အကြည်ဓာတ် ခြောက်ပါးကို ရှုပွားသော ဝိပဿနာ လုပ်ငန်းစဉ်နှင့်လည်း အပေးအယူ အဆက်အစပ်မိကာ အံဝင်ခွင်ကျဖြစ်သော မေတ္တာပွားနည်းဖြစ်၍ ကြိုးစားပွားပို့ကြရာ၏။ (အင်းမကြီး ဆရာတော်က မေတ္တာဘာဝနာကို အထူးဟောပြောပြသည်ဆိုခြင်းနှင့် ယင်းဆရာတော်၏ အန္တရာယ်လွတ်မြောက်ပုံ၊ လာဘ်လာဘပေါ်များပုံတို့ကို ထောက်၍ အင်းမကြီး

ဆရာတော် ညွှန်ပြသောနည်းဟု ယူဆရသည်။ အတတ်မဆိုသာ။)

## ဆည်ကြီးဆရာတော် လက်ရေးမှတ်စုမှ

'အထက်ပါ အကြည်ခါတ်ခြောက်ပါး မေတ္တာပွားလွတ်နည်း' ကို 'ရဟန္တာနှင့် ပုဂ္ဂိုလ်ထူးများ' ကျမ်း၌လည်း ဖော်ပြခဲ့ပြီ။ ထိုစာအုပ်အရ စိတ်ပါဝင်စားကာ လက်တွေ့စမ်းသပ်၍ ကျေနပ်မှုရကြောင်း ပြောဆိုလာကြသည့် မေ့မိတ်ဆွေများပင် မနည်းတော့ပြီ။ စမ်းသပ်သူများတွင် ပါဠိပါရဂူကြီးများပင် ပါဝင်နေသည်ကို တွေ့ကြုံရသဖြင့် ကြိုးစားရှာဖွေ တင်ပြရကျိုးနပ်ပါ၏။

သိမ်တောင်ဆည်ကြီး ဆရာတော်ဘုရားကြီး (၁၂၄၄–၁၃၂၁) နေ့စဉ် မှတ်ကမ်းသဖွယ် ခဲတံဖြင့် ရေးမှတ်ထားသော လက်ရေးမှတ်စုကို ဖတ်ရှုရာမှ အထက်ဖော်ပြပါ မေတ္တာဘာဝနာ လုပ်ထုံးကို တွေ့ရသောအခါ အလွန် စိတ်ဝင်စားမိ၍ ဆရာတော်၏ တူမ သီလရှင်ဆရာကြီးအား .....

"ဆရာတော်ဘုရားကြီး မေတ္တာဘာဝနာ ပွားတဲ့အခါ ဘယ်လိုများ ပွားပါလိမ့်၊ အဘွားလေးတို့ ယောဂီတွေကိုကော ဘယ်လိုများ အပွားခိုင်းဖူးသလဲ" ဟု ကျွန်ုပ်က စကားခေါ်ကြည့်ရာ အဘွားလေး ဒေါ်သီလရှင်ဆရာကြီး နှုတ်က ရွတ်ပြသော မေတ္တာဘာဝနာနှင့် ဆရာတော်၏ လက်ရေးမူမှာ တစ်ထပ်တည်း တူညီနေသည်ကို တွေ့ရသဖြင့် ပို၍ စိတ်ဝင်စားခဲ့ရပါသည်။

အဘွားလေးနှင့် ဆက်လက် ဆွေးနွေးရာမှ အထက်ပါ 'ချင်းချောင်း နန်းသစ်တက်ပွဲ' မှ လယ်တီဆရာတော်ဘုရားကြီး၏ ထောက်ခံမြွက်ကြားသော စကားတော်ကိုပါ ဝမ်းမြောက်ဝမ်းသာ မှတ်သားနာယူခဲ့ရပါ၏။ စင်စစ် ဆည်ကြီး ဆရာတော်မှာ နယ်လှည့် တရားဟောသော ဆရာတော် မဟုတ်စေကာမူ ဟောခဲ့သမျှ တရားပွဲများ၌ ထူးထူးခြားခြား လူစည်ကား၍ ဟောကြားသမျှလည်း အားရ ကျေနပ်ကြရကြောင်း ဆရာတော်ကိုယ်တိုင် အမိန့်ရှိသည်ကို အဘွားလေးက တစ်ဆင့်ပြန်ပြော၍ ဆရာတော်၏ သီလ, သမာဓိ, ပညာ အထူးသဖြင့် မေတ္တာ ဘာဝနာ အင်အားကို ရိပ်စားရပေသည်။

မှန်ပေသည်။ ဆရာတော်များခေတ်က အောက်ပြည် အောက်ရွာ၌ ကံဒွါရ ပြဿနာသည် ရွာကြီးရွာငယ်များကို နှစ်ခြမ်းကွဲစေခဲ့ဖူးရာ ဒလ ပျော်ဘွယ်ကြီးရွာလည်း နှစ်ခြမ်းကွဲခဲ့ရ၏။ (ပြဆိုခဲ့သည့်အတိုင်း) သာသနာတော်၌ ကောသမ္ဗီရဟန်းများကဲ့သို့ အမှိုက်ကအစ ပြဿဒ်မီးလောင်သည့်ပမာ ဘာမဟုတ်သည့် အသေးအဖွဲ ကိစ္စကလေးပင် ဖြစ်စေကာမူလောဘ, ဒေါသ, မာန လောင်စာများ ထည့်ပေး လိုက်သောအခါ 'ဘုန်းကြီးအမှု ရွာပတ်'ကာ အကနိဋ္ဌဗြဟ္မာဘုံအထိ နှစ်ခြမ်းကွဲ

ကြရဖူးလေပြီ။ သံဝေဂတင်၍ သင်ခန်းစာ ယူကြကုန်။

ယင်းသို့လျှင် ပျော်ဘွယ်ကြီးရွာ နှစ်ခြမ်းကွဲစဉ်က ဆရာကြီး ဆရာ့သက်ကို အကြောင်းပြု၍ ဆည်ကြီးဆရာတော် ကြွရောက် တရားဟောရဖူး၏။ ထိုအခါ မှစ၍ ကံ, ဒွါရ ပြဿနာ ပြေငြိမ်းသွားသည်။ ပျော်ဘွယ်ကြီးရွာ၌ ဟောခဲ့သော တရားကိုလည်း ကျေးဖူးရှင် လယ်တီဆရာတော်ဘုရားကြီးက အမိန့်ရှိ၍ ပြန်လည် ဟောပြရာ သာ့စုခေါ်တော်မူကြောင်း ပြခဲ့ပြီ။

ဆရာတော် တရားဟောပြရာ၌ ထူးခြားအောင်မြင်ကြောင်း လက်နက်ကောင်းတစ်ခုမှာ ပြဆိုခဲ့သည့် မေတ္တာအင်အားပင် ဖြစ်ဖွယ်ရှိပါ၏။

## ဗုဒ္ဓ၏မေတ္တာနှင့် ဗုဒ္ဓ၏တရားပွဲများ

ဤနေရာ၌ ဘုရားရှင် တရားဟောတော်မူရာ၌ ထားရှိတော်မူလေ့ရှိသော မေတ္တာစိတ်ထားကိုလည်း သတိပြုသင့်သည်။

မြတ်စွာဘုရားရှင်သည် အနယ်နယ် အရပ်ရပ်သို့ အမြဲတစေ ဒေသစာရီ လှည့်လည်၍ တရားဟောတော်မူလေ့ရှိရာ ပရိသတ်များမှာ တရားတော်ကို ရိုသေစွာ မှတ်သားနာယူရန်ဟူသော ရည်ရွယ်ချက်ကောင်း၊ စိတ်နှလုံးကောင်း ဖြင့်ချည်း ချဉ်းကပ်ကြသည် မဟုတ်။ အမှန်အားဖြင့် ဗုဒ္ဓဝါဒကို ချေမှုန်းရန်၊ ဝါဒ စစ်ထိုးရန်၊ ပြဿနာလုပ်ရန် ရည်ရွယ်၍ ချဉ်းကပ်ခဲ့သူက များခဲ့လေသည်။

“ဂေါတမအား ဤလို ပြဿနာကို မေးမည်၊ ဒီလိုဖြေလျှင် ဟိုလို အပြစ်ဖမ်းမည်” စသည်ဖြင့် ခက်ရာခက်ဆစ် ပြဿနာများကို အချိန်ယူ ကြိုတင် ညှိနှိုင်းစီစစ်၍ မရှုနိုင် မရှိက်နိုင်၊ မထွေးနိုင် မမျိုနိုင်အောင် လူပုံအလယ်တွင် အရှက်ခွဲ ချော်ချမည်ဟူသော ရည်ရွယ်ချက်များ ကိုင်ဆောင်၍ လာလေ့ရှိခဲ့ကြသည်။

မည်သို့ဖြစ်စေ ဘုရားထံမှောက်သို့ရောက်၍ တရားတော်များကို ကြားနာရသောအခါ မူလစိတ်ကူးများ သဲထဲရေသွန်သကဲ့သို့ အစရှာမရအောင် ပျောက်ကွယ်ကုန်ကြ၏။ တရားပွဲ ပြီးဆုံးသွားသော်လည်း တစ်စုံတစ်ရာ မကျေနပ်ချက်ဟူ၍ မရှိ၊ မေးစရာ ပြဿနာ မဝင်၊ စင်းလုံးချော အမြင်ကြည်လင် ပြတ်သားသွားကြရမြဲ ဖြစ်သည်။

‘ပုဆိုးခြုံထဲက လက်သီးပြ’ ဆိုသကဲ့သို့ ဝါဒပြိုင်ဆိုင် ချေမှုန်းမည်ဟု ကွယ်ရာက ကြိမ်းဝါးခဲ့သူများ ကိုယ်တိုင်ပင် တရားပွဲပြီးလျှင် ဗုဒ္ဓဝါဒသို့သာ သက်ဝင် ကူးပြောင်းလာကြရ၏။ နောက်ဆုံး အမာခံ သာသနာ့ဝန်ထမ်း ရှင်ရဟန်း ဘဝကိုပင် ခံယူကြရလေသည်။

(မဇ္ဈိမ ပဏ္ဏာသ၊ စူဠဟတ္ထိပဒေါပမသုတ်၌) ဗုဒ္ဓဝါဒအပေါ် မကြည်မလင် မပြတ်မသား ရှိနေခဲ့ကြသူများဖြစ်သော ဓာဏုသောဏိဗြာဟ္မဏကြီးနှင့် ပိလောတိက ပရိဗိုဇ်တို့ ဘဝတူချင်း ဆွေးနွေးပြောဆိုပုံကို ဖော်ပြပါအတိုင်း ဖတ်ရှုရပေသည်။

"အို..... ဓာဏုသောဏိ၊ ဂေါတမ ဗုဒ္ဓအား မည်သူတစ်စုံတစ်ယောက် ကမျှ ပြဿနာ မမေးလျှောက်နိုင်ကြတော့ဘူး၊ နောက်ဆုံး..... ဝါဒပြိုင်သူတွေ အားလုံးဟာ သူ့တပည့် ဖြစ်သွားကြရတာချည်းပါပဲ" ဟုသော ဆွေးနွေးပွဲကို အဆုံးသတ်ခဲ့ကြရ၏။ အဘယ့်ကြောင့် ထိုကဲ့သို့ ဖြစ်ရသည်ကို အဋ္ဌကထာ ဆရာကြီးက (မ၊ဋ္ဌ၊၂။ ၁၀၂-၌) အောက်ပါအတိုင်း ငုပ်ကွယ်နေသော ဗုဒ္ဓအင်အား အသုံးချပုံကို ဖွင့်ပြတော်မူခဲ့လေသည်။

"ဘုရားရှင်တို့မည်သည် တရားဟောတော်မူသောအခါ တရားနာ ပရိသတ်ကို မေတ္တာစေတ ဖြန့်လွှမ်းထားမြဲဖြစ်၏။ ဖြန့်လွှမ်း ထားသော မေတ္တာတော်ကြောင့် ဘုရားရှင်အပေါ် လူအများ ကြည်ညိုလာ၏။ ယင်းသို့ မေတ္တာသက်ဝင် ကြည်လင်သောစိတ် ဖြစ်ပေါ်လာကြသဖြင့် 'ငါတို့သည် စကားနှစ်မျိုး (နှစ်ခွ) ပြောရိုးမရှိ၊ အကျိုးမဲ့စကားလည်း မဆို၊ လွတ်မြောက် ချမ်းသာကြောင်း စကားကိုသာ ဟောကြားညွှန်ပြလေ့ရှိသော ဘုရားရှင်နှင့် ယှဉ်ပြိုင်၍ ဆန့်ကျင် ငြင်းခုံရန် မလိုတော့ချေ' ဟု အသီးသီး အလိုလို ကိုယ်စီကျေနပ်မှု၊ အမြင်ကြည်လင် ပြတ်သားမှုရကာ ပြဿနာ တစ်စုံတစ်ခုမျှ ကိုပင် (မေးမြန်းရကောင်းမှန်း မသိကြတော့ပေ) မမေးလိုကြတော့ပေ။ မမေးဖြစ်ကြတော့ပေ။"

စင်စစ် ထိုသဘောကား မြတ်စွာဘုရားရှင်အတွက် ဆန်းကြယ်လှသည် မဆိုသာချေ။ အဘယ့်ကြောင့်ဆိုသော် မြတ်စွာဘုရားရှင်သည် သတ္တဝါအားလုံး ချမ်းသာရေးအတွက် အမြဲမပြတ် ရှေးရှုတော်မူထားသည်ဖြစ်၍ မဟာကရုဏာ သမာပတ်, ဗြဟ္မဝိဟာရစေတောဝိမုတ္တိ ဟူသော ဗြဟ္မစိုရ်စိတ်ထားတော်သည် အမြဲတစေပင် ကိန်းဝပ်တည်နေတော်မူပြီး ဖြစ်လေသည်။ ထို့ကြောင့်လည်း အာဝေဏိကဂုဏ်တော် တစ်ဆယ့်ရှစ်ပါးတွင် "နတ္ထိ ဓမ္မဒေသနာယ ဟာနိ၊ နတ္ထိ ဝိမုတ္တိယာ ဟာနိ" ဟု အတုမရှိသော ဂုဏ်တော်များကို ရရှိပိုင်ဆိုင်တော် မူလေ သည်။ (ရတနာသုံးပါးကျေးဇူးစာအုပ် ၊ **'အတုမရှိ ဂုဏ်တော်အဖွင့်'** ၌ အကျယ် ဖွင့်ဆိုခဲ့ပြီ။)

ထိုသို့သောအကြောင်းများကြောင့် မြတ်စွာဘုရား ဟောကြားတော်မူလေသမျှ တစ်စုံတစ်ရာ အကျိုးစီးပွား မရ မဖြစ်သည်ဟူ၍ မရှိ၊ ဟောသမျှ တရားတော် (ယခုအခါ ပိဋကတ်သုံးပုံ ပါဠိတော်)များကိုလည်း မှားသည်၊ ပိုသည်၊ လိုသည်၊

ယိုဟာအစား ဤဟာကို ထည့်သင့်သည် စသဖြင့် မည်သည့် လူ နတ် ဗြဟ္မာ ပညာရှိကမှ မငြင်းဆန် မတော်လှန်နိုင်အောင် အခိုင်အမာကြီး ရပ်တည်နိုင်ခဲ့လေသည်။ (လောကေ အပ္ပဋိဝတ္တိယံ)။

သို့ရာတွင် ဗုဒ္ဓတရားတော်များသို့ ချဉ်းကပ်ကြရာ၌ စိတ်ကူး အတွေး အခေါ်များကို ရှေ့တန်းမတင်ဘဲ လက်တွေ့စမ်းသပ်ဖြစ်အောင်ကိုမူ သတိပြုသင့်ကြပေသည်။ အဘယ့်ကြောင့်ဆိုသော် ဗုဒ္ဓဝါဒသည် အတွေးအခေါ် မဟုတ်၊ လက်တွေ့လုပ်မှ သိနိုင်သောတရားတော် ဖြစ်သောကြောင့်ပေတည်း။

## သောကျွတောင် ဆရာတော်၏
## မေတ္တာဈာန် ထူထောင်နည်း
### ဗြဟ္မဝိဟာရ ကမ္မဋ္ဌာန်း စီးဖြန်းပွားများပုံပြခြင်း

✿ တပည့်တို့၊ ဗြဟ္မဝိဟာရ လေးပါးတို့တွင် မေတ္တာဗြဟ္မဝိဟာရကို ပွားများအားထုတ်လိုသော ယောဂီပုဂ္ဂိုလ်သည် ဤသို့ ပွားများရာ၏။ တပည့်တို့၊ ဤမေတ္တာပွားများနည်းကား–

၁။ ကုသိုလ်ရရုံ ပွားများနည်း၊

၂။ ဈာန်အပ္ပနာရအောင် ပွားများနည်းဟု နှစ်မျိုးရှိသည်။

ထိုနှစ်မျိုးတို့တွင် ကုသိုလ်ရရုံပွားများနည်းမှာ တစ်ကျောင်းလုံး၊ တစ်တိုက်လုံး၊ တစ်အိမ်လုံး၊ တစ်ရွာလုံး၊ တစ်မြို့လုံး စသည်ဖြင့် သတ္တဝါများကို တစ်လုံးတည်း အာရုံပြု၍ "ဤသတ္တဝါတွေ ချမ်းသာပါစေ, သတ္တဝါခပ်သိမ်း အကုန်လုံး ချမ်းသာပါစေ, ကိုယ်ရော, စိတ်ရော ချမ်းသာပါစေ"ဟု ချမ်းသာစေလိုသော စိတ်ဆန္ဒ အဖန်ဖန်ဖြစ်ရသည်။ ပွားများရသည်။ ထိုသို့ဖြစ်ရာပွားရာမှာလဲ .....

မာတာ ယထာ နိယံပုတ္တံ မာယုသာ ဧကပုတ္တ' မနုရက္ခေ၊
ဧဝမ္ပိ သဗ္ဗဘူတေသု၊ မာနသံ ဘာဝယေ အပရိမာဏံ။

(သုတ္တနိပါတ် ပါဠိတော်လာ မေတ္တသုတ်၏ အစိတ်ပါဠိ။)

"ဘိက္ခဝေ=ရဟန်းတို့၊ မာတာ=အလွန် သားချစ်ခင်တတ်သော အမိသည်၊ နိယံ ပုတ္တံ=မိမိမှ မွေးဖွားသော သားဖြစ်သော ၊ဧကပုတ္တံ= အချိန်လွန်ခါမှ ရရှိလာသော တစ်ယောက်တည်းသော သားငယ်ကို၊ အာယုသာ=အသက်ကြောင့်၊ ဝါ၊ အသက်ရှိစဉ်၊ အနုရက္ခေယထာ = အလွန်သနားချစ်ခင် စောင့်ရှောက်ဘိသကဲ့သို့၊ ဧဝမ္ပိ=ဤအတူသာလျှင်၊ သဗ္ဗဘူတေသု=အလုံးစုံသော သတ္တဝါတို့၌၊ အပရိမာဏံ=သတ္တဝါ ဘယ်လောက်မှရယ်ဟု အရေအတွက် အတိုင်းအရှည် မရှိသော၊ မာနသံ=

ချမ်းသာပါစေဟု ချမ်းသာစေလိုသော မေတ္တာစိတ်ကို၊ ဘာဝယေ =အဖန်ဖန် ဖြစ်စေရာ၏။ ပွားများရာ၏”ဟု ဟောတော်မူသောအတိုင်း–

## ပါးစပ်မေတ္တာ

အလွန် သားချစ်ခင်သော အမိသည် အချိန်လွန်ခါမှ ရရှိလာသော တစ်ယောက်တည်းသော သားငယ်ကို အလွန်သနားစောင့်ရှောက် ချစ်ခင်ဘိသကဲ့သို့ အဟုတ်ကို ချစ်ခင်မှ အဟုတ်ကို ချမ်းသာစေလိုတဲ့ စိတ်ဆန္ဒ ဖြစ်မှသာ မေတ္တာတည်း။

စိတ်က မပါဘဲနှင့် ပါးစပ်က ချမ်းသာပါစေဟု ဆိုရုံနှင့် မေတ္တာမဟုတ်၊ စိတ်ထဲက ချမ်းသာစေလိုတဲ့ ဆန္ဒမရှိဘဲလျက်နှင့်“အဝေရာဟောန္တု၊ အဗျာပဇ္ဈာ ဟောန္တု” စသည်ကို အနက်ပါဋ္ဌိ ရွတ်၍ နေငြားသော်လည်း မေတ္တာပို့သာ မေတ္တာပွားသာ မဟုတ်၊ စာအံ၍ နေမှုမျှသာတည်း။

ထိုစကားသည် မှန်၏။ ဦးပဥ္စင်းတွေ ဘုရားဝတ်ပြု၍ မေတ္တာပို့ ရွတ်ဆိုနေဆဲကို နောက်က ကျောင်းသားသူငယ်များ အကယ်၍ ဆော့လျှင်၊ မတော်လို့ ခါးကိုလာ၍ တိုက်မိခဲ့လျှင် ဖိနပ်နှင့် ထ၍ချမည်။ ယခု မချ အားသေးလျှင် ဝတ်တက်ပြီး ချမည်ရိုက်မည်၊ သားငယ်ကလေး အမိလည်ကုပ်ကို ခွစီး၍၊ ဆံထုံးကိုဆွဲ၍၊ တုတ်ငယ်နှင့်သော်လည်း ခေါင်းကိုရိုက်၍ အမိသည် စိတ်မဆိုးနိုင်ဘိသကဲ့သို့ အကယ်၍ ထိုဦးပဥ္စင်းသည် မေတ္တာပို့ပါလျှင် မေတ္တာစိတ်ဖြစ်လျှင် ဖိနပ်နှင့်ထ၍ မရိုက်နိုင်ရာ၊ စိတ်မဆိုးနိုင်ရာ၊ ဆိုးကား ဆိုး၏၊ ရိုက်၏။

ထို့ကြောင့် ချမ်းသာစေလို၍ စိတ်ဆန္ဒ မပါဘဲနှင့် ချမ်းသာပါစေဟူ၍ သော်လည်းကောင်း၊ အဝေရာ ဟောန္တု စသည်ကိုလည်းကောင်း ပါးစပ်က ရွတ်မှုသည် စာအံမှုသာတည်း။ တပည့်တို့၊ မေတ္တာပို့ဆိုတာ မေတ္တာပွားများ ဆိုတာ ပါးစပ်က ရွတ်ရွတ်, မရွတ်ချင်နေ၊ စိတ်ကသာ လိုရင်းတည်း။ စိတ်ထဲကသာ အဟုတ်ကို ချမ်းသာစေလိုတဲ့ စိတ်ဆန္ဒဖြစ်ရသည်။ အဲသည်ဟာ မေတ္တာပို့သာ ပွားများသာတည်း။ (ကုသိုလ်ရရုံ မေတ္တာပွားများနည်း ပြီး၏။)

## အပ္ပနာချာန်ရအောင် ပွားနည်း

တပည့်တို့၊ အပ္ပနာချာန်ကိုရအောင် မေတ္တာပို့နည်း ပွားနည်းမှာကား ဤသို့ ပွားများရာ၏။

ထိုမေတ္တာပွားများလိုသော ယောဂီပုဂ္ဂိုလ်သည်.....

“ငါသည်လည်း ဆင်းရဲဒုက္ခကို မုန်း၏၊ ချမ်းသာသုခကို နှစ်သက်၏၊

ချမ်းသာချင်၏၊ ခပ်သိမ်းသော သတ္တဝါတို့သည်လည်း ငါ့လိုပဲ ဆင်းရဲဒုက္ခကို မုန်းကြ၏၊ ချမ်းသာသုခကို နှစ်သက်ကြ၏၊ ချမ်းသာချင်ကြ၏၊ ငါလည်း ချမ်းသာရလို၏၊ သတ္တဝါ ခပ်သိမ်းလည်း ချမ်းသာကြပါစေ"–

ဟု ခပ်သိမ်းသော သတ္တဝါတို့၌ ချမ်းသာစေလိုသော စိတ်ဆန္ဒကို ညွတ်စေ၍ ဤယခု နေ့မှစ၍ ရှေးလွန်ခဲ့ပြီးသော ၂–နှစ်၊ ၃–နှစ်လောက် ကျအောင် သော်လည်းကောင်း၊ ငါးနှစ် ဆယ်နှစ်လောက် ကျအောင်သော်လည်းကောင်း၊ သည့်ထက် အလွန်သော်လည်းကောင်း ဤအတွင်း၌ ကိုယ်သွားဖူးသမျှ၊ ရောက်ဖူး သမျှ၊ နေဖူးသမျှ အရပ်တို့၌ ကိုယ်နှင့်တွေ့ဖူး၊ မြင်ဖူး၊ စကားပြောဖူး၊ အတူတူ နေဖူး၊ အချင်းချင်း ကျေးဇူးပြုဖူးသမျှသော သူတွေကို အကုန်ပြန်၍ စဉ်းစား၍ အမှတ်ရ၍ ဤယနေ့ တွေ့ဖူးတဲ့သူမှစ၍ နောက်ပြန်အစဉ်တိုင်း–

"ဤသူသည် ငါ့လိုပဲ အသက်နှင့်အကောင်ပဲ၊ ချမ်းသာချင်ရှာတယ်၊ ချမ်းသာပါစေ၊ ဘာတစ်စုံတစ်ခုမှ ရောဂါဝေဒနာ ဘေးရန်အန္တရာယ် မရှိပါစေနှင့်၊ ချမ်းသာပါစေ ၊ကိုယ်ရော စိတ်ရော ချမ်းသာပါစေ"–

ဟု ကိုယ်တွေ့ဖူးသမျှ သတ္တဝါတွေကို တစ်ယောက်ချင်း တစ်ယောက်ချင်း နောက်ပြန်အစဉ်အတိုင်း မေတ္တာပို့၍ သွားရာ၏။

ကိုယ်နှင့် မတွေ့မမြင်ဖူးငြားသော်လည်း အဝေးက လှမ်း၍ ကိုယ့်ကို ကျေးဇူးပြုတဲ့သူကိုကား မပို့နှင့်၊ တွေ့ဖူး၊ မြင်ဖူးတဲ့သူကျလျှင် တိရစ္ဆာန် လေးတွေတောင် မချန်နှင့်၊ အကုန်ပို့။ ဤကဲ့သို့ နောက်ပြန် အစဉ်အတိုင်း မေတ္တာပို့သွား၍ ဟုတ်–အရင်က ဆယ်နှစ်လောက်က တွေ့ဖူးတဲ့ အဆုံးစွန် ပုဂ္ဂိုလ်သို့ကျလျှင် ထိုသူမှတဖန် လှည့်ပြန်၍ ယခု တွေ့ဖူးတဲ့သူကျအောင် အနုလုံ အစဉ်အတိုင်း တစ်ယောက်ချင်း တစ်ယောက်ချင်း ပို့၍လာရာ၏။

## အချစ်ခင်ဆုံးကို–ရှာ

တပည့်တို့၊ ကာယဂတာသတိ ပွားများရာ၌ ကောဋ္ဌာသတွေကို အနုလုံ ပဋိလုံ အခေါက်ခေါက်၊ အပြန်ပြန် ကြည့်ရှုရဘိသကဲ့သို့ ဤကဲ့သို့ ကိုယ်တွေ့ ဖူးသမျှတွေကို နောက်ပြန်ရှေ့ပြန် ပဋိလုံ၊ အနုလုံ အားဖြင့် တစ်ယောက်ချင်း၊ တစ်ယောက်ချင်း အခေါက်ခေါက် အပြန်ပြန် မေတ္တာပို့၍ပို့၍ သွားသည်ရှိသော် ဤသူတွေထဲ၌ တဏှာပေမ မဟုတ်ဘဲ ကုသိုလ်မေတ္တာ သက်သက်ဖြင့် ချစ်ခင်နိုင်သော အချစ်ခင်ဆုံး၊ မေတ္တာစိတ် ကြပ်ကြပ် အသက်ဝင်ဆုံး ပုဂ္ဂိုလ် တစ်ယောက် တွေ့လတ္တံ့။ တွေ့၏။ ထိုသို့ တွေ့သောအခါ တစ်ပါးသော ပုဂ္ဂိုလ်တို့ကို မပို့ဘဲ အချစ်ခင်ဆုံး၊ မေတ္တာစိတ် ကြပ်ကြပ် အသက်ဝင်ဆုံး ပုဂ္ဂိုလ်တစ်ယောက်တည်းကိုသာ

စိတ်နှင့် ဉာဏ်နှင့် ချေချေ စပ်စပ်ကြည့်၍—

"ဤသူသည် ငါ့အား သနားချစ်ခင်ရှာတယ်၊ ဤမည်သော ဤမည်သော ကျေးဇူးဥပကာရ ပြုဖူးရှာတယ်၊ စောင်မ,ရှာတယ်၊ ဤသူသည် ငါ့လိုပဲ အသက်နှင့် အကောင်ပဲ၊ သတ္တဝါပဲ၊ ဆင်းရဲကို မုန်းရှာတယ်၊ ချမ်းသာကို နှစ်သက်လိုချင်ရှာတယ်၊ ချမ်းသာချင်ရှာတယ်၊ ချမ်းသာပါစေ၊ ဘာတစ်စုံတစ်ခု ရောဂါဝေဒနာ ဘေးအန္တရာယ် မရှိပါစေနှင့်၊ ကိုယ်ရော၊ စိတ်ရော အေးအေးမြမြ ချမ်းသာပါစေ" ဟု ထိုပုဂ္ဂိုလ်ကို—

– ခြေဖျားမှသည် ဦးခေါင်း ဦးရေကျအောင်၊
– ဦးခေါင်းဦးရေမှသည် ခြေဖျားကျအောင်၊
– ပြင်ရောတွင်းရော တစ်ကိုယ်လုံးအနှံ့

မေတ္တာစိတ်ဖြင့် ပျံ့နှံ့ပို့သရာ၏။

နှလုံးဘူး လိုဏ်တွင်းရှိ စိတ်ကလေးကိုလည်း မေတ္တာစိတ်နှင့် ဝင်၍ "ဤသူ၏ စိတ်ကလေးသည် ပူလောင်ခြင်း၊ ဆင်းရဲခြင်း မရှိ၊ ချမ်းသာပါစေ" ဟု နှံ့ပျံ့ပို့သရာ၏။ ဤကဲ့သို့ အဖန်ဖန်မေတ္တာစိတ်ဖြင့် ပျံ့နှံ့ပို့သ၍နေရာ၏။

**ဥဂ္ဂဟနိမိတ်မှ စတုတ္ထဈာန်ထိ တက်ပုံ**

ဤကဲ့သို့ ပို့သ၍နေလျှင် ကြာသောအခါ ထိုပုဂ္ဂိုလ်ကို မျက်စိနှင့် မြင်ရသကဲ့သို့ ထင်မြင်၍၊ အနီး၌ ချဉ်းကပ်၍ နေရာဘိသကဲ့သို့ ထင်မြင်၍လာ၏။ ချစ်ခင်ခြင်း မေတ္တာစိတ်လည်း အလွန်အားကြီးစွာဖြစ်၍ ထိုပုဂ္ဂိုလ်၌သာ တွယ်ရှိနေတော့၏။ များစွာ မပြေးလွင့်တော့ပြီ။ ထိုအခါ 'ဥဂ္ဂဟနိမိတ်ရပြီ' ဟူ၍မှတ်။

ဥဂ္ဂဟာဖြစ်အောင် ထင်မြင်ရသော ထိုပုဂ္ဂိုလ်ကို ဤကဲ့သို့ မေတ္တာစိတ် ပျံ့နှံ့ပို့သသည်ရှိသော် ကြာသောအခါ စိတ်သည် ထိုပုဂ္ဂိုလ်၌ တွယ်၍ အလွန် ငြိမ်သက်တည်ကြည်၍ ဈာန်အင်္ဂါငါးပါးနှင့် ပြည့်စုံသော ပထမဈာန်ဇော အပ္ပနာဝီထိ ကျလာ၏။ ပထမဈာန်ကို ရ၏။

ထိုသို့ ပထမဈာန်ကို ရပြီးသော ယောဂီသည် ထိုပုဂ္ဂိုလ်ကိုပင်လျှင် အာရုံပြု၍ မေတ္တာစိတ် ပျံ့နှံ့ပို့သ၍ (ကသိုဏ်း၌ ဆိုခဲ့သော နည်းအတိုင်း) အထက် ဒုတိယဈာန်၊ တတိယဈာန်၊ စတုတ္ထဈာန်ကျအောင် တက်အပ်၏။ ဖြစ်စေအပ်၏။

ဤသို့ တစ်ဦးသော ပုဂ္ဂိုလ်ကို မေတ္တာစိတ် ပျံ့နှံ့ပို့သ၍ အာရုံပြု၍ စတုတ္ထဈာန်ကျအောင် ရပြီး၍ ဝသီဘော်နိုင်ပြီးသောအခါ မိမိတွေ့ဖူး၍ ပထမက

မေတ္တာပို့၍ ချန်ထားသော ပုဂ္ဂိုလ်တွေကိုလည်း တစ်ယောက်ချင်း တစ်ယောက်ချင်း စေ့အောင် ဤနည်းတူ မေတ္တာစိတ်ပျံ့နှံ့ပို့သ၍ အာရုံပြု၍ စတုတ္ထဈာန်ကျအောင် ဖြစ်စေအပ်၏။

ထို့နောက် မိမိမတွေ့ဖူးသော်လည်း ကြားဖူးသမျှသော အရပ် ဆယ်မျက်နှာရှိ အလုံးစုံသော သတ္တဝါတွေကို တစ်ယောက်ချင်းသော် လည်းကောင်း၊ အပေါင်းများအားကို တစ်လုံးတည်း အာရုံပြု၍ ယူ၍သော်လည်းကောင်း၊ မေတ္တာစိတ်ပျံ့နှံ့ပို့သ၍ အာရုံပြု၊ စတုတ္ထဈာန်ကျအောင် ဖြစ်စေအပ်၏။

## မျက်မုန်းကျိုးစရာ ရန်သူရှိလျှင်

တပည့်တို့၊ ထိုသို့မေတ္တာပို့ရာ၌ ထိုပုဂ္ဂိုလ်ထဲတွင် မိမိမုန်းသော ငြိုးသူရန်ဘက်များတွေ့ရှိ၍ ထိုရန်သူ၌ အကယ်၍ မေတ္တာဈာန် မဖြစ်နိုင်ဘဲ မဝင်စားဘဲ မုန်းတဲ့မြင်ပြင်းတဲ့ ဒေါသစိတ်များ ဖြစ်ပေါ်လာခဲ့လျှင်၊ နေခဲ့လျှင်–

"န သော ဘိက္ခဝေ သတ္တော သုလဘရူပေါ၊

ယော န မာတာဘူတ ပုဗ္ဗေ"–

စသော ဘုရားရှင်ဟောကြားတော်မူသော 'အနမတဂ္ဂသုတ်တော်မြတ်'အတိုင်း–

"မောင်မင်း၊ ထိုရန်သူသည် မောင်မင်း၏ ရန်သူမဟုတ်၊ ရှေးရှေးဘဝတို့က အမိအဘ စသည်ဖြစ်၍ မောင်မင်းအား ကျေးဇူးပြုဖူးလှပြီ။ ဤစိတ်ထဲ၌ ဖြစ်ပေါ်လာတဲ့ ဒေါသသည်သာလျှင် မောင်မင်း၏ ရန်သူတည်း။ ထိုပုဂ္ဂိုလ်သည် မောင်မင်းကို ဈာန်မှလျှောအောင်လည်း မလုပ်၊ ငရဲသို့ ကျအောင်လည်း မချ၊ မောင်မင်း၏ ရန်သူ မဟုတ်။ ဤဒေါသသည်သာလျှင် မောင်မင်းကို ဈာန်မှ လျှောကျအောင် ညှဉ်းဆဲသော, ငရဲသို့ကျအောင်ချသော ရန်သူကြီးတည်း။ မောင်မင်း ရန်သူ မဟုတ်သောသူကို မမုန်းနှင့်၊ မမြင်ပြင်းနှင့်၊ ရန်သူဖြစ်သော ဤဒေါသကိုသာ မုန်းလော့၊ မြင်ပြင်းလော့၊ ပယ်ဖျက်သတ်ဖြတ်လော့"ဟု မိမိကိုယ်ကို ဆုံးမ၍–

ကောဓံ ဆေတွာ သုခံ သေတိ၊ ကောဓံ ဆေတွာ န သောစတိ။
ကောဓဿ ဝေ မူလ၊ မဓုရဂ္ဂဿ ဗြာဟ္မဏ။
ဝဓံ အရိယာ ပသံသန္တိ၊ တဉှိ ဆေတွာ န သောစတိ။

(သဂါထာဝဂ္ဂသံယုတ် ပါဠိတော်။)

"ဗြာဟ္မဏ=ဘယ်ဟာကို သတ်ဖြတ်လျှင် မစိုးရိမ်မပူပန်ဘဲ အေးငြိမ်းချမ်းသာစွာ နေရပါသနည်း ဟု မေးလျှောက်လာသော အို–ပုဏ္ဏား၊ ကောဓံ=အမျက်ဒေါသကို၊ ဆေတွာ=ဖြတ်တောက်ရသည် ရှိသော်၊

သုခံ=ချမ်းသာစွာ၊ သေတိ=အိပ်ရနေရ၏။ ကောခံ=အမျက်ဒေါသကို၊ ဆေတွာ=ဖြတ်တောက်ရသည်ရှိသော်၊ န သောစတိ=ဘာမှ စိုးရိမ်ပူပန်ခြင်း မရှိရ၊ အေးချမ်းစွာ နေရ၏။ ဗြာဟ္မဏ–အိုပုဏ္ဏား၊ မဓုရဂ္ဂဿ=အပေါ်အဖျား၌သာ ချိုယောင်ထင်ရ၍ အရင်း၌ အပါယ်ငရဲ ဒုက္ခဟူသော ခါးစပ်သော အကျိုးအရသာရှိသော၊ ကောဓဿ= အမျက်ဒေါသ ဟူသော၊ ဝေဓမူလဿ=တစ်ခုတည်းသော တရားကို၊ ဝဓံ=သတ်ဖြတ်ခြင်းကို၊ အရိယာ=ဘုရားအစရှိသော အရိယာပုဂ္ဂိုလ်တို့သည်၊ ပသံသန္တိ= နှစ်သက်ချီးမွမ်းကြကုန်၏။ ဟိ=အဘယ့်ကြောင့် နှစ်သက်ချီးမွမ်းသနည်းဆိုသော်၊ တံ=ထိုအမျက်ဒေါသကို၊ ဆေတွာ=သတ်ဖြတ်ရသည်ရှိသော်၊ န သောစတိ= မစိုးရိမ်ရပြီ။"

ဟူ၍ ဘုရားရှင် ဟောကြားတော်မူအပ်သော စကားတော်ကိုလည်း ဆင်ခြင် အောက်မေ့၍ 'ကကစူပမသုတ်၊ သပတ္တကန္တသုတ်' စသည်ကိုသော်လည်း ဆင်ခြင်အောက်မေ့၍ မိမိ၏ ရန်သူအစစ်ဖြစ်သော အမျက်ဒေါသကိုသာလျှင် သတ်ဖြတ်ပြေငြိမ်းစေ၍၊ ထိုရန်သူပုဂ္ဂိုလ်၌ ရှေးရှေးက အမိအဘ စသည်ဖြစ်ဖူးသော အဖြစ်ကို အောက်မေ့ဆင်ခြင်၍ ယခုလည်း အမိရင်းအဘရင်း စသည် ကဲ့သို့ မှတ်လျက် မေတ္တာဈာန်ဇော ကျစေ ဖြစ်စေအပ်၏။

သို့အကယ်၍ အမိအဘ စသည်ကဲ့သို့ မမှတ်နိုင်ဘဲ သူစိမ်းအနေနှင့် ထင်၍နေလျှင် "သြော်–ဤသူလည်း ငါ့လိုပဲ အသက်နှင့်အကောင်ပဲ၊ ဆင်းရဲဒုက္ခကို မုန်းရှာတယ်၊ ချမ်းသာသုခကို နှစ်သက်လိုလားရှာတယ်၊ ချမ်းသာချင်ရှာတယ်၊ ချမ်းသာပါစေ" ဟု ကိုယ်ချင်းစာ၍ မေတ္တာဈာန်ဇော ကျစေ ဖြစ်စေအပ်၏။ အကယ်၍ ဤကဲ့သို့လည်း ကိုယ်ချင်းမစာနိုင်၍ မုန်းစိတ်မပျောက်ခဲ့ဘဲ မေတ္တာ ဈာန်ဇော ထိုသူ၌ မကျနိုင်ခဲ့ငြားအံ့။

ထိုသို့ဖြစ်ခဲ့လျှင် သည့်ပြင် သူခပ်သိမ်းတို့၌ မေတ္တာဈာန်ဇောကျစေပြီးမှ နောက်ဆုံးပိတ်မှ ဤရန်သူ လူမုန်း၌ ကျစေအပ်၏။ ရန်သူ မဟုတ်သော သူတို့၌ မေတ္တာဈာန် ကျဖန်ဖြစ်ဖန်များ၍ မေတ္တာစိတ် ထက်သန်အားကောင်းသောအခါ အလွန်မုန်းသော ရန်သူ၌လည်း မေတ္တာဈာန် ဖြစ်စေတတ်တော့၏။

သို့အကယ်၍ ဤကဲ့သို့ ဈာန်ဇော မကျစေနိုင်ငြားအံ့၊ ထိုသို့ဖြစ်ခဲ့လျှင် ထိုရန်သူ လူမုန်းကို နှလုံးမသွင်းအပ်၊ အာရုံမပြုအပ်၊ မေတ္တာ မပို့အပ်၊ ဟုတ်–တောထဲ၌ ရှိနေသော မြက်မှိုက်ထင်းချောင်း တုတ်ခနောင်းတို့နှင့် အတူသာ ထားလိုက်အပ်၏။ ရှိသည်ဟူ၍ပင် မမှတ်အပ်၊ အနာရမ္ဘဏဥပေက္ခာ ပြုအပ်၏။ မေတ္တာဈာန်ဇော ကျစေနိုင်သော၊ ထိုရန်သူမှကြွင်းသော ခပ်သိမ်းသော သတ္တဝါ

တို့ကိုသာလျှင် မေတ္တာဈာန်ဖော ပျံ့နှံ့ပို့သအပ်၏။ (ဤ၊မေတ္တာဖြဟ္မ ဝိဟာရ ပွားများပုံပြီး၏။)

## ကရုဏာ, မုဒိတာ ပွားပုံ

ကရုဏာ, မုဒိတာတို့ကို ပွားများနည်းသည်လည်း မေတ္တာနည်းတူပင် ကုသိုလ်ရရုံ ပွားများနည်း၊ ဈာန်အပ္ပနာရအောင် ပွားများနည်းဟု နှစ်မျိုးရှိသည်။

ထိုနှစ်မျိုးတွင် ကုသိုလ်ရအောင် ပွားများနည်းမှာ သားချစ်ဆင်တတ်သော အမိသည် ထိုမိမိသားငယ် ဆင်းရဲဒုက္ခရောက်နေလျှင် ထိုဆင်းရဲဒုက္ခမှ အလွန် လွတ်စေချင်ဘိသကဲ့သို့၊ အလွန်သနားခြင်း ဖြစ်ဘိသကဲ့သို့၊ ထိုမိမိသား စည်းစိမ်ချမ်းသာနှင့် ပြည့်ပြည့်စုံစုံ ခံစံ၍ ချမ်းချမ်းသာသာ ပျော်ပျော်ရွှင်ရွှင် နေတာကို တွေ့မြင်ရလျှင်လည်း ထိုစည်းစိမ်ချမ်းသာမှ မဆုတ်မယုတ် အလွန် ကြာမြင့်စွာ ဤစည်းစိမ် အတိုင်းသာလျှင် တည်စေချင်ဘိသကဲ့သို့၊ တိုး၍သာ စည်းစိမ်ချမ်းသာနှင့် ပြည့်စုံစေချင်ဘိသကဲ့သို့၊ အလွန် နှစ်သက် ဝမ်းမြောက်ခြင်း ဝမ်းသာခြင်း ဖြစ်ဘိသကဲ့သို့ ထို့အတူ တစ်ယောက်တည်းသော်လည်း ဖြစ်စေ၊ အများသော်လည်း ဖြစ်စေ၊ ဆင်းရဲဒုက္ခရောက်၍နေသော သတ္တဝါကို ထိုဆင်းရဲဒုက္ခမှ လွတ်စေလိုသည့် စိတ်ဆန္ဒဖြင့် အလွန်သနားခြင်း ဖြစ်ရာ၏။ သနားသည့် ကရုဏာစိတ်ကို အဖန်ဖန် ဖြစ်စေရာ၏။ ပွားများရာ၏။

စည်းစိမ်ချမ်းသာနှင့် ပြည့်ပြည့်စုံစုံ ခံစံမွေ့လျော်၍ ပျော်ပျော်ရွှင်ရွှင် တင့်တင့်တယ်တယ် ချမ်းသာ၍ နေသောသူကို တွေ့မြင်လျှင်လည်း "ဤသူသည် ဤစည်းစိမ်ချမ်းသာမှ မဆုတ်မယုတ်ဘဲ ဤစည်းစိမ်အတိုင်းသာ တည်ပါစေ၊ တိုးတက်၍သာ စည်းစိမ်ချမ်းသာနှင့် ပြည့်စုံပါစေ" ဟု တောင့်တလျက် အလွန် နှစ်သက်ဝမ်းမြောက်ခြင်း ဝမ်းသာခြင်း ဖြစ်ရာ၏။ ပွားများရာ၏။ မနာလိုဘဲ ငြူစူစောင်းမြောင်းခြင်း ဣဿာတရား မဖြစ်စေအပ်။ ဤကား ကုသိုလ်ရရုံ ကရုဏာ, မုဒိတာ ပွားများနည်းတည်း။

မေတ္တာကို မပွားများသော မေတ္တာဈာန်ကို မရသော ပုဂ္ဂိုလ်သည် ဆင်းရဲဒုက္ခရောက်၍ နေသောသူ၌ သနားသော ကရုဏာစိတ် ကြာမြင့်စွာ အလွန်တည်နိုင်ခဲ၏။ ဈာန် အပ္ပနာပေါ်အောင် အလွန်ကရုဏာစိတ် ဖြစ်နိုင်ခဲ၏။ ကမ္မဿကာဟု အောက်မေ့ပြီး ကြောင့်ကြမစိုက်ဘဲ အာရုံမပြုဘဲ အနာရမ္မဏ ဥပေက္ခာပြု၍ လျစ်လျူရှု၍သာ နေတတ်၏။ စည်းစိမ်ချမ်းသာနှင့် ပြည့်စုံ၍ ချမ်းသာရွှင်လန်း၍ နေသောသူ၌လည်း နှစ်သက်ဝမ်းမြောက်သော မုဒိတာ စိတ်ကား သာလွန်၍ ကြာမြင့်စွာ တည်နိုင်ခဲ၏။ ဈာန်အပ္ပနာဖြစ်အောင် အလွန်မုဒိတာစိတ်

ဖြစ်နိုင်ခဲ၏။ မနှစ်သက် မနာလို ငြူစူခြင်း ဣဿာတရားသာ ဖြစ်တော့၏။

ထို့ကြောင့် ချာန်အပွနာရအောင် ကရုဏာ, မုဒိတာကို ပွားများလိုသော ယောဂီပုဂ္ဂိုလ်သည် မေတ္တာကိုသာ ပွားများအပ်၏။

မေတ္တာကို ပွားများ၍ မေတ္တာဈာန်ကို ရပြီးသောအခါမှကား ထိုမိမိ မေတ္တာဈာန်စိတ် အာရုံပြုအပ်တဲ့ မိမိအလွန်ချစ်ခင်နေတဲ့ သတ္တဝါတွေထဲ၌ တစ်ဦးဦး ဆင်းရဲဒုက္ခရောက်နေလျှင် ထိုသူကို အလွန်သနားခြင်း ဖြစ်တော့၏။ ဖြစ်သည်နှင့် တစ်ပြိုင်နက် ဤသူသည် ဤဆင်းရဲဒုက္ခမှ ကင်းလွတ်ပါစေဟု ဆင်းရဲဒုက္ခမှ လွတ်စေလိုသော အလွန်သနားသော ဆန္ဒဖြစ်လျက် ခဏချင်း ကရုဏာ အပ္ပနာ ဈာန်ဇော ကျလေတော့၏။

ချစ်နေရာက သနားတဲ့စိတ် ပြောင်းပေးလိုက်ရုံမျှသာ ဝန်ရှိတော့၏။ ကရုဏာဈာန် ဇောကျလာအောင် အထူးကြောင့်ကြစိုက်၍ အားထုတ်၍ မနေရတော့ပြီ။

ထို မိမိ အလွန်ချစ်ခင်အပ်သောသူတို့သည် အထူးကြီး ဆင်းရဲဒုက္ခသို့ပင် မရောက်ကြသော်လည်း "ဤသူတွေ ဇာတိဘေး ဇရာဘေး မရဏဘေးတို့မှ မလွတ်ရှာကြသေးပြီ။ ထိုဘေးတွေထဲမှာပင် နစ်မွန်း၍ နေကြရှာ၏"ဟု သံသရာ ဘေးနှင့်ချီ၍ ဆင်ခြင်အောက်မေ့လိုက်လျှင်လည်း အလွန်အကဲအားဖြင့် ပုထုဇဉ် သတ္တဝါတို့သည် ဒုက္ခသည်များချည်းဖြစ်၍ကုန်သဖြင့် အလွန်သနားခြင်း ဖြစ်၍ ထိုပုထုဇဉ် ပုဂ္ဂိုလ်တိုင်း၌ပင် ကရုဏာဈာန်ဇော ကျနိုင်ဖြစ်နိုင်လေတော့၏။

မိမိ အလွန်မေတ္တာသက်ဝင် ချစ်ခင်အပ်သော အလွန်သနားကြင်နာအပ်သော ထိုပုဂ္ဂိုလ်ထဲတွင် စည်းစိမ်ချမ်းသာနှင့် ပြည့်စုံခံစံ၍ ရွှင်လန်းချမ်းသာစွာ နေသောသူကို တွေ့မြင်လျှင်လည်း အလွန်နှစ်သက်ဝမ်းမြောက်ခြင်း၊ ဝမ်းသာခြင်း မုဒိတာ ဖြစ်လေတော့၏။ ဖြစ်သည်နှင့် တစ်ပြိုင်နက် "ဤသူသည် ဤစည်းစိမ်ချမ်းသာမှ မဆုတ်ယုတ်ပါစေနှင့်၊ ဤစည်းစိမ်ချမ်းသာအတိုင်း နှစ်သက်ရွှင်လန်း ချမ်းသာစွာ တည်ပါစေ"ဟု ထိုရပြီးသော မဆုတ်မယုတ် စေလိုသော ထိုကဲ့သို့ စည်းစိမ်ချမ်းသာနှင့် ပြည့်စုံ၍နေသည်ကို အလွန်နှစ်သက်ဝမ်းမြောက်သော ဝမ်းသာသော စိတ်ဆန္ဒ ဖြစ်လျက် ခဏချင်း မုဒိတာ အပ္ပနာဈာန်ဇော ကျလေတော့၏။

ချစ်နေရာက ၊သနားနေရာက နှစ်သက်ဝမ်းမြောက်တဲ့စိတ် ပြောင်းလဲ ပေးလိုက်ရုံမျှသာ ဝန်ရှိတော့၏။ မုဒိတာဈာန်ဇော ကျလာအောင် အထူး ကြောင့်ကြစိုက်၍ အားထုတ်၍ မနေရတော့ပြီ။

ထို မိမိ အလွန်ချစ်ခင်အပ်သော သူတို့သည် အထူးကြီးပင် စည်းစိမ် ချမ်းသာသို့ မရောက်ကြသော်လည်း မျက်နှာ ရွှင်ရွှင်လန်းလန်း ပြုံးပြုံးကြည်ကြည် နေကြသည်ကို မြင်ရလျှင်ပင် အလွန်နှစ်သက်ဝမ်းမြောက်ခြင်း၊ ဝမ်းသာခြင်း

ဖြစ်၍ ထိုပုဂ္ဂိုလ်တို့၌ မုဒိတာဈာန်ဖော ကျနိုင်လေတော့၏။ ဤကရုဏာ၊ မုဒိတာ တို့လည်း မေတ္တာနည်းတူ စတုတ္ထဈာန်သို့ကျအောင် ပွားများအပ်ကုန်၏။ (၂၊ ၃၊ ကရုဏာ မုဒိတာ ဖြဟ္မဝိဟာရနှစ်ပါး ပွားများပုံပြီး၏။)

## ဉပေက္ခာ ဖြဟ္မဝိဟာရ ပဉ္စမဈာန်တက်ပုံ

တပည့်တို့ ၊ ဤကဲ့သို့ မေတ္တာ၊ ကရုဏာ၊ မုဒိတာတို့ဖြင့် စတုတ္ထဈာန်ကို ရပြီးသော ယောဂီပုဂ္ဂိုလ်တို့သည် အထက်ပဉ္စမဈာန်ကို တက်လိုသောအခါ အောက်က ကသိုဏ်း၌ ဆိုခဲ့ပြီးသော နည်းအတိုင်း စတုတ္ထဈာန်ကို၊ သုခကို အပြစ်မြင်၍ မုန်း၍ ပဉ္စမဈာန်ကို၊ ဉပေက္ခာကို သာယာချစ်ခင် လိုချင်တောင့်တ၍ တစ်ဦးဦးသော ပုဂ္ဂိုလ်တို့၌ မေတ္တာစိတ်ဖြင့်သော်လည်းကောင်း၊ ကရုဏာ စိတ်ဖြင့်သော်လည်းကောင်း၊ မုဒိတာစိတ်ဖြင့်သော်လည်းကောင်း တစ်ခုခုဖြင့် စတုတ္ထဈာန်ကို ဝင်စား၍ ဈာန်မှထပြီးလျှင် ထိုပုဂ္ဂိုလ်ကိုပင်လျှင် အာရုံပြု၍–

"ဩော်– ဤပုဂ္ဂိုလ်သည် ငါက ချမ်းသာပါစေဟု တောင့်တသော်လည်း သူချမ်းသာစရာအကြောင်းကံရှိမှ ချမ်းသာမည်။ ငါက ဆင်းရဲဒုက္ခမှ လွတ်ပါစေဟု တောင့်တသော်လည်း သူလွတ်စရာအကြောင်းကံရှိမှ လွတ်မည်။ ငါက ဤစည်းစိမ်ချမ်းသာမှ မဆုတ်ယုတ်ပါစေနှင့်ဟု တောင့်တပြောသော်လည်း သူ မဆုတ်ယုတ်စရာ အကြောင်းကံရှိမှ မဆုတ်ယုတ်မည်။ ငါတောင့်တ၍ ဖြစ်နိုင်တာ မဟုတ်။ သူ့ကံရှိမှ ဖြစ်မည်။ သူ့မှာ ကံသာလျှင် အပြုအပြင် အစီအရင်ရှိသည်။ ကံသာလျှင် ကိုးကွယ်မှီခိုရာ ဉစ္စာရှိသည်။ ကမ္မဿကတာ တည်း"ဟု စိတ်ထဲ၌ ချမ်းသာစေလိုသော၊ ဒုက္ခမှ လွတ်စေလိုသော၊ စည်းစိမ်ချမ်းသာမှ မဆုတ်ယုတ် စေလိုသော ကြောင့်ကြစိုက်ခြင်း ဗျာပါရကို ရပ်သိမ်း၍ လျစ်လျူဉပေက္ခာသဘောနှင့် ဆင်ခြင်ကြည့်ရှုလိုက်လျှင် ဈာန်စိတ်ထဲ၌ သုခ ဝေဒနာ မဟုတ်ဘဲ ဉပေက္ခာ ဝေဒနာဖြစ်၍ ဧကဂ္ဂတာနှင့်တကွ ဈာန်အင်္ဂါနှစ်ပါးနှင့် ပြည့်စုံသော 'ပဉ္စမဈာန် အပ္ပနာဝီထိ'ကျလာ၏။ ပဉ္စမဈာန်ကို ရ၏။

ထိုပဉ္စမဈာန်ကို အားကောင်းအောင်၊ မြဲမြံခိုင်ခံ့အောင်၊ ဝသီဘော်နိုင်အောင် ပြုအပ်၏။

## ဉပေက္ခာနှစ်မျိုး (အနာရမ္မဏနှင့် ဖြဟ္မဝိဟာရ)

တပည့်တို့၊ အောက်ဖြဟ္မဝိဟာရတို့ဖြင့် စတုတ္ထဈာန်ကို ရပြီး၍ အထက် ပဉ္စမဈာန်ကို ဖြစ်စေလိုသောအခါ ဤကဲ့သို့ စိတ်ထဲ၌ သတ္တဝါတို့ကို ချမ်းသာအောင် စသည်ဖြင့် ကြောင့်ကြစိုက်ခြင်း ဗျာပါရကို ရပ်သိမ်း၍ "သူ့မှာ ကံသာလျှင်

အပြုအပြင် အစီအရင်ရှိသည်၊ ကိုးကွယ်ရာ ဥစ္စာရှိသည်၊ ကမ္မဿကာတည်း" ဟု လျစ်လျူဥပေက္ခာဖြင့် ဆင်ခြင်ကြည့်ရှုတာကို ဥပေက္ခာ ဗြဟ္မဝိဟာရကို ပွားများသည်ဟု ခေါ်သည်။ ဥပေက္ခာဗြဟ္မဝိဟာရကို ပွားများတာ ဟူ၍ မှတ်ကြ။

ဥပေက္ခာကို ပွားများရမည်ဆိုတယ်လို့ သတ္တဝါကို ဟုတ်–တောထဲမှာ ရှိနေတဲ့ မြက်မှိုက် ထင်းချောင်း တုတ်ခနောင်းတို့လို အမှတ်မရဘဲ အမှတ် မရတဲ့ အာရုံမပြုဘဲ မေ့လျော့တာမျိုး မဟုတ်ဘူး၊ အမှတ်တမဲ့ နှလုံးမသွင်း၊ အာရုံမပြု၊ မေ့လျော့နေတဲ့ 'အနာရမ္မဏာဥပေက္ခာ'မျိုး မဟုတ်ဘူး။

အောက်ဗြဟ္မဝိဟာရ စတုတ္ထဈာန်စိတ် သက်ဝင်စွဲကပ် တွယ်၍နေတဲ့ ပုဂ္ဂိုလ်ကိုပင်လျှင် စိတ်နှင့်စွဲတွယ်သက်ဝင်၍ အာရုံပြု၍နေရသည်။ စိတ်ထဲမှသာ ချမ်းသာခြင်းစသည် ဖြစ်လိုတဲ့ ကြောင့်ကြစိုက်ခြင်း ဗျာပါရကိုသာ ရုပ်သိမ်းရသည်။ ကမ္မဿကာ အနေနှင့် ကြောင့်ကြစိုက်ခြင်း ဗျာပါရကို ရုပ်သိမ်း၍ ထိုပုဂ္ဂိုလ်ကိုပင်လျှင် လျစ်လျူဥပေက္ခာစိတ်နှင့် ကြည့်ရှု၍သာ အာရုံပြု၍ စွဲတွယ်၍နေရသည်။

ဤဥပေက္ခာဗြဟ္မဝိဟာရမှာ ကုသိုလ်ရရုံ ပွားများမှုဟူ၍ မရှိ။

အောက် ဗြဟ္မဝိဟာရ စတုတ္ထဈာန်ကို မရဘဲ သတ္တဝါတို့ကို 'သူ့ကံနှင့်သူလေ၊ ကမ္မဿကာတွေတည်း' ဟု ရှုလို့ ကုသိုလ် မဖြစ်၊ အကုသိုလ်လည်း မဖြစ်။ ဟုတ်–တောထဲမှာနေတဲ့ မြက်မှိုက် ထင်းချောင်း တုတ်ခနောင်းတို့ကို လျစ်လျူရှုရတဲ့ အနာရမ္မဏ ဥပေက္ခာမျိုးတည်း။

(၄၊ ဥပေက္ခာဗြဟ္မဝိဟာရ ပွားများပုံ ပြီး၏။)

## မေတ္တာ ပဓာန

တပည့်တို့၊ မေတ္တာကို ပွားများသော သူတို့အား ကရုဏာ, မုဒိတာ, ဥပေက္ခာတို့သည် အထူးများစွာ အားမထုတ်ရဘဲ အလိုလို ပြည့်စုံလာကြတော့၏။ ထို့ကြောင့် မေတ္တာကိုသာလျှင် ရှေးဦးစွာ ပွားများ အားထုတ်အပ်၏။ အားထုတ်ရာ၏။

မေတ္တာအကျိုးအာနိသင်သည် အလွန်များပြား၏။ ကြီးမားမြင့်မြတ်၏။ ဘဝသမ္ပတ္တိ အကျိုးပေးသန်သော ကောင်းသော ကံတကာထဲတွင် ဤ မေတ္တာကံသည် အထွတ်မြတ်ဆုံး၊ အသာဆုံးတည်း။ **မေတ္တာကံကို တုပြိုင်နိုင်သော ကံဟူ၍ မရှိ။**

အနုဿတိထဲတွင် ဗုဒ္ဓါနုဿတိ ကံလည်း ဘဝသမ္ပတ္တိ အကျိုးပေးသန်၏။ ကြီးမားမြင့်မြတ်၏။ ထို့ကြောင့် ဘဝများစွာ နေရဦးမည့် ဘုရားဖြစ်လိုတဲ့ ဘုရားဆုပန် ပုဂ္ဂိုလ်များမှာ အထူးသဖြင့် ဤဗုဒ္ဓါနုဿတိ, မေတ္တာနှစ်ပါးကို လက်ကိုင်ထားရာ၏။ ပွားများရာ၏။

## စတုတ္ထအကြိမ်

မေတ္တာကိုပွားများလျှင် ကြွင်းသော ဗြဟ္မဝိဟာရတို့လည်း ပါ၍ လိုက်တော့၏။ တပည့်တို့၊ မေတ္တာ၏ အကျိုးအာနိသင်များပြားပုံ ကြီးမားမြင့်မြတ်ပုံတို့ကို ဘုန်းကြီးတပည့် **'သံဃသောဘဏ အသင်းများ'** ဘုန်းကြီးဟောကြားသော အတိုင်း မှတ်သား၍ ရေးသားထုံးဖွဲ့အပ်သော **ဓမ္မရာသီကျမ်း** မှ အကျယ်ဝိတ္ထာရ ရှိသည်။ ကြည့်ရှုသိမှတ်ကြလေ။

တပည့်တို့၊ မြတ်စွာဘုရားရှင် ဇေတဝန်ကျောင်းတော်၌ နေစဉ်အခါ ရဟန်းတို့ကို ခေါ်တော်မူ၍–

အစ္ဆရာသင်္ဃာတမတ္တမ္ပိ စေ ဘိက္ခဝေ ဘိက္ခု မေတ္တာစေတော ဝိမုတ္တိံ ဘာဝေတိ၊ အယံ ဝုစ္စတိ ဘိက္ခဝေ ဘိက္ခု အရိတ္တဇ္ဈာနော ဝိဟရတိ သတ္ထုသာသနကရော ဩဝါဒပဋိကရော၊ အမောဃံ ရဋ္ဌပိဏ္ဍံ ဘုဉ္ဇတိ၊ ကော ပန ဝါဒေါ ယေ နံ ဗဟုလီကရောတိတိ–

ဟူ၍ ဧကင်္ဂုတ္တရ ပါဠိတော်၌ ဟောတော်မူ၏။ ကြွင်းသော ဗြဟ္မဝိဟာရ တို့ကိုလည်း ဤနည်းတူပင် ဟောတော်မူ၏။

ထို့ကြောင့် သင်တပည့်တို့သည် အကောင်းဆုံးကိုလည်း မြင်ရအောင် ဈာန်တရားနှင့် မကင်းဆိတ်ဘဲနေသောသူ၊ ဘုရားရှင်၏ သာသနာကို ထမ်းရွက် ပြုကျင့်သောသူ၊ ဘုရားရှင်၏ အဆုံးအမကို လိုက်နာပြုကျင့်သောသူ၊ တိုင်းသူပြည်သား လူအများတို့ လှူသော ဆွမ်းပစ္စည်းလေးပါးကို အကျိုးမဲ့ အချည်းအနှီး မဖြစ်စေဘဲ များးစွာ အကျိုးကြီးမြတ် ဖွံ့ဖြိုးစေ၍ သုံးစွဲ စားသောက်သောသူလည်း ဖြစ်ကြရအောင် ယခု ငါဆရာ ဟောကြားခဲ့ပြီးသော နည်းလမ်းအတိုင်း ဗြဟ္မဝိဟာရတို့ကို ကြိုးစား၍ ပွားများကြ၊ ကြိုးစား၍ အားထုတ်ကြ။

[သေကျွတောင် ဆရာတော် ဦးတိလောက (၁၂၃၃–၁၂၉၃) အရှင်မြတ်၏ 'ပဏ္ဍိတ ဝေဒနီယကျမ်း' မှ မူရင်းအတိုင်း ထုတ်နုတ်ပြဆိုချက်။]



## မြဝတီဆရာတော်၏
## မေတ္တာဓာတ်ရိုက်နည်း

ဒုတိယကမ္ဘာစစ်မဖြစ်မီက မြဝတီဆရာတော် (ဦးအဂ္ဂဝံသ) ဆိုလျှင် တစ်နိုင်ငံလုံး မသိသူ မရှိ၊ နိုင်ငံကျော် ဓမ္မကထိက ကျမ်းပြုဆရာတော် တစ်ပါး ဖြစ်သည်။ 'ရာဟုလာချွတ်ခန်း ဓာတ်ကမ္မဋ္ဌာန်း' စသော ကျမ်းပေါင်း ၁၇–ကျမ်း တို့ကို ပြုစုတော်မူခဲ့၏။ ၁၂၃၈–ခုနှစ် ရွာထောင်မြို့၌ ဖွားမြင်၍ အောင်လံမြို့၊ မြဝတီကျောင်းတိုက်နှင့် စစ်ကိုင်းတောင်ရိုး ဆင်ဖြူရှင်လှ တောင်းတန်းဦး နယား ချောင်၌ သီတင်းသုံးကာ တစ်နိုင်ငံလုံး ဓာတ်ကမ္မဋ္ဌာန်းများကို လှည့်လည် ဟောကြားခဲ့၏။

ဆရာတော်သည် ၁၂၇၆–ခုနှစ်တွင် အောင်လံမြို့၌ အနားယူ သီတင်းသုံး ခိုက် ရှိုင်ဆိုက် စာမျက်နှာ ၉၃၉–မျက်နှာရှိ **ဓမ္မစကြာမဟာဋီကာ** ကျမ်းကြီးကို ပြုစုတော်မူခဲ့လေသည်။ ယခု ကောက်နုတ်ဖော်ပြမည့် မေတ္တာဓာတ်ရိုက်နည်းမှာ ယင်းဋီကာကျမ်းကြီးမှ မူရင်းအတိုင်း ကောက်နုတ်ဖော်ပြခြင်းဖြစ်ပါသည်။

မြဝတီဆရာတော်သည် ဂန္ထဓုရ သမထဓုရ ဗဟုသုတများ ကြွယ်ဝသည် နှင့်အမျှ မေတ္တာအကြောင်းကိုလည်း ကျမ်းကိုးသာဓက အထွေထွေ ဗဟုသုတများဖြင့် သိုင်းသိုင်းဝိုင်းဝိုင်းကြီး ရေးသားထား၏။ အထူးသဖြင့် စာပေသဘာဝ နှစ်ဌာနလုံး မေတ္တာအပေါ် ထိုမျှလောက် သဘောပေါက်ပြီး ရေးသားထားသော ကျမ်းကား အလွန့်အလွန် ရှားပါးလှပါသည်။ သို့ရာတွင် ယင်းဋီကာကျမ်းကြီးမှာလည်း

ထူထဲလေးလံလွန်းအားကြီးသဖြင့် သာမန် စာဖတ်ပရိသတ်များထံ အပေါက်အရောက် နည်းလျက် ရှိနေပေသည်။

ဤခြိုကား လေးလံသော ပါဠိများကို ချန်လှပ်၍ မေတ္တာစာတ်ရိုက်ပုံ၊ ဓာတ်ခိုက်ပုံ လိုရင်းစာသားမျှလောက်သာ ထုတ်နုတ်ဖော်ပြလိုက်ပါသည်။

## စူးရှအောင် မေတ္တာပို့နည်း

**မေး။** ။မေတ္တာစိတ်ဖြင့် အဘယ်သို့ပြုသည်ကို ဖြန့်သည်ဟု ဆိုပါသနည်း။

**ဖြေ။** ။'ချမ်းသာပါစေ' ဟူသော မိမိ မေတ္တာစိတ်ကို မိမိ မေတ္တာဖြန့်စရာ သတ္တဝါနှင့် တွေ့ထိအောင် လုပ်မှုကို မေတ္တာဖြန့်သည်ဟု မှတ်ရမည်။ ထို့ပြင် မိမိမေတ္တာဖြန့်စရာ သတ္တဝါအာရုံကို မျက်မှောက်ထင်ထင် မြင်အောင် ကြည့်ရှုပြီး ထိုသတ္တဝါအား 'ချမ်းသာပါစေ' ဟူသော မေတ္တာစိတ်ဖြင့် ပွားများ ဖြန့်ဖြူးသည်ကို မေတ္တာဖြန့်သည်ဟု မှတ်ရမည်။

(သမ္မောအဋ္ဌကထာ၊ ဝိဘင်း မူလ အနုဋီကာတို့၌လည်း) မေတ္တာပို့စရာ သူကို ထိထိခိုက်ခိုက် ထင်အောင်မြင်အောင် အာရုံယူလျက် 'ဘေးရန်ကင်းပါစေ၊ ချမ်းသာပါစေ' ဟူသော မေတ္တာဘာဝနာစိတ်ကို ထိုသူထံသို့ အကောင်းဆုံး လွှတ်ခြင်း၊ အကောင်းဆုံးဖြန့်ခြင်းကိုလည်း မေတ္တာပို့ခြင်း မေတ္တာဓာတ်ရိုက်ခြင်း ပင်ဟု မိန့်ဆိုပါသည်။

တစ်နည်းအားဖြင့် ညဥ့်အခါ မိမိမြင်နေသော မီးရောင်မှတစ်ပါး အခြား ဆင်လောက် အိမ်လောက် ဆင်ထက် အိမ်ထက် ကြီးလှသော အရာဌာနတို့ကို ဘာမျှမမြင်။ ဘာကိုမျှ အာရုံမပြုသကဲ့သို့ ထိုမေတ္တာပို့စရာ သူမှတစ်ပါး အခြားသူ အခြားအရာတို့ကို ဘာတစ်ခုမျှ စိတ်ထဲ၌ စွဲမြဲရွေ့ရှားခြင်း မရှိဘဲ ထိုသူကိုသာလျှင် စွဲစွဲမြဲမြဲ စိတ်ထဲ၌ ဆုံးဖြတ်လျက် နက်နက်နဲနဲ မေတ္တာဖြန့်ခြင်း လွှတ်ခြင်းတို့ကိုပင် မေတ္တာပို့ခြင်း၊ မေတ္တာဓာတ်ရိုက်ခြင်းပင်ဟု မိန့်ဆိုပါသေးသည်။

**မေး။** ။ စူးရှအောင် အဘယ်သို့ မေတ္တာဖြန့်ရပါမည်နည်း။

**ဖြေ။** ။ မေတ္တာဖြန့်ရာတွင် ရည်ညွှန်းသော ဩဓိသမေတ္တာ၊ မရည်ညွှန်းသော အနောဓိသမေတ္တာ နှစ်မျိုးရှိရာ အနောဓိသမေတ္တာထက် ဩဓိသမေတ္တာက စူးရှသည်။ ဩဓိသမေတ္တာတွင်လည်း မြင်ဖူးသူ၊ မမြင်ဖူးသူနှစ်မျိုးရှိပြန်ရာ မမြင်ဖူးသူထက် မြင်ဖူးသူကို စူးရှသည်။ မြင်ဖူးသူတွင်လည်း အမြင်နည်းသူထက် အမြင်များသူကို စူးရှသည်။ အမြင်များသူတွင်လည်း အကျွမ်းမဝင်သူထက် အကျွမ်းဝင်သူကို စူးရှသည်။

အကျွမ်းဝင်သူတွင်လည်း နေ့အခါထက် ညအခါ စူးရှသည်။ ညအခါ

တွင်လည်း မေတ္တာအပို့ခံရသူက လှုပ်ရှားနေသူထက် ငြိမ်နေသူကို စူးရှသည်။ ငြိမ်နေသူတွင်လည်း အမှတ်တမဲ့ ဖြန့်ခြင်းထက် ချိန်း၍ဖြန့်ခြင်းက စူးရှသည်။ သို့ဖြစ်လေရကား မကျန်းမာ၍ဖြစ်စေ၊ တစ်စုံတစ်ခုကြောင့်ဖြစ်စေ ဆင်းရဲဒုက္ခ တွေ့နေရသူအား နေ့ရက် အချိန် မျက်နှာပုံ ၊ နေထိုင်ပုံ၊ စသည်တို့ကို သိအောင် ချိန်းဆိုပြီး ထိုသူ၏ နှလုံးအိမ်ကိုဖြစ်စေ၊ ခံတွင်းပေါက်ကိုဖြစ်စေ သေသေ ချာချာချိန်လျက် 'မည်သူချမ်းသာပါစေ' ဟူသော မေတ္တာဓာတ် မေတ္တာကလာပ်တို့ကို ထပ်တလဲလဲ စွဲစွဲမြဲမြဲ ဖွဲ့သန်သန်နှင့် ဖြန့်ဖြူးသွန်းလောင်းနိုင်ပါမူ သိသိသာသာ စူးရှသည်ကို တွေ့မြင်ရပါလိမ့်မည်။

## ပရိတ်ရေ ပရိတ်ချည် ဥပမာ

**မေး။** ။ မေတ္တာဖြန့်ပုံကို ယခုလို စိမ့်ခြင်းသည် အဘယ်အစိပ္ပါယ်ရှိပါသနည်း။

**ဖြေ။** ။ (ပါရာဇိကံ အဋ္ဌကထာ၊ ဋီကာတို့၌) လူမမာအတွက် ပရိတ်ရေ ပရိတ်ချည်ကို တောင်းရာ ထိုတောင်းသူတို့အား ရေရိုးရိုး ချည်ရိုးရိုးကို တော်စွာရော်စွာ မပေးစေပါ။ 'ဤရေထဲသို့ ပရိတ်တော်၏ အာဏာ ဝင်စေသတည်း။ ဤချည်ထဲသို့ ပရိတ်၏အာဏာ ဝင်စေသတည်း' ဟု စိတ်ကို ခိုင်မြဲစွာထားပြီး ရေကို လက်ဖြင့် မွှေနှောက်ကာ၊ ပရိတ်ချည်ကို လက်ဖြင့် အကြိမ်ကြိမ်သုံးသပ်ကာ ပရိတ်တော်၏ အာဏာကို စိတ်ဖြင့်သွတ်သွင်းပေးပါမှ အာဏာတန်ခိုး ထက်တိုး စူးရှကာ ရောဂါပျောက်ကင်း နိုင်သည်ဆိုသော အရာကို ကောင်းစွာ ရည်သန်လျက် စိမ့်ညွှန်ပြခဲ့ရကား ယုံမှားမရှိ မှတ်ရမည်။

**မေး။** ။ ပရိတ်ရေ၊ ပရိတ်ချည်တို့က ဝတ္ထုဒြပ်ဖြစ်ပါ၍ ရောဂါ ပျောက်နိုင်ပါသည်။ မေတ္တာဓာတ်က ဒြပ်အထည် မရောက်ပါ၍ အဘယ်မှာ ရောဂါကင်းပျောက်၍ ချမ်းသာရောက်နိုင်ပါမည်နည်း။

**ဖြေ။** ။ ဤပုစ္ဆာသည် လွန်စွာလေးနက်လှပါသည်။ ပရိတ်ရေသောက်၊ ပရိတ်ချည် ပန်၍ ရောဂါပျောက်ရာဝယ် ရေသက်သက် ၊ ချည်သက်သက်ကြောင့် ပျောက်ခြင်း မဟုတ်ပါ။ ထိုရေ၊ ချည်အတွင်း၌ စိတ်ဓာတ်ဖြင့် သွတ်သွင်း ပေးလိုက်သော ပရိတ်အာဏာ၊ ပရိတ်တန်ခိုး ခေါ်သော ပရိတ်ဓာတ် ပရိတ် ကလာပ်တို့နှင့် တွေ့ထိကာ 'ကြောင်လာ၍ ကြွက်ပြေးရသကဲ့သို့' ရောဂါကလာပ်၊ ရောဂါဓာတ်၊ ဒုက္ခကလာပ်၊ ဒုက္ခဓာတ်တို့ ကင်းပျောက်ရသည်နှင့်အတူ ပြဆိုသည့် အတိုင်း လွှတ်လိုက် ဖြန့်ဖြူးလိုက်သော မေတ္တာစိတ်နှင့် တစ်ပြိုင်နက် သေနတ်သံနှင့် ပြိုင်တူထွက်သော အခိုးပမာ မေတ္တာအခိုး၊ မေတ္တာအရှိန်၊ မေတ္တာရုပ်ကလာပ်၊ မေတ္တာဓာတ်တို့သည် မေတ္တာဖြန့်သူ၏ စိတ်တန်ခိုးအလိုက် မေတ္တာအဖြန့်ခံရသူ၏

တစ်ကိုယ်လုံးကို မီးခိုးဝိုင်းသကဲ့သို့၊ ပင့်ကူမြွေးပတ်သကဲ့သို့ ဝိုင်းမိပတ်မိသဖြင့် ထိတွေ့ခြင်း မေတ္တာအဖြန့်ခံရသူ၏ ခံတွင်းပေါက် ၊ နှာခေါင်းပေါက်၊ နားပေါက်တို့ကို ဝဲစုပ်သလို သက်ဝင်၍ သွားကြသဖြင့် ထိုရောဂါဓာတ်၊ ဒုက္ခဓာတ်တို့ ကင်းပျောက်ကာ ချမ်းသာကလာပ်၊ ချမ်းသာရုပ်တို့သာ အဟုတ်စင်စစ် ဖြစ်စေနိုင်ရကား ယုံမှားမရှိ မှတ်ယူရပါမည်။

**မေး။** ။ နီးသူဝေးသူကို မေတ္တာဖြန့်ရာဝယ် အဘယ်သို့ ခြားနားပါသနည်း။

**ဖြေ။** ။ (ဓမ္မပဒ အဋ္ဌကထာ၊ ကာလပုဒ္ဒ ထေရဂါထာ 'ဒူရင်္ဂမံ' ပုဒ်အဖွင့်နှင့် အညီ) စိတ်ဟူသည် နီးသောအာရုံ၊ ဝေးသောအာရုံဟူ၍ မခွဲခြား၊ ထင်ရှားသောအာရုံ၊ မထင်ရှားသောအာရုံဖြင့်သာ ခွဲခြား၍ နှေးခြင်း၊ မြန်ခြင်း နှစ်ပါးခြားနားနိုင်ပါသည်။

ဥပမာအားဖြင့် လက်ကိုကွေးချိန် ဆန့်ချိန်လောက်၌ ဗြဟ္မာ့ပြည်သို့ ရောက်နိုင်သည် ဆိုသောစကား၊ သေ၍ ဗြဟ္မာ့ပြည်ရောက်သူနှင့် လူ့ပြည် ရောက်သူ အနှေးအမြန် အတူတူ ဆိုသောစကားကို မယုံကြည်နိုင်သော မိလိန္ဒ မင်းကြီးအား ဝေးသောရွာနှင့် နီးသောရွာကို စိတ်ဖြင့် အကြံခိုင်းမှ အနှေးအမြန် တူကြောင်းကို ဝန်ခံလျက် ဥပမာတောင်းရာ အဝေးမှ ပျံလာသော ငှက်နှစ်ကောင်သည် အမြင့်အနိမ့် သစ်ပင်နှစ်ပင်၌ ပြိုင်တူနားရာ အရိပ်သည် မြေ၌ ပြိုင်တူထင်ပုံ၊ အနှေးအမြန် မခြားနားပုံ ဥပမာဖြင့် ရှင်နာဂသိန် မိန့်ချက်အတိုင်း မှတ်ယူသင့်ပါသည်။

## မေတ္တာစိတ်ဖြစ်ရုံမျှဖြင့် ဗုဒ္ဓချီးကျူး

**မေး။** ။ (စိတ္တေန နီယျတိ လောကော = စိတ်သည်သာ တစ်လောကလုံးကို ဦးဆောင်ဦးစီး အကြီးအမှူးဖြစ်၍) ထိုတန်ခိုးရှိသော စိတ်ဓာတ်ကို (အဒေါသ) မေတ္တာစေတသိက်နှင့် အဘယ်မျှ တွဲနိုင်ပါမှ အကျိုးထင်ရှား ပါသနည်း။

**ဖြေ။** ။ (မေတ္တာယ ဘိက္ခဝေ စောဒသအာနိသံသာ ဟူသော အင်္ဂုတ္တိုရ် ပါဠိတော် နှင့်အညီ) ပွေပွေရှုပ်ရှုပ် စိတ်ယုတ်မာတို့မှ ကင်းလွတ်သော မေတ္တာနှင့် ယှဉ်သောစိတ်ကို အစဉ်ထုံသူ၊ ရိရိသေသေထုံသူ၊ တကယ့်ချစ်စိတ်ကိုဆောင်၍ ထုံသူ၊ လေ့လာမှီဝဲသူ၊ မေတ္တာရုပ် မေတ္တာဓာတ် မေတ္တာကလာပ်တို့ကို တစ်နာရီထက်တစ်နာရီ၊ တစ်နေ့ထက်တစ်နေ့၊ တစ်ရက်ထက်တစ်ရက်၊ တစ်လ ထက်တစ်လ၊ တစ်နှစ်ထက်တစ်နှစ် တိုးအောင် ပွားအောင် အားထုတ်နိုင်သူ၊ ထိုမေတ္တာရုပ် မေတ္တာဓာတ် မေတ္တာကလာပ်တို့ကို မတိုးလျှင် တိုးအောင်၊ မပွား လျှင် ပွားအောင် ထပ်တလဲလဲ ဖွဲ့သန်သန်နှင့် အားထုတ်နိုင်သူ၊ အလွန်ကောင်းသော ရထား၌ အလွန်ကောင်းသော မြင်းအာဇာနည်ကို တပ်လျက် အလွန်ကောင်းသော

လမ်းတွင် အလွန် အမောင်းကောင်းသော သူသည် အသွားအပြန် စိုင်းနှင်နေသကဲ့သို့ ထိုမေတ္တာစိတ်ကို မေတ္တာခံသူ့ထံသို့ အပြန်ပြန် အလှန်လှန် စေလွှတ်ပို့သ မောင်းနှင်ဖြန့်ဖြူးနေနိုင်သူတို့အား–

အိပ်နိုးချမ်းသာ၊ ယုတ်မာမမက်၊ နှစ်သက်လူနတ်၊ စောင့်လတ် နတ်များ၊ ဆိပ်ကားမနှံ့၊ စိတ်ပျံ့တည်ကြည်၊ ရွှင်သည်မျက်နှာ၊ သေခါ မတွေ၊ လားလေဗြဟ္မာ၊ ဆယ့်တစ်ဖြာဟု၊ မေတ္တာနိသင်၊ ကျိုးဆက် ထင်သည်၊ ရှင်လူအများ ကျင့်ရန်သော်–

ဟူသော အကျိုး ၁၁–ပါးတို့ကို တကယ်ရရှိစေနိုင်ပါသည်။

မေး။ ။ ထိုမေတ္တာဖြန့်ဖြူး ပို့သ မှီဝဲခြင်းကို ဘုရားရှင်သည် အဘယ်မျှ လိုလား နှစ်သက်တော်မူပါသနည်း။

ဖြေ။ ။ (အစ္ဆရာသင်္ဃာတမတ္တမ္ပိဟူသော ဧကင်္ဂုတ္တရပါဠိတော်နှင့်အညီ) လက်ဖျစ်တစ်တီးမျှ ကာလလောက် မေတ္တာစိတ်ကို ပွားများဖြန့်ဖြူးပို့သ မှီဝဲသော ရဟန်းကို ဈာန်မှ မဆိတ်သောရဟန်း၊ ဘုရားရှင် အဆုံးအမကို လိုက်နာသောရဟန်း၊ ဘုရားရှင်ဩဝါဒကို အတူလိုက်၍ ကျင့်ရသောရဟန်း၊ ပြည်သူတို့ဆွမ်းကို အကျိုးရှိအောင် သုံးဆောင်သောရဟန်း ဟူ၍ပင် လွန့်လွန့်ကျူးကျူး အထူးလိုလား နှစ်သက်တော်မူပါသည်။

## တစ်ဘက်သား သိလောက်အောင် ထိခိုက်သောမေတ္တာ

မေး။ ။ အဘယ်မျှလောက် ပို့သ မှီဝဲ၍ ထိုမျှလောက် ချီးမွမ်းတော်မူရပါသနည်း။

ဖြေ။ ၁။ မုဆိုး လုံ့ခွေရသော နွားမဝတ္ထုလာ နွားမ၏ မေတ္တာမျိုး၊

၂။ သွေးစင်စစ်က အဖြူရောင်နို့ ဖြစ်သွားရသော သားသည်မိခင်၏ မေတ္တာမျိုး၊

၃။ အဝေး၌ရောက်နေသော မိမိ၏ နို့ရည်တွေ ထိန်းသိမ်း မနိုင်အောင် ယိုစီးနေသော ကလေးသူငယ်တို့၏ မေတ္တာမျိုး၊

၄။ အမိမဒ္ဒီဒေဝီ၏ တူရွှင်း ခြင်းတောင်း လွတ်ကျခြင်း၊ မျက်ခုံးလှုပ်ခြင်း စသည်တို့ ဖြစ်လောက်အောင် တောင့်တ,မျှော်လင့်နေကြသော ဇာလီ ကဏှာဇိန်တို့၏ မေတ္တာမျိုး၊

၅။ မည်သူ့မျက်နှာ ဒီနေ့မြင်တယ်ကွယ် ဆိုရသော အများသုံး မေတ္တာမျိုး၊

၆။ မရောက်မီကပင် ကျိုးသာနှင့်ရသော အများဆိုင် မေတ္တာမျိုး၊

၇။ ထမင်းအိုး ဝေခြင်း၊ ထမင်းအိုး ရီခြင်း၊ ခွေး ဖင်သီခြင်း စသော အများဆိုင် မေတ္တာမျိုး၊

၈။ ကြက်, ငှက် တိရစ္ဆာန် သားသမင်များကို လူချင်းကဲ့သို့ ခင်မင်

ခိုင်းစေရလောက်သော သုဝဏ္ဏသျှံ ရသေ့ငယ်၏ မေတ္တာမျိုး (မှသာ လျှင် လိုရာပြီးမြောက် ခရီးပေါက်စေနိုင်ပါသည်။)

၄င်းတို့လောက် စိတ်အား မရှိ၊ စိတ်အား မသန်၊ သာမန်မေတ္တာမျှ လောက်ကိုပင် ဘုရားရှင် ချီးမွမ်းတော်မူပါသည်။ ပစ္စည်းလေးပါး ဒကာ၊ ဒကာမ တို့ကို သိမ်းကျုံး၍ဖြစ်စေ၊ တစ်ယောက်စီဖြစ်စေ 'မည်သူ ဘေးရန် ကင်းပါစေ၊ မည်သူ ဆင်းရဲကင်းပါစေ၊ မည်သူ ချမ်းသာပါစေ' ဟု ထိုဒကာ၊ ဒကာမတို့၏ အကျိုးစီးပွား လိုလားရုံမျှဖြစ်သော မေတ္တာကိုပင် ချီးမွမ်းတော် မူခြင်းဖြစ်ပါသည်။

**မေး။** ။ မေတ္တာကို အဘယ်သို့ မှိုဝဲပို့သမှ ကြီးမားကျယ်ပြန့်သော အကျိုး အာနုဘော် ပြန့်ပွားခြင်းကို ရရှိနိုင်ပါသနည်း။

**ဖြေ။** ။ (အာဒရေန သေဝနာ အသေဝနာ– ပဋိသမ္ဘိဒါမဂ် အဋ္ဌကထာ၊ မဟာ ဋီကာ၊ အင်္ဂုတ္တရဋီကာတို့နှင့်အညီ) ယခုကာလ ပေါ့ပေါ့ဆဆ အချိုး မကျ ဝတ်ကျေဝတ်ကျေ လုရှိသေရုံမျှ ရည်မှန်းသော ဖြစ်ကတတ်ဆန်း မေတ္တာပို့မျိုးကို ထိုအကျိုးရ၏ဟု ဒိဋ္ဌပိုင်ပိုင် မဆိုနိုင်ပါ။

မေတ္တာခံယူသူကို ရုပ်ပုံပါ ပေါ်အောင် ကြည့်။ ရှေ့တည့်တည့်က ထားပြီး မီးခိုး ဝိုင်းသလို၊ ပင့်ကူမြွေး ပတ်သလို မေတ္တာရုပ်ဓာတ် မေတ္တာကလာပ်ခိုး၊ ကလာပ်မှုန်တို့ကို တစ်ကိုယ်လုံး ရစ်ပတ်စေသည့်အပြင် ကိုယ်တွင်းသို့ ဝဲစုပ်သလို သက်ဝင်၍ သွားကြဲအောင် စိတ်အားထက်သန်စွာ မေတ္တာကမ္မဋ္ဌာန်းနှင့် မေတ္တာ ခံယူသူတို့အား လေးစားရိုသေ ကျေကျေနပ်နပ် မေတ္တာ ဓာတ်ခိုး၊ မေတ္တာဓာတ်မှုန် တို့ကို ဖြန့်ဖြူးခြင်း၊ သွတ်သွင်းခြင်း၊ သွန်းလောင်းခြင်း၊ ပို့သ စေလွှတ်ခြင်းကိုမှ ပြုခဲ့သော လောကအကျိုး နောင်တမလွန်ကျိုးတို့ကို တကယ်ခံစားရ၏ဟု မှတ်ရမည်။

## စိတ်ပညာနှင့် ညှိနှိုင်းပုံ

**မေး။** ။ မေတ္တာပို့ရာဝယ် စိတ်ပညာ ဆရာတို့ကား အဘယ်သို့ ယူဆကြ ပါသေးသနည်း။

**ဖြေ။** ။ အနောက်တိုင်း ဆွိဒင်ပြည်သား ဆေးဆရာကြီး 'ပါရာဆလ်ဆပ်' ဆိုသူသည် မေတ္တာဓာတ် လွှတ်လိုသောအခါ ဦးနှောက်၏ အပိုင်းကြီး ငါးပိုင်းအနက် ရှေ့ပိုင်းဖြစ်သော နဖူး၏အလယ် နှာရောင် တည့်တည့်၌ တည်ရှိသော ဦးနှောက်ပိုင်း၏ဌာနမှ လွှတ်ရကြောင်း၊ လွှတ်လိုက်သော မေတ္တာဓာတ်ကို ခံယူသူမှာ ဦးနှောက်၏နောက်ပိုင်း နောက်စေ့၌ရှိသော ဌာနမှ ခံယူကြောင်း အဆိုကို ဖတ်ရှု တွေ့မြင်ရသည်။

ဗုဒ္ဓဘာသာအလို ဟဒယဝတ္ထု (နှလုံးအိမ်) မှ မေတ္တာဓာတ်ကို လွှတ်၏။

မေတ္တာခံယူသူမှာလည်း အတွင်းအပြင် မည်သည့်နေရာမဆို တစ်ကိုယ်လုံးဖြင့် ခံယူနိုင်ပေရာ အဆိုနှစ်ခု ခြားနားသကဲ့သို့ ရှိသော်လည်း-

"ဘော, ပသာဒ၊ လောဟိတ၊ ဇီဝ, သည်းခြေ, သုတ်၊

ကိုယ်လုံးနှံ့ဖြာ၊ တည်နေပါ၊ ကျမ်းလာ မှန်မယုတ်"-

ဟူသော (ကိုယ်ခန္ဓာဆိုင်ရာ သမ္မော, ဝိသုဒ္ဓိမဂ်ကျမ်းလာ) လင်္ကာ ဆောင်ပုဒ် အတိုင်း ဣတ္ထိဘာဝရုပ် ပုမ္ဘာဝရုပ်၊ ကာယဓာတ်မှန်ရုပ်၊ သွေး၊ ဇီဝိတရုပ်၊ သည်းခြေ၊ သုတ်ဓာတ်တို့သည် တစ်ကိုယ်လုံး အပ်ဖျားရာ မလွတ်အောင် တည်ရှိကြသဖြင့် မေတ္တာဓာတ် မေတ္တာကလာပ်တို့သည် ကမ္ဘာတစ်ခုလုံးရှိ မြူမှုန် ကလာပ်မှုန်တို့နှင့် ရောစပ်ပေါင်းမိ ထိတွေ့သောအခါ မေတ္တာခံသူတို့ ရောက်ခြင်း၊ မေတ္တာဓာတ်လွှတ်သူက စိတ်ထက်သန်လျှင်လည်း မေတ္တာခံသူက ရုပ်ကို မြင်စိတ်၊ အသံကို ကြားစိတ်၊ အနံ့ကို သိစိတ်၊ အကြံကို သိစိတ် တို့သည် ကမ္ဘာတစ်ခွင်၌ ထင်ပေါ်ကျော်ကြားလျက်ရှိသော ဟိမဝန္တာ၌ နေထိုင်လျက်ရှိသူ တိဘက်ရသေ့ ရဟန်းတို့သည် အချင်းချင်း ဝေးလှစွာသော ကျောင်းမှ စကားပြောခြင်း စသော ကိစ္စအရပ်ရပ်ကို ပြုလုပ်နိုင်ကြသည် ဆိုသကဲ့သို့ လိုအပ်သော အကျိုးပြီးမြောက် နိုင်လေရကား ထူးခြားဆန့်ကျင်မည် မဟုတ်ဟု မှတ်ယူရမည်။

## စိတ်ကူးကို ရိုက်ကူးသော ဓာတ်ပုံ

၁၉၃၇-ခု၊ တက္ကသိုလ် ပရိဖက်ဆာ 'ဖာဒေးနန်းဒိုးကာဇမ်းမလ်လီ' ခေါ် လောကဓာတ်ဆရာကြီးက စိတ်ကူးကို ဓာတ်ပုံရိုက်ရာ နက်နက်နဲနဲ ကြံစည်လျှင် ပုံ၌ အဖုအထစ်များပုံ၊ သင့်ရုံကြံစည်လျှင် အဖုအထစ်နည်းပုံ၊ လွတ်လွတ်လပ်လပ် ကျေနပ်နေလျှင် အဖုအထစ်မရှိပုံ ပြဆိုခြင်းမှာလည်း ဗုဒ္ဓဘာသာနှင့် ဆန့်ကျင် နေသည်ဟု မဆိုသာ ညီညွတ်သည်သာတည်း။

ညီညွတ်ပုံမှာ စိတ်ဖြစ်က စိတ်ကြောင့်ဖြစ်သော စိတ္တဇရုပ်ခေါ်သော ရုပ်မှုန် ကလာပ်မှုန်တို့ ပေါ်လာပြီးလျှင် တစ်ကမ္ဘာလုံးရှိ မြူမှုန် ကလာပ်မှုန်တို့နှင့် ကမ္ဘာ၏ ကိစ္စတို့ကို ပြီးမြောက်စေတတ်ကြောင်း၊ ဥပမာအားဖြင့် တစ်ယောက်စကားကို တစ်ယောက်ကြားရာ ပြောလိုသောစိတ်နှင့် တစ်ပြိုင်နက် သေနတ်သံနှင့် မီးခိုး ပြိုင်တူထွက်သလို ခံတွင်းမှ ထွက်သွားသော စိတ္တဇရုပ်ဓာတ် ကလာပ်မြူမှုန်တို့က ကမ္ဘာပေါ်ရှိ ကလာပ်မှုန်တို့ကို လှိုင်းရိုက်သကဲ့သို့ တွန်းပို့လိုက်သဖြင့် နားထောင်သူ၏ နားထဲသို့ ဝဲစုပ်သလို ဝင်သွားကြ၍ ကြားမှုကို ပြီးစေကြောင်း အဘိဓမ္မာကျမ်းဂန်တို့က

'သဒ္ဒေါ ပန ဓာတုပရမ္ပရာယ အာဃဋ္ဋာ သောတံ ဃဋ္ဋေတွာ' (အသံဓာတ်သည်

ဘုံတ်ဓာတ်ချင်း ဆက်၍ဆက်၍ ဆင့်ကာဆင့်ကာ လာပြီးလျှင် နားအကြည်ရုပ်ကို ထိတွေ့ပေးသည်။) မိန့်ဆိုချက်အရ သိရသကဲ့သို့ လည်းကောင်း၊ အဆီးအတား ရှိခဲ့သော်၊ လေတင်ဖြစ်၍ လေလှန်နေခဲ့သော် မကြားရ၊ စိတ်အားထက်သန် အသံကျယ်ပွားက အမြန် ကြားရသကဲ့သို့ လည်းကောင်း၊ အနံ့ခေါ်သော အခိုးဓာတ် ကလာပ်မှုန်သည်လည်း ယခင် လှိုင်းဥပမာအတိုင်း လေသင့်က အမြန် ရောက်၍ လေလှန်နေက မရောက်နိုင်သကဲ့သို့လည်းကောင်း၊ စိတ်ရှိသတ္တဝါတို့၏ စိတ်ခိုး၊ ဓာတ်ခိုး၊ ကလာပ်ခိုးတို့နှင့် ကမ္ဘာပေါ်ရှိ ဓာတ်ခိုး၊ ကလာပ်ခိုးတို့ ရောစပ်နေပုံကို ကြံစည်စဉ်းစားတတ်ပါလျှင် စိတ်ကူးဓာတ်ပုံရိုက်သည်မှာ အထူး အဆန်း မဟုတ်တော့ချေ။

### တစ်ကမ္ဘာလုံး၌ စိတ်ဓာတ်ခြယ်လှယ်နေပုံ

**မေး။** ။ 'စိတ္တေန နီယျတိ လောကော' အရ တစ်ကမ္ဘာလုံး စိတ်ဓာတ်က ခြယ်လှယ်နေသည်ဆိုရာ ထိုစိတ်ခိုး၊ ဓာတ်ခိုး၊ ကလာပ်ခိုးတို့သည် ကမ္ဘာပေါ်ဝယ် အဘယ်မျှ ခြယ်လှယ်၍ နေကြပါသနည်း။

ဖြေ။ ။ဝမ်းသာသူနှင့်တွေ့က ဝမ်းသာခြင်း၊ စိတ်ညစ်သူနှင့်တွေ့က စိတ်ညစ်ခြင်း၊ ငိုသူနှင့်တွေ့က ငိုခြင်း၊ လူမိုက်နှင့်ပေါင်းက လူမိုက်ဖြစ်ခြင်း၊ လိမ္မာသူနှင့်ပေါင်းက လိမ္မာခြင်းတို့ကိုလည်းကောင်း၊ အရက်သောက်သောသူ အရက်နံ့ နံနေခြင်း၊ မီးလှုံသူ မီးခိုးစော်နံနေခြင်း၊ တံငါလုပ်သူ ငါးစော် နံနေခြင်း၊ ထောပတ်၊ နွားနို့၊ ဆိတ်သား၊ ဝက်သားစားသူ နွားနံ့၊ ဆိတ်နံ့၊ ဝက်နံ့နံ၍ နွားစိတ်၊ ဝက်စိတ်၊ ဆိတ်စိတ်လည်း ပေါက်နေတတ်ခြင်း၊ ပျို့ရွယ်သူ မိန်းမနှင့် ပေါင်းလျှင် ပျို့ရွယ်၍ အိုသူနှင့်ပေါင်းလျှင် အိုလွယ်ခြင်း။

တစ်မြို့လုံး၊ တစ်နယ်လုံး စိတ်ညစ်နေသော မြို့ရွာသို့ ရောက်သွားသူ ထိုမြေကို နင်းမိလျှင်ပင် စိတ်ညစ်ခြင်း၊ စိတ်ပျော်ရွှင်သော မြို့ရွာသို့ရောက်လျှင် ပျော်ရွှင်ခြင်းတို့ကို လက်ငင်းထင်ထင် တွေ့မြင်နေကြရာ စိတ္တဇ ဓာတ်ခိုး၊ ကလာပ်ခိုး, ဥတုဇဓာတ်ခိုး ကလာပ်ခိုး, အဟာရဓာတ်ခိုး, ကလာပ်ခိုးတို့၏ သတ္တိကြောင့် ကမ္ဘာတစ်ခွင်လုံး ဗရုန်းဗရင်း ဖြုန်းဖြင်းဆန်ခတ် ဖြစ်ကတတ်ဆန်း ပရမ်းပတာ ပွေချာနောက်လျက် ဖောက်ပြန်ပြောင်းလဲ၍ နေပုံကို ဉာဏ်ကုန် လွှတ်ကာ စဉ်းစားကြရာ၏။

[မှတ်ချက်။ ။လူတို့ ကိုယ်ကျင့်သီလပျက် တရားပျက်၍ လ, နေ, နက္ခတ် အသွားမမှန် ရာသီဥတု ဖောက်ပြန်ခြင်း၊ အနာရောဂါများခြင်း၊ အသက်တမ်းတိုခြင်း၊ အသိဉာဏ် ဆုတ်ယုတ်ခြင်း၊ လူသားတို့

စိတ်ဓာတ် ညံ့ဖျင်းသေးသိမ်ရာမှအစ တစ်ကမ္ဘာလုံး ဒုက္ခရောက်ကြရကြောင်း ကျမ်းဂန် အထောက်အထားများစွာဖြင့် ဆက်လက် ရေးသားထားသည်။ အကျယ်သိလိုလျှင် ထိုဋီကာကြီးမှာ ကြည့်ကြပါကုန်။]

☆

**ကုသိုလ်စွမ်းအင်**

မင်းကြီး၊ အကုသိုလ်သည် အင်အားနည်း၏၊ ကုသိုလ်ကား အင်အားကြီးမား၏။

အကုသိုလ်သည် အင်အားနည်းသောကြောင့် ပြုလုပ်သူကိုသာလျှင် သိမ်းခြုံ လွှမ်းမိုးနိုင်၏။ ကုသိုလ်ကား အင်အားကြီးမားသောကြောင့် ပြုလုပ်သူကိုသာမက လူ့ပြည်, နတ်ပြည်, ဗြဟ္မာ့ပြည် တစ်လောကလုံးကိုပင် သိမ်းကျုံး လွှမ်းမိုးနိုင်ပေသည်။

**မိလိန္ဒပဉှာ**

(ဤကျမ်း ၂၂၉ ရှု။)

**ဗုဒ္ဓအသိစာပေ**

## နိကာယ် ကဏ္ဍ

- နှိပ်စက်၍ မရသော မေတ္တာ
- သာသနာ့အပြင်ဘက်မှာ မေတ္တာ
  အပြည့်အစုံ မရှိ
- နှစ်ခုမရှိသော စိတ်ဆင်းရဲ ပျောက်နည်း
- မေတ္တာ–သချာ်လွန် ကုသိုလ်
- မေတ္တာ–ရေကန်ကြီး
- မြေကြီးနှင့်ကောင်းကင်ပမာ မေတ္တာအင်အား။

စတုတ္ထအကြိမ်

## တရားရှုမှတ်သူ တစ်ကိုယ်ကောင်းသမားမဟုတ်

"တရားရှုမှတ်သူများအား ကိုယ်လွတ်ရုန်းသူများ၊ တစ်ကိုယ်ကောင်း သမား စသည်ဖြင့် အချို့ ပညာမဲ့သူတို့ ထင်မှတ်ပြောဆိုတတ်ကြရာ ဘုရားရှင်၏ အလိုတော်နှင့် မည်မျှဆန့်ကျင်ကြောင်း သတိမူအပ်ကုန်၏။"

## မေတ္တာနှင့် မွေ့လျော်သူ ဘေးရန်မရှိ

"အကြင်ပုဂ္ဂိုလ်အား အလုံးစုံသော နေ့ညဥ့်ပတ်လုံး မညှဉ်းဆဲခြင်း၌ မွေ့လျော်သော စိတ်ရှိ၍ အလုံးစုံသော သတ္တဝါတို့၌ မေတ္တာစိတ် အစုအပုံ ရှိသည်ဖြစ်၍ နေ၏။ ထိုပုဂ္ဂိုလ်အား တစ်ဦးတစ်ယောက်ကြောင့်မျှ ဘေးရန် မရှိ။"

**နိကာယ် ငါးရပ်လာ**
**ဗြဟ္မဝိဟာရ ဒေသနာများ**

[နိကာယ်ငါးရပ် ပိဋကတ်သုံးပုံ ပါဠိတော် အဋ္ဌကထာ ဋီကာတို့၌ ဗြဟ္မဝိဟာရနှင့်စပ်၍ မှတ်သားနာယူ ကျင့်သုံးဖွယ် ဒေသနာတော်များ မူရင်းအတိုင်း ထုတ်နုတ် ဖော်ပြချက်နှင့် ဝေဖန်သုံးသပ်ချက်များပါဝင်သည်။]

### ၁–သတ္တိသုတ်
### နှိပ်စက်၍ မရသော မေတ္တာ

သာဝတ္ထိပြည်၌ ဟောတော်မူသည်။ ရဟန်းတို့၊ ဥပမာအားဖြင့် အသွားထက်သော လှံသည် ရှိ၏။ အကြင်သူ တစ်စုံတစ်ယောက်သည် လာရောက်၍ 'ငါသည် ဤအသွားထက်သော လှံကို လက်ဝါးဖြင့်ဖြစ်စေ, လက်ဆုပ်ဖြင့်ဖြစ်စေ အဖျားမှနေ၍ လုံးအံ့ဟူ၍ လည်းကောင်း၊ ခါးလည်မှချိုး၍ ခေါက်အံ့ဟူ၍လည်းကောင်း၊ လိပ်အံ့ဟူ၍ လည်းကောင်း' ဆိုရာ၏။

"ရဟန်းတို့၊ ထိုအရာကို သင်တို့ အဘယ်သို့ မှတ်ထင်ကုန်သနည်း၊ ထိုသူသည် ထိုအသွားထက်သော လှံကို လက်ဝါးဖြင့် ဖြစ်စေ၊ လက်ဆုပ်ဖြင့် ဖြစ်စေ လုံး၍၊ ခေါက်၍၊ လိပ်၍ ရချေမည်လော"ဟု မေးတော်မူ၏။

"အရှင်ဘုရား၊ ထိုသို့ ပြုခြင်းငှာ မထိုက်ပါ၊ အဘယ်ကြောင့်နည်းဟူမူ

ထိုအသွားထက်သော လှံသည်ကား လက်ဝါးဖြင့်ဖြစ်စေ၊ လက်ဆုပ်ဖြင့်ဖြစ်စေ၊ လုံးခြင်း၊ ခေါက်ခြင်း၊ လိပ်ခြင်းငှာ မလွယ်ကူပါ။ ထိုသူသည်သာလျှင် ကိုယ်ပင်ပန်းခြင်း၊ စိတ်ပင်ပန်းခြင်း ဖြစ်ရာသောကြောင့်ပါတည်း" ဟု လျှောက်ကုန်၏။

"ရဟန်းတို့၊ ဤအတူသာလျှင် အကြင်တစ်စုံတစ်ယောက်သော ရဟန်းသည် မေတ္တာစေတောဝိမုတ္တိ (ဗျာပါဒ စသော ဆန့်ကျင်ဘက် တရားတို့မှ ကင်းလွတ်သော စိတ်နှင့်ယှဉ်သော မေတ္တာစျာန်၊ ဝါ-စင်ကြယ်သော မေတ္တာစိတ်) ကို ပွားများအပ်၏။ ကြိမ်ဖန်များစွာ လေ့ကျက်အပ်၏။ (အဆင်သင့်စီးနိုင်သော) ယာဉ်ကဲ့သို့ ပြုအပ်၏။ မှီရာ တည်နေရာကဲ့သို့ ပြုအပ်၏။ မြဲမြံစွာ တည်စေအပ်၏။ ပြည့်စုံစွာ လေ့ကျက်ဆည်းပူးအပ်၏။ ကောင်းစွာ အပြီးတိုင် အားထုတ်အပ်၏။

"အကယ်၍ 'ထိုမေတ္တာပွားများရသော ရဟန်း၏ စိတ်ကို ပျံ့လွင့်စေအံ့' ဟု တစ်စုံတစ်ယောက်သော အမနုဿသည် ထင်မှတ်လေရာ၏။ ထိုသို့ ထင်မှတ်သော်လည်း စင်စစ် ထိုအမနုဿသည်သာလျှင် ကိုယ်ပင်ပန်းခြင်း၊ စိတ်ပင်ပန်းခြင်း ဖြစ်ရာ၏။ (ရှုံးသွပ်အောင် မလုပ်နိုင်ဟု ဆိုလိုသည်။)

"ရဟန်းတို့၊ ထို့ကြောင့် 'ငါတို့သည် မေတ္တာစေတောဝိမုတ္တိကို ပွားများအံ့၊ (လ) ကောင်းစွာ အပြီးတိုင် အားထုတ်အံ့' ဟူ၍ ဤသို့လျှင် သင်တို့ လေ့ကျင့်ရမည်ဟု ဟောတော်မူ၏။

[နိဒါနသံယုတ်၊ သတ္တိသုတ်ပါဠိတော်-၄၅၅။
မြန်မာပြန်-၄၄၄။ အဋ္ဌကထာ-၂၀၇။ ဋီကာ-၁၈၈။]

## မေတ္တာသည် တန်ပြန်မဟုတ်

ယင်းသို့ ဟောတော်မူသည်ကို လိုသလို ကြံဆ၍ 'မေတ္တာကို တန်ပြန်လက်နက်' ဟုလည်းကောင်း၊ မေတ္တာပို့ခြင်းဖြင့် တစ်ဘက်သားရန်သူအား ဒုက္ခရောက်စေသည်ဟုလည်းကောင်း မထင်မှတ်အပ်၊ မေတ္တာ၏ သဘာဝ အစွမ်းသတ္တိကိုသာ ဟောတော်မူလိုရင်းဖြစ်သည်။ မြစ်ရေပြင်၌ မီးတုတ်၊ မီးစည်းပစ်ချလျှင် မီးတုတ်၊ မီးစည်းသာလျှင် ပျက်စီးရမည်။ ထိုသို့ပျက်စီးစေရန် ရေက ပြုလုပ်သည် မဟုတ်၊ မေတ္တာစိတ်ကို မည်သည့် ဒေါသစသော အပူစိတ်ကမျှ မလောင်မြိုက်စေနိုင်။

သို့ရာတွင် မေတ္တာစသော သူတော်ကောင်းတရားရှိသူအား နှိပ်စက်လျှင် နှိပ်စက်သူများသာ ထိခိုက်နစ်နာစေတတ်သည်မှာလည်း အမှန်ပင် ဖြစ်၏။

(တိကနိပါတ် သေယျဇာတ်နှင့် စတုက္ကနိပါတ်ကေရာဇ်ဇာတ်တို့၌) သူပုန်မင်းများက ဗာရာဏသီမင်းကို ဖမ်းဆီးချုပ်နှောင်ထားကြရာ ထိုမင်းသည်

ရန်သူကို မမုန်းသည့်အပြင် မေတ္တာစိတ်ထား၍ အကျိုးစီးပွား ချမ်းသာစေလိုသော စိတ်ဖြင့် မေတ္တာပွားလျက်ရှိရာ သူ့ဖုန်မင်းများ အသီးသီး " ပူလောင်လှချေရဲ့" ဟု အော်ဟစ်ကာ အဖုအပိမ့်များပေါ် ထွက်လာ၍ ဝန်ချကန်တော့ရကြောင်း လာရှိ၏။

မြန်မာနိုင်ငံ သာသနာဝင်လာ ပေါင်လောင်ရှင်ကဿပ မထေရ်ကြီးအား ပလောင်လူမျိုးတို့ စတင်တွေ့ကြစဉ် ခြံခတ်ချုပ်နှောင်ထား၍ အဖုအပိမ့်များ ထွက်ကာ ယားယံကြကြောင်း မှတ်သားရသည်။

ထိုသို့ ဖြစ်ရသည်မှာ ရန်သူများအား တန်ပြန်ဖြစ်စေရန် ရည်ရွယ်၍ ပြုလုပ်ခြင်း မဟုတ်ပေ။ ထိုသို့ရည်ရွယ်၍ပို့သော မေတ္တာလည်း မေတ္တာ မဟုတ်တော့ပေ။ မဟုတ်ရုံသာမက ကြီးလေးလှသော ဒေါသ, အာဃာတကြီးပင်တည်း။

လေအောက်၌ ရပ်တည်လျက် မြူမှုန်များကို လက်ဖြင့်ဆုပ်ကာ လေညာသို့ လှမ်း၍ ပက်ကြသော်သူသည် မိမိပက်ကြသော မြူမှုန်များ မိမိ၏ မျက်စိ၊ နှာ၊ ခံတွင်းသို့သာ ကျဝင်မြဲဖြစ်သည်မှာ သဘာဝပင် ဖြစ်သကဲ့သို့ မိမိတို့၏ ဒေါသက မိမိတို့အားသာ ပြန်၍ ဒုက္ခပေးခြင်းပင်တည်း။ လျှပ်စစ်မီးကို မထိလေးစား ကိုင်တွယ်၍ ဒုက္ခရောက်ပုံမှအစ အရိယူပဝါဒကံကြီး အထိ အပူအအေးတို့၏ အင်အားကို ချဲ့ထွင်ကြည့်ပါ။ အုတ်နံရံကို ပစ်ပေါက်သော ဘောလုံးသည် ထိုနံရံကို မဖောက်နိုင်က ပစ်သူအထံသို့သာ ပြန်လာရ၏။ သူတော်ကောင်း တို့မည်သည် ဒေါသစသော မကောင်းမှုကို လက်မခံကြချေ။

## ၂-ကုလသုတ်
## မေတ္တာ အကာအကွယ်

သာဝတ္ထိပြည်၌ ဟောတော်မူသည်။ "ရဟန်းတို့၊ မိန်းမသားသာ များပြား၍ ယောကျ်ားသား နည်းသော အိမ်ဟူသမျှ မီးအုပ်ဆောင်းဖြင့် ခိုးသူတို့သည် ခိုးယူဖျက်ဆီးရန် လွယ်ကူသကဲ့သို့ ထို့အတူသာလျှင် မေတ္တာစေတောဝိမုတ္တိကို မပွားများသော, ကြိမ်ဖန်များစွာ မလေ့ကျက်သော ရဟန်းအား အမနုဿ (မြေဘုတ်ဘီလူး) တို့သည် ဖျက်ဆီးလွယ်ပေသည်။

ရဟန်းတို့၊ မိန်းမသား နည်း၍ ယောကျ်ားသား များသော အိမ်ဟူ၍ မီးအုပ်ဆောင်းဖြင့် ခိုးသူတို့သည် ခိုးယူဖျက်ဆီးရန် ခက်ခဲကုန်သကဲ့သို့ ထို့အတူ သာလျှင် မေတ္တာစေတောဝိမုတ္တိကို ပွားများသော၊ ကြိမ်ဖန်များစွာ လေ့ကျက်သော ရဟန်းအား အမနုဿတို့သည် ဖျက်ဆီးရန် မလွယ်ကူပေ။

ရဟန်းတို့၊ ထို့ကြောင့် "ငါတို့သည် မေတ္တာစေတောဝိမုတ္တိကို ပွားများအံ့၊

ကြိမ်ဖန်များစွာ လေ့ကျက်အပ်၊ အသင့်စီးနိုင်သောယာဉ်ကဲ့သို့ပြုအပ်၊ မှီရာ တည်နေရာကဲ့သို့ ပြုအပ်၊ မြဲမြံ စွာ တည်စေအပ်၊ ပြည့်စုံစွာ လေ့ကျက် ဆည်းပူးအပ်၊ ကောင်းစွာ အပြီးတိုင် အားထုတ်အပ်" ဟူ၍ ဤသို့လျှင် သင်တို့ လေ့ကျင့်ရမည်ဟု ဟောတော်မူ၏။

[နိဒါနသံယုတ်၊ ဩပမ္မဝဂ်၊ ကုလသုတ်-၄၅၄။ ၄၄၃။ ၂၀၆။ ၁၈၇။]

## ၃-သေဒကသုတ်
### သူ့အကျိုးဆောင် ကိုယ်အကျိုးအောင်

အခါတစ်ပါး မြတ်စွာဘုရားသည် သုမ္ဘတိုင်း (သုမ္ဘတိုင်းသားတို့၏ နိဂုံးဖြစ်သော) သေဒက နိဂုံး၌ သီတင်းသုံးတော်မူ၏။ ထိုအခါ မြတ်စွာဘုရားသည် ရဟန်းတို့ကို မိန့်တော်မူသည်ကား--

ရဟန်းတို့၊ ရှေးကဖြစ်ဖူးသည်ကား ကြံ့ခိုင်သော ဝါးလုံးဖြင့် ကစားသော ဆရာသည် ကြံ့ခိုင်သော ဝါးလုံးကို စိုက်ထူစေ၍ မေဒကထာလိက မည်သော တပည့်ကို 'အမောင် မေဒကထာလိက၊ လာလော့၊ သင်သည် ကြံ့ခိုင်သော ဝါးလုံးတိုင်သို့ တက်၍ ငါ၏ ပုခုံးထက်၌ ရပ်လော့' ဟုပြောဆို၏။ ရဟန်းတို့၊ မေဒကထာလိကမည်သော တပည့်သည် 'ကောင်းပါပြီ ဆရာ' ဟု ဝါးလုံးထောင် ဆရာအား ဝန်ခံပြောကြားပြီးလျှင် ဝါးလုံးတိုင်သို့ တက်၍ ဆရာ၏ ပုခုံးပေါ်၌ ရပ်တည်နေ၏။

ရဟန်းတို့၊ ထိုအခါ ဝါးလုံးထောင်ဆရာသည် မေဒကထာလိက မည်သော တပည့်ကို 'အမောင် မေဒကထာလိက၊ သင်သည် ငါ့ကို စောင့်ထိန်းပါ၊ ငါသည်လည်း သင့်ကို စောင့်ထိန်းပေအံ့၊ ဤသို့လျှင် ငါတို့အချင်းချင်း လုံခြုံအောင် စောင့်ထိန်းကြလျက် အတတ်ပညာတို့ကိုလည်း ပြသကြကုန်အံ့၊ စီးပွားဥစ္စာကိုလည်း ရကြကုန်အံ့၊ ကြံ့ခိုင်သော ဝါးတိုင်မှလည်း ချမ်းသာစွာ ဆင်းသက်နိုင်ကြကုန်အံ့' ဟု ပြောဆို၏။

ရဟန်းတို့၊ ဤသို့ ပြောဆိုလတ်သော် မေဒကထာလိကမည်သော တပည့်သည် 'ဆရာ၊ ဤအမှုကား ဤသို့မဖြစ်သင့်ပါ။ ဆရာ၊ သင်သည်း သင့်ကိုယ်သင် စောင့်ထိန်းပါ၊ ကျွန်ုပ်လည်း ကျွန်ုပ်ကိုယ် ကျွန်ုပ် စောင့်ထိန်းပါအံ့၊ ဤသို့ ကျွန်ုပ်တို့ မိမိကိုယ်မိမိ လုံခြုံအောင် စောင့်ထိန်းကြကုန်လျက် အတတ်ပညာတို့ကိုလည်း ပြသကြကုန်အံ့၊ စီးပွားဥစ္စာကိုလည်း ရကြကုန်အံ့၊ ကြံ့ခိုင်သော ဝါးတိုင်မှလည်း ချမ်းသာစွာ ဆင်းသက်နိုင်ကြကုန်အံ့' ဟုပြောဆို၏။

ယင်းဆရာတပည့် နှစ်ဦးတို့တွင် တပည့်ပြောဆိုသော စကားသည်

သင့်မြတ်ပေ၏ဟု မြတ်စွာဘုရား မိန့်တော်မူ၏။

ရဟန်းတို့၊ တပည့်ဖြစ်သော မေဒကထာလိကသည် ဆရာကို ပြောပြသကဲ့သို့ 'မိမိကိုယ်ကို စောင့်ထိန်းအံ့' ဟူ၍ သတိပဋ္ဌာန်တရား လေးပါးကို မှီဝဲအပ်၏။ 'သူတစ်ပါးကို စောင့်ထိန်းအံ့' ဟူ၍လည်း သတိပဋ္ဌာန်တရားကိုပင် မှီဝဲအပ်၏။ ရဟန်းတို့၊ မိမိကိုယ်ကို စောင့်ထိန်းသည်ရှိသော် တစ်ပါးသူကိုလည်း စောင့်ထိန်းရာ ရောက်ပေ၏။ သူတစ်ပါးကို စောင့်ထိန်းသည်ရှိသော် မိမိ ကိုယ်ကိုလည်း စောင့်ထိန်းရာ ရောက်ပေ၏။

ရဟန်းတို့ အဘယ်သို့လျှင် မိမိကိုယ်ကို စောင့်ထိန်းသည်ရှိသော် တစ်ပါးသူကိုလည်း စောင့်ထိန်းရာရောက်သနည်း။ သတိပဋ္ဌာန်တရား လေးပါးကို မှီဝဲခြင်း, ပွားများခြင်း, ကြိမ်ဖန်များစွာ လေ့ကျက်ခြင်းဖြင့် မိမိကိုယ်ကို စောင့်ထိန်းသည် ရှိသော် တစ်ပါးသူကိုလည်း စောင့်ထိန်းရာရောက်ပေ၏။

[ယင်းသို့ သတိပဋ္ဌာန်ကျင့်ပွား၍ အရိယာ ဖြစ်သွားသည်ရှိသော် ကိုယ့်အလုပ် ကိုယ်လုပ်ခြင်းပင်ဖြစ်သော်လည်း အခြားသူများ ထိုပုဂ္ဂိုလ်မြတ်အား ဖူးတွေ့ ကြည်ညိုရရုံမျှဖြင့်ပင် နတ်ရွာသုဂတိ ရောက်နိုင်၏။ အဋ္ဌကထာ။]

ရဟန်းတို့ အဘယ်သို့လျှင် သူတစ်ပါးကို စောင့်ထိန်းသည်ရှိသော် မိမိကိုယ်ကို စောင့်ထိန်းရာလည်း ရောက်သနည်း။

၁။ သည်းခံခြင်း၊

၂။ (သနားသဖြင့်) မညှဉ်းဆဲခြင်း၊

၃။ မေတ္တာစိတ်ထားခြင်း၊

၄။ အစဉ်ဝမ်းမြောက်ခြင်းအားဖြင့် တစ်ပါးသူကို စောင့်ထိန်းသည် ရှိသော် မိမိကိုယ်ကိုလည်း စောင့်ထိန်းရာရောက်ပေ၏။ ရဟန်းတို့၊ 'မိမိကိုယ်ကို စောင့်ထိန်းအံ့' ဟု သတိပဋ္ဌာန်လေးပါးကို မှီဝဲအပ်၏။

ရဟန်းတို့၊ မိမိကိုယ်ကို စောင့်ထိန်းသည်ရှိသော် တစ်ပါးသူကိုလည်း စောင့်ထိန်းရာရောက်ပေ၏။ သူတစ်ပါးကို စောင့်ထိန်းသည်ရှိသော် မိမိ ကိုယ်ကိုလည်း စောင့်ထိန်းရာရောက်ပေ၏ဟု ဟောတော်မူ၏။

[မဟာဝဂ္ဂသံယုတ်၊ သတိပဋ္ဌာနဝဂ်၊ သေဒကသုတ်–၁၄၆။ ၁၅၂။ ၂၅၈။၄၈၀။]

## တရားထိုင်သူ တစ်ကိုယ်ကောင်းလား

ဝါးလုံးကို ထောင်၍ ဆရာတပည့် အတတ်ပညာပြသရာ၌ အောက်က ဝါးလုံးကိုထောင်သူ ဆရာကလည်း ဝါးလုံးကိုတက်သူ တပည့်အား ငဲ့စရာ, စောင့်ထိန်းစရာ မလို၊ မယိမ်းမယိုင် မလဲမကျအောင် အလိုက်သင့် စောင့်ထိန်းကာ

ကိုယ့်တာဝန်ကိုယ် လေးစားစောင့်ထိန်းရန်သာရှိ၏။ ယင်းသို့ စောင့်ထိန်းလျှင် တပည့်ကိုလည်း စောင့်ထိန်းပြီးသား ဖြစ်သွား၏။

ထို့အတူ တပည့်ကလည်း ဆရာက (ပခုံးပေါ် ထောက်၍) ထိန်းပေး ထူပေးထားသော ဝါးလုံးကို တက်ရာ၌ ဆရာ့အပေါ်သို့ မလဲကျ မနာကျင်စေရန် အထူးငဲ့ညှာစောင့်စည်းဖို့ မလို၊ မိမိတာဝန်ကို လေးလေးစားစားပြု၍ သတိ ဝီရိယထားကာ တက်သွားခြင်းဖြင့် မိမိကိစ္စလည်း ပြီး၊ ဆရာကိုလည်း စောင့်ထိန်းရာ ကျပေတော့သည်။

ယင်းသို့ဆိုသော် " တရားရှုမှတ်သူများအား ကိုယ်လွတ်ရုန်းသူ၊ တစ်ကိုယ် ကောင်းသမား"စသည်ဖြင့် အချို့ပညာမဲ့သူတို့ ထင်မှတ်ပြောဆိုတတ်ကြရာ ဘုရားရှင်၏ အလိုတော်နှင့် မည်မျှဆန့်ကျင်ကြောင်း သတိမူအပ်ကုန်၏။

## တစ်လောကလုံး၏ ခေါင်းဆောင်

သတိပဋ္ဌာန်တရား ရှုပွားခြင်းသည် မိမိ သူတစ်ပါး နှစ်ဦးနှစ်ဝအကျိုးကို အကောင်းဆုံး သည်ပိုးခြင်းဖြစ်ကြောင်း တထစ်ချ မှတ်ယူအပ်၏။ မိမိအကျိုးကို ဆောင်ရာ၌လည်းကောင်း၊ သူတစ်ပါးအကျိုးကို ဆောင်ရာ၌ လည်းကောင်း၊ ထို့ထက်ကောင်းသော ၊ အင်အားပါသော လုပ်ငန်းကား မရှိပြီ။ ထို့ကြောင့် 'ပဓာနအလုပ်-လိုရင်းအလုပ်ကြီး' ဟု ခေါ်ဆိုရသည်။ ပြည့်စုံပြီးမြောက်သွားပါမူကား (သော မံ လောကံ ပဘာသေတိ=) တစ်လောကလုံးကိုပင် အလင်းရောင်ပေးနိုင်သူ၊ ကယ်တင်နိုင်သူဖြစ်၍ တစ်လောကလုံး၏ အားကိုးရာ အဂ္ဂဒက္ခိဏေယျ သံသရာ့ ခေါင်းဆောင်ကြီးအဖြစ် ရရှိလာနိုင်ကြပေသည်။

အထူးသဖြင့် မေတ္တာစိတ် ဖြန့်ပွားခြင်းမှာ ယခုချက်ချင်းပင် သတ္တဝါတို့အား ကယ်တင်စောင်မ,ရာ ရောက်၍ ထိုမေတ္တာဈာန်မှ တစ်ဆင့်တက်ကာ မိမိလည်း အရဟတ္တဖိုလ်ဆုကြီးကို အလွယ်တကူပင် လှမ်းယူနိုင်တော့သည်။ သူတစ်ပါး အကျိုးကိုဆောင်ခြင်းဖြင့် ကိုယ့်ကျိုးပါ အောင်ရသော အကောင်းဆုံး အလုပ်ကြီး ပင်တည်း။

လောက၌လည်း ကိုယ်ကျိုး ကိုယ့်စီးပွားကို ပဓာနထားပြီး လုပ်သူထက် အများပြည်သူအကျိုး၊ လောကအကျိုးကို ဦးတိုက်လုပ်သူများ ပို၍ ကြီးပွား ချမ်းသာနေကြသည်မှာ အထင်အရှားပင်ဖြစ်၏။

တစ်ကိုယ်ကောင်းသမား၊ တစ်နပ်စားသမားများမှာ ထိုသဘောကို မသိရှာ ကြသဖြင့် ကြီးပွားချမ်းသာအောင်လုပ်ရင်း ဆင်းရဲတွင်း နက်နေကြရရှာ၏။ အနည်းဆုံး သီလစောင့်ရသည်ကို ဆင်ခြင်ကြည့်ပါ။

ထိုင်ရာမထ တစ်လောကလုံးကို သိမ်းကျုံးလွှမ်းခြုံ၍ အအေးဓာတ် ထုံမွှမ်းပေးနေရုံမျှဖြင့်ပင် ထိုမေတ္တာဓာတ်၏ အင်အားသည် သတ္တဝါအများကို အတုမရှိ အစောင့်အရှောက် အကာအကွယ် ပြုလုပ်ပေးနိုင်ကြောင်း ဤ ဒေသက သုတ္တန်ဖြင့်လည်း ထင်ရှားလှပေ၏။

## ၄–ဂါမဏိသံယုတ်၊ သစ်ေမနှင့် ပါဠိလိယသုတ်
## ရပ်ရွာအကြီးအကဲတို့အား ဟောကြားသော
## အခြေခံ ဗုဒ္ဓဝါဒ သင်တန်းတရား

အို–အသိဗန္ဓက ရွာသူကြီး၊ အရိယာဖြစ်သော တပည့်တော်သည် ဤသို့ သူ့စည်းစိမ်ကို ရှေ့ရှုကြိုးစည်ရလိုမှု 'အဘိဇ္ဈာ'၊ သူတစ်ပါးကို ပျက်စီးစေလိုမှု 'ဗျာပါဒ' ကင်းသည်ဖြစ်၍ မတွေမဝေဘဲ ကောင်းစွာ ဆင်ခြင်နိုင်သောဉာဏ် 'သမ္ပဇဉ်'၊ ထင်သော အောက်မေ့မှု 'သတိ' ရှိလျက် ချမ်းသာစေလိုခြင်း 'မေတ္တာ' နှင့်တကွ ဖြစ်သော စိတ်ဖြင့် (လ) သနားခြင်း 'ကရုဏာ' နှင့် တကွ ဖြစ်သော စိတ်ဖြင့် (လ) ဝမ်းမြောက်ခြင်း 'မုဒိတာ' နှင့်တကွဖြစ်သောစိတ်ဖြင့် (လ) အညီအမျှ ရှုမြင်ခြင်း 'ဥပေက္ခာ' နှင့်တကွ ဖြစ်သော စိတ်ဖြင့် တစ်ခုသော အရပ်မျက်နှာကို ဖြန့်လွှမ်း၍နေ၏။ ထို့အတူ နှစ်ခု၊ သုံးခု၊ လေးခုမြောက်သော အရပ်မျက်နှာကို ဖြန့်လွှမ်း၍နေ၏။

ဤနည်းအားဖြင့် ထက်, အောက်, ဖီလာ, အလုံးစုံသော အရပ်၊ အလုံးစုံ သော သတ္တဝါတို့၌ မိမိနှင့် ထပ်တူညီမျှပြု၍ သတ္တဝါအားလုံး ပါဝင်သော သတ္တ လောကကို ကျယ်ပြန့်သော ၊ ကြီးမြတ်သော၊ ပိုင်းခြား ကန့်သတ်ချက်မရှိ၊ များပြားသော (တွင်းပြင် နီးဝေး) ဘေးရန် မရှိသော၊ စိတ်ဆိုး စိတ်ပျက် စိတ်ကွက် စိတ်ညစ်ခြင်း မရှိသော မေတ္တာနှင့် (ကရုဏာနှင့်၊ မုဒိတာနှင့်၊ ဥပေက္ခာနှင့်)တကွဖြစ်သော စိတ်ဖြင့် ဖြန့်လွှမ်း၍နေ၏။

အို ..... အသိဗန္ဓက ရွာသူကြီး၊ ဥပမာသော်ကား ..... အားကောင်းသော ခရုသင်းမှုတ်သမားသည် မပင်မပန်းဘဲ အရပ်လေးမျက်နှာကို ကြားသိ စေနိုင်သကဲ့သို့ ဤအတူ မေတ္တာ (ကရုဏာ၊ မုဒိတာ၊ ဥပေက္ခာ) စေတောဝိမုတ္တိကို ဤသို့ ပွားများအပ်သည်ရှိသော်၊ ကြိမ်ဖန်များစွာ လေ့ကျင့်အပ်သည် ရှိသော် တစ်စုံတစ်ရာ ပမာဏ ပြုထားသော (ပိုင်းခြားကန့်သတ်မှု ပြုတတ်သော ကာမာဝစရ) ကံသည် ထို (ပိုင်းခြားကန့်သတ်ချက်)မရှိ၊ များပြား၍ ကောင်းစွာပွားအပ်ပြီးသော မဟဂ္ဂုတ်) ကံ၌ မကြွင်းကျန်၊ ထိုမဟဂ္ဂုတ်ကံ၌ မတည်နိုင်။

ဤသို့ မိန့်တော်မူလတ်သော် အသိဗန္ဓကၡ၏သား ရွာသူကြီးသည် မြတ်စွာဘုရားကို "အရှင်ဘုရား၊ တရားတော်သည် အလွန်နှစ်သက်ဖွယ်ရှိပါပေစွာ့ (လ)အကျွန်ုပ်ကို ယနေ့မှစ၍ အသက်ထက်ဆုံး ကိုးကွယ်ဆည်းကပ်သော ဥပါသကာဟု မှတ်ယူတော်မူပါ"ဟု လျှောက်လေ၏။

[သဠာယတနဝဂ္ဂ၊ ဂါမဏိသံယုတ်၊ သခ်ၤမသုတ်-၅၀၂။၄၉၉။၁၄၂။၃၈၁။ ကောက်နုတ်ချက်။]

## ကံချင်းမတူသော ကံ

အဋ္ဌကထာ, ဋီကာတို့၌ ကာမာဝစရကံကို မဟဂ္ဂုတ်ကံများက သာလွန်လွှမ်းမိုး၍ အကျိုးပေးကြောင်း အထူးဖွင့်ဆိုကြသည်။

ဤသုတ်၌ မြတ်စွာဘုရားက နိဂဏ္ဌနာဋပုတ္တ၏ တပည့်တစ်ဦးဖြစ်သော အသိဗန္ဓကၡ၏သား ရွာသူကြီးအား "ကံငါးပါးကို လွန်ကျူးသူတိုင်း များရာကံက အကျိုးပေးကာ အပါယ်ငရဲ ကျသည်" ဟု ဟောပြောသော ကံပိုင်းဆိုင်ရာ နိဂဏ္ဌဝါဒကို ဖြေရှင်းဟောပြတော်မူသည်။

တရားအဆုံး၌ သုစရိုက်ဆယ်ပါးကို ကျင့်ကြံစေ၍ ဗြဟ္မဝိဟာရ တရားလေးပါးကို ဟောကြားရာ ရွာသူကြီး သမ္မာဒိဋ္ဌိ (ဗုဒ္ဓဘာသာဝင် ဥပါသကာ) ဖြစ်သွားသည်။ ပိုင်းခြားကန့်သတ်ချက်ပါသော ကာမာဝစရ ကံထက် မဟဂ္ဂုတ် (မေတ္တာဘာဝနာစသော) ကံသည် အပိုင်းအခြား အကန့်အသတ်မထားသဖြင့် ပို၍ကျယ်ပြန့်ကာ အင်အားကြီးမား၍ ကာမာဝစရ ကံများကို လွှမ်းမိုးချေဖျက်သွားနိုင်ကြောင်း၊ အခြေခံ ကမ္မဝါဒကိုလည်း စနစ်တကျ နားလည်ရန် ညွှန်ပြတော်မူ၍ ကိုယ်ချင်းစာတရားကို အထွတ်တင် ပေးထားရာ ဗုဒ္ဓဝါဒ၏ အခြေခံအင်အားများကို ဤ၌ ကောင်းစွာရှုမြင်နိုင်ကြသည်။

## အားကောင်းသလောက် ခရုပေါက်

ခရုသင်း ဥပမာပေး၍ ဟောပြတော်မူရာ ခရုသင်းမှုတ်သူသည် ကိုယ်ခံပကတိအင်အားကောင်းလျှင် ကောင်းသလောက် အသံမြည်ကာ ဝေးလံသော အရပ်ဒေသအထိ အသံ ပေါက်ရောက်စေနိုင်သကဲ့သို့ ခရုသင်းသံနှင့် တူသော မေတ္တာအင်အားသည်လည်း ပို့လွှတ်သူ၏ သီလစသော အခြေခံအင်အား (ဘက်ထရီ) ကောင်းလျှင် ကောင်းသလောက် ခရီးပေါက်မြောက်နိုင်သည်ဟု ထပ်ဆင့် သဘောပေါက်ရာ၏။ (ဒီဃနိကာယ် တေဝိဇ္ဇသုတ်၌လည်း ခရုသင်း ဥပမာဖြင့် မေတ္တာအင်အားကို ဟောတော်မူထား၏။)

## စတုတ္ထအကြိမ်

## အယူဝါဒ အမျိုးမျိုးကြား
## ဘဝအမြင် ရှင်းစေရန်

ပိဋကထင်ရှားသည်မှာကား ယင်း ဂါမဏိသံယုတ်၌ပင် လာသော ပါဋလိယ သုတ်ဖြစ်သည်။ ယင်းသုတ်၌ ပါဋလိယ ရွာသူကြီးသည် စင်ပြိုင်ဘုရားများ၏ အယူဝါဒ အမျိုးမျိုးကို ကြားနာရ၍ ဂေါတမဗုဒ္ဓကိုပင် လှည့်စားသူဟု နားယောင်နေသူဖြစ်၏။ ထိုအကြောင်းကို ဖွင့်၍လည်း လျှောက်၏။ စင်ပြိုင် ဘုရားတို့၏ အယူဝါဒ ဟောပြောချက်များကိုလည်း အပြည့်အစုံ လျှောက်ထား သည်။ အယူဝါဒတွေ ရှုပ်ထွေးနေသဖြင့် 'အဘယ်အရာသည် အစစ်အမှန်၊ ;အခြေခံကား ဘယ်သင်း' ဟု ဉာဏ်အမြင် မရှင်းတော့ချေ။

ရွာသူကြီး – "အရှင်ဘုရား၊ ဤသမဏ ဗြာဟ္မဏ (ဘာသာရေး၊ အယူဝါဒ ခေါင်းဆောင်)တို့တွင် အဘယ်သူသည် အမှန်ကို ပြောသနည်း၊ အဘယ်သူသည် အမှားကို ပြောသနည်းဟု အကျွန်ုပ် ယုံမှား တွေဝေ တွေးတောရ၍သာ နေရပါသည်" ဟုလည်း ဖွင့်၍ လျှောက်ရာ–

ဗုဒ္ဓ – "ရွာသူကြီး၊ သင့်မှာ ယုံမှားတွေဝေထိုက်ပေ၏၊ တွေးတော ထိုက်ပေ၏၊ စင်စစ် သင်သည် ယုံမှားသင့်သော အရာ၌ ယုံမှားခြင်းသာ (ယုံမှားလောက်လို့ ယုံမှားရခြင်း) ဖြစ်ပေ၏" ဟု ဟောတော်မူလျှင်–

ရွာသူကြီး– "အရှင်ဘုရား၊ အရှင်ဘုရားသည် အကျွန်ုပ်အား ယုံမှားသံသယ ပျောက်ကင်းအောင် တရားဟောပြနိုင်သူဟု ယုံကြည်ပါသည် ဘုရား" ဟု လျှောက်ပြန်၏။

ဗုဒ္ဓ – "ရွာသူကြီး၊ ဓမ္မသမာဓိဟူ၍ ရှိပေ၏၊ သင်သည် ထိုဓမ္မသမာဓိ၌ တည်၍ စိတ္တသမာဓိကို ရပါမူကား ဤ ယုံမှားခြင်းသဘော ပျောက်ရာ၏။

## ဓမ္မသမာဓိ

၁။ "ရွာသူကြီး၊ ဓမ္မသမာဓိဟူသည် အဘယ်နည်း၊ ရွာသူကြီး၊ ဤလောက၌ အရိယာတပည့်တော်သည်–

(၁) သူ့အသက်သတ်ခြင်းကိုပယ်၍ သူ့အသက်သတ်ခြင်းမှ ရှောင်ကြဉ်၏။
(၂) မပေးဘဲ သူ့ပိုင်ပစ္စည်း ခိုးယူခြင်းကိုပယ်၍ အဒိန္နာဒါနမှ ရှောင်ကြဉ်၏။
(၃) သူတစ်ပါးအိမ်ရာ ကျူးလွန်ခြင်းကို ပယ်၍ ကာမေသုမိစ္ဆာစာရမှ ရှောင်ကြဉ်၏။
(၄) မဟုတ်မမှန် ပြောခြင်းကို ပယ်၍ မုသာဝါဒမှ ရှောင်ကြဉ်၏။

(၅) ကုန်းချောစကားကိုပယ်၍ ကုန်းချောစကား ပြောကြားခြင်းမှ ရှောင်ကြဉ်၏။
(၆) ယုတ်ကြမ်းသော စကားကို ပယ်၍ ယုတ်ကြမ်းသောစကား ပြောကြားခြင်းမှ ရှောင်ကြဉ်၏။
(၇) အချည်းနှီးစကားကို ပယ်၍ အချည်းနှီး (အကျိုးမဲ့) စကား ပြောကြားခြင်းမှ ရှောင်ကြဉ်၏။
(၈) သူ့ပစ္စည်းကို ရှေးရှုကြံစည်ရလိုစိတ်ကို ဖျောက်၍ သူ့ပစ္စည်း ရှေးရှုကြံစည်ရလိုခြင်း (အဘိဇ္ဈာ) မရှိ။
(၉) သူတစ်ပါးကို ပျက်စီးစေလိုသော (ဗျာပါဒ) အဖျက်စိတ်ကို မပျက်စီးလိုစိတ် ထားရ၏။
(၁၀) မိစ္ဆာအယူဝါဒအားလုံးကို ပယ်၍ ရတနာသုံးတန် ကံ, ကံ၏ အကျိုးကို ယုံကြည်သူ(သမ္မာဒိဋ္ဌိ) ဖြစ်ရ၏။(သုစရိုက် ဆယ်ပါးခေါ် ကုသလကမ္မပထတရား ဆယ်ပါး။)

၂။ ရွာသူကြီး၊ ထို (သီလနှင့် ပြည့်စုံပြီးသော) အရိယာတပည့်တော်သည် ဤသို့ သူ့စည်းစိမ်ကို ရှေ့ရှုကြံစည်ကာ မတရား ရလိုမှု 'အဘိဇ္ဈာ'၊ သူတစ်ပါးကို ပျက်စီးစေလိုမှု 'ဗျာပါဒ' ကင်းလျက် မတွေမဝေဘဲ ကောင်းစွာ ဆင်ခြင်နိုင်သော ဉာဏ် 'သမ္ပဇဉ်'၊ ထင်သော အောက်မေ့မှု 'သတိ' ရှိလျက် မေတ္တာနှင့် (ကရုဏာ၊ မုဒိတာနှင့်၊ ဥပေက္ခာနှင့်)တကွဖြစ်သော စိတ်ဖြင့် တစ်ခုသော အရပ်မျက်နှာကို၊ (လ)၊ ဖြန့်လွှမ်း၍နေ၏။

၃။ ထိုသူသည် ဤသို့ ဆင်ခြင်၏။ [ဤနေရာ၌ နတ္ထိကဝါဒ, အတ္ထိက ဝါဒ, အဟေတုကဝါဒ, အကိရိယဝါဒများအားလုံး ဖော်ပြထား၏။ ထိုမှနောက်] "ဤသို့ ဝါဒရှိသူ၊ ဤသို့ အယူရှိသူ တိတ္ထိဆရာ၏ စကားသည် အကယ်၍ မှန်ငြားအံ့၊ ထိုသို့ဆိုသော် ငါ၏ အကျင့်သည် ချွတ်ယွင်းမှုမရှိ၊ (ငါ၏ သုစရိုက် အကျင့်၊ ဗြဟ္မဝိဟာရ အကျင့်တို့သည် ထိုဘာသာဝါဒအားလုံးနှင့် ဆန့်ကျင်ဘက် မရှိ၊ အပြစ်တင်ဖွယ် မရှိဟု ဆိုလိုသည်။) ငါသည် ရွေ့ရှားတတ်သော သတ္တဝါ ကိုလည်းကောင်း၊ မရွေ့ရှားတတ်သော သတ္တဝါ ကိုလည်းကောင်း၊ မည်သည့်သတ္တဝါ တစ်စုံတစ်ဦးကိုမျှ မနိပ်စက်၊ မညှဉ်းဆဲ၊ မသတ်ဖြတ်၊ ငါသည် ကိုယ်ဖြင့်လည်း စောင့်စည်း၏။ နှုတ်ဖြင့်လည်း စောင့်စည်း၏။ စိတ်ဖြင့်လည်း စောင့်စည်း၏။ ထို့ကြောင့် ငါသည် ဤ၌ နှစ်မျိုးစလုံး အနိုင်ရ၏" ဟု ဆင်ခြင်နိုင်၏။

(မဇ္ဈိမအပဏ္ဏကသုတ်၌ 'ဥဘယတ္ထ ပစ္စုပ္ပန် တမလွန် နှစ်ဘဝလုံး အတွက်' ဟုလာ၏။ ဤ၌ သူ့ဝါဒ ကိုယ့်ဝါဒ ဝါဒနှစ်မျိုးစလုံးဟု ဆိုလိုသည်။)

ထိုသို့ ဆင်ခြင်နိုင်သူအား ဝမ်းမြောက်မှုဖြစ်၏။ ဝမ်းမြောက်ခြင်းရှိ၍ နှစ်သက်မှုဖြစ်၏။ နှစ်သက်သော စိတ်ရှိ၍ ကိုယ်ငြိမ်းအေး၏။ ငြိမ်းအေးသော ကိုယ်ရှိ၍ ချမ်းသာမှုကို ခံစားရ၏။ ချမ်းသာမှု ရရှိသူ၏ စိတ်သည် တည်ကြည်၏။ ရှာသူကြီး ဤသည်ကား ဓမ္မသမာဓိ ဖြစ်၏။

၄။ အကယ်၍ သင်သည် ဤဓမ္မသမာဓိ၌ ရပ်တည်၍ စိတ္တသမာဓိကို ရရှိပါမူကား ယုံမှားတွေးတောခြင်း သဘောကို စွန့်ပယ်နိုင်ရာ၏"ဟု ဟောတော်မူ၏။ (ဤသို့ ဟောတော်မူလျှင် ရှာသူကြီး ဥပကာအဖြစ်ခံယူ၏။)

[ဂါမဏိ သံယုတ်–သဠာယတနဝဂ်–ပါဠိလီယသုတ်။ ၅၂၀၊ ၅၁၃၊၁၄၆၊၃၈၅။]

## ကိုယ်ပိုင်မြင်နိုင်သော မျက်စိ

အဋ္ဌကထာ၌ ကုသိုလ်ကမ္မပထတရားဆယ်ပါးနှင့် ဗြဟ္မဝိဟာရ တရား လေးပါးကို 'ဓမ္မသမာဓိ' ခေါ်၍ ယင်းတို့ကို ဖြည့်ကျင့်ပွား၍ ရရှိသော ခဏိက သမာဓိကို 'စိတ္တသမာဓိ' ဟုဆို၏။ (အခြားနှစ်နည်းလည်း ဖွင့်ပြသေး၏။)

ဤရှာသူကြီးများကို ဟောသောတရားမှာ ဗုဒ္ဓဝါဒ၏ အခြေခံပင်မ သဘောတရားများသာ ဖြစ်ကုန်၏။ ပထမဆုံး လိုက်နာရမည်ကား သီလ၊ ဒုတိယ လိုက်နာရမည်ကား သမာဓိ မေတ္တာဘာဝနာအလုပ်၊ သီလ သာသနာ, သမာဓိ သာသနာ, ပညာ သာသနာ ဟု သုံးရပ်ရှိရာ ပထမအဆင့်ကို ခုန်ကျော်၍ ဒုတိယ အဆင့်ကို လုပ်၍ မရချေ။ သို့သော် ပူးတွဲ၍ကား လုပ်နိုင်ပေသည်။ ဤပင်မ သဘောကို မရိပ်စားမိပါက မဂ္ဂင်ရှစ်ပါး၊ သစ္စာလေးပါးကို လေ့လာဖတ်ရှုရမလို၊ အဘိဓမ္မာကိုပင် သင်ယူရတော့မလို အမျိုးမျိုး အံချော်၍ နေတတ်ကြသည်။

၁။ သီလကို ပထမဆုံး သိနားလည်ရုံတင် မဟုတ်ဘဲ နာယူကျင့်သုံး ရခြင်း၊ အရွယ် အသိဉာဏ် သဒ္ဓါ ဝီရိယအလိုက် တတ်နိုင်သလောက် တိုး၍ ကျင့်သုံးရခြင်း။

၂။ နောက်တစ်ဆင့် အရွယ် အသိဉာဏ် သဒ္ဓါ ဝီရိယအလိုက် မေတ္တာ (ကိုယ်ချင်းစာစိတ် မွေးမြူ) ပွားများခြင်း။

၃။ မည်သည့် ဘာသာဝါဒ လူမျိုးကမျှ ဆန့်ကျင်ကန့်ကွက်ဖွယ် မရှိသော၊ မည်သည့်လူမျိုးကမျှ မူပိုင်လုပ်ထားခြင်း မရှိသော၊ လူသားအားလုံးနှင့် သက်ဆိုင်သော ထိုကျင့်စဉ်များကို ကျင့်သုံးခြင်းအားဖြင့် ဘာသာဝါဒ စသော ပြဿနာအရပ်ရပ်တို့ကို ကိုယ်ပိုင် ကိုယ်တိုင် သိမြင်ဆုံးဖြတ်နိုင်သော အသိဉာဏ်များ၊ သံသယ ကင်းစေသော အမြင်ရှင်းမှုများနှင့်အတူ 'ဒါမှ လူဖြစ်ကျိုးနပ်သော အလုပ်' ဟု အလိုလို ကျေနပ် လက်ခံနိုင်လောက်အောင် အားရကျေနပ်မှု၊

ရှင်လန်းဝမ်းမြောက်မှု၊ ကိုယ်စိတ်ချမ်းသာမှုများကို ရရှိလာစေလိမ့်မည်ဟု ဟောတော်မူလိုရင်းဖြစ်သည်။

သီလ, သမာဓိ,ပညာ သိက္ခာသုံးပါး ဆိုသည်မှာလည်း ဤကျင့်စဉ်ပင် ဖြစ်ပေတော့သည်။

ထိုအခြေခံများကို မလိုက်နာ မကျင့်သုံးနိုင်ပါက စာပေဗဟုသုတ အကြား အမြင်များသည် အမြင်မှန်နှင့် ချမ်းသာသုခကို ပေးကြလိမ့်မည်ဟု မယုံစားအပ်ချေ။

ဤကျင့်စဉ်အတိုင်း ကျင့်ကြံသွားပါလျှင် ကမ္ဘာပေါ်ရှိ ဘာသာဝါဒ အယူအဆ များအားလုံး၊ အတွေးအခေါ်များ အားလုံးကို 'ဘယ်သင်းက ဘယ်အဆင့်သာ'ဟု ကိုယ်ပိုင်ခွဲခြားနားလည် သိမြင်နိုင်သော မျက်စိအမြင်ကို တပ်ဆင်ပေးလိုက်ခြင်း ဖြစ်သည်။ ဗုဒ္ဓဘာသာဝင်ဆိုသော်လည်း ထိုအမြင်လောက်မှ မရရှိသေးလျှင် ဗဟုသုတ စာတွေ များသလောက် ယောင်တတ်သည်။

## ၅-မဏိဘဒ္ဒသုတ်
## ကမ္မဋ္ဌာန်း ထိုင်နေရုံမျှဖြင့်

အခါတစ်ပါး မြတ်စွာဘုရားသည် မဂဓတိုင်း မဏိဘဒ္ဒဘီလူး၏ ဗိမာန် ဖြစ်သော မဏိမာလိက နတ်ကွန်း၌ သီတင်းသုံးတော်မူ၏။ ထိုအခါ မဏိဘဒ္ဒ ဘီလူးသည် မြတ်စွာဘုရားထံသို့ ချဉ်းကပ်၍ မြတ်စွာဘုရားထံ၌ ဤဂါထာကို ရွတ်ဆိုလျှောက်ထား၏။

"သတိရှိသောသူအား အခါခပ်သိမ်း ကောင်းမြတ်၏။ သတိရှိသော သူသည် ချမ်းသာရ၏။ သတိရှိသောသူအား အမြဲသာလျှင် မြတ်၏။ ဘေးရန်မှလည်း ကင်းလွတ်၏" ဟု လျှောက်၏။

(မြတ်စွာဘုရားက)

"သတိရှိသောသူအား အခါခပ်သိမ်း ကောင်းမြတ်၏။ သတိရှိသော သူသည် ချမ်းသာကို ရ၏။ သတိရှိသောသူအား အမြဲသာလျှင် မြတ်၏။ ဘေးရန်မှမူကား မကင်းလွတ်သေး။

"အကြင်ပုဂ္ဂိုလ်အား အလုံးစုံသော နေ့ညဉ့်ပတ်လုံး မညှဉ်းဆဲခြင်း၌ မွေ့လျော်သောစိတ်ရှိ၍ အလုံးစုံသော သတ္တဝါတို့၌ မေတ္တာစိတ် အစုအပုံရှိသည် ဖြစ်၍နေ၏။ ထိုပုဂ္ဂိုလ်အား တစ်ဦးတစ်ယောက်ကြောင့်မျှ ဘေးရန်မရှိ"ဟု မိန့်တော်မူ၏။

[သဂါထာဝဂ္ဂသံယုတ်၊ မဏိဘဒ္ဒသုတ်–၂၁ဝ။၁၉၅။၂၇၇။၃၈ဝ]

**အထူးမှတ်ချက်။** ။"ရဟန္တာပင် ဖြစ်သော်လည်း မေတ္တာ ကရုဏာ ဘာဝနာ

မပွားလျှင် သူတစ်ပါးက ဘေားရန်ပြုနိုင်သေး၏။ ပွားလျှင်ကား ဘေးရန် မရှိနိုင်။ ဗြဟ္မဝိဟာရ ဘာဝနာ၏ ဤမျှ အကျိုးကြီးမားပုံကို ဤပါဠိတော်က ညွှန်ပြသည်" ဟု ဋီကာဆရာကြီးက ထောက်ပြလေသည်။ (ဋီကာ၊ ၃၁၁)။

## ၆-ဩက္ခာသုတ်

## ဆွမ်းအိုးသုံးရာ မေတ္တာတစ်ရှိုက်

သာဝတ္ထိပြည်၌ ဟောတော်မူသည်။ ရဟန်းတို့၊ အကြင်သူသည် နံနက်တစ်ကြိမ်၊ နေ့လယ်တစ်ကြိမ်၊ ညနေတစ်ကြိမ် မွန်မြတ်သော ဘောဇဉ်တို့ဖြင့် ပြည့်သော ဆွမ်းအိုးကြီး (ဆွမ်းပွဲစုံ) တစ်ရာကျ အလှူဒါနကို ပြုရာ၏။ အကြင်သူသည်ကား နံနက်၌ဖြစ်စေ, နေလယ်၌ဖြစ်စေ, ညနေ၌ဖြစ်စေ ယုတ်စွအဆုံး နွားနို့တစ်ညှစ်ခန့်ကာလမျှ မေတ္တာစိတ်ကို ပွားများရာ၏။

**ဤနွားနို့တစ်ညှစ်ခန့်ကာလ ပွားများအပ်သော မေတ္တာသည် ထိုတစ်နေ့သုံးကြိမ် ဆွမ်းအိုးကြီး အလှူထက် များမြတ်သော အကျိုးရှိ၏။**

ရဟန်းတို့၊ ထို့ကြောင့် 'ငါတို့သည် မေတ္တာစေတောဝိမုတ္တိကို ပွားများအံ့လေ။" ဟူ၍ ဤသို့လျှင် သင်တို့ လေ့ကျင့်ရမည်ဟု ဟောတော်မူ၏။

[နိဒါနသံယုတ်၊ ဩက္ခာသုတ်-၄၄၅။၄၄၄။၂၀၆။၁၈၈။]

## ၇-မေတ္တာသဟဂတသုတ် ခေါ် ဟလိဒ္ဒဝသနသုတ်

## ဗြဟ္မဝိဟာရ၏ ပန်းတိုင်များ

မြတ်စွာဘုရား ကောလိယတိုင်း ဟလိဒ္ဒဝသန နိဂုံး၌ သီတင်းသုံးစဉ် တစ်နေ့သောအခါ ရဟန်းများသည် ရွာတွင်းသို့ ဆွမ်းခံရန် သွားကြရာ အချိန်စောသေးသဖြင့် အညတိတ္ထိယ (သာသနာအပြင်ပ) ဖြစ်သော ပရိဗိုဇ်ကျောင်းသို့ ဝင်၍ တရားစကား ဆွေးနွေးပြောဆိုကြသည်။

ပရိဗိုဇ်တို့က "စိတ်ညစ်နွမ်းစေ၍ အသိဉာဏ်ကို အားနည်းအောင် ပြုတတ်သော နီဝရဏတရားငါးပါးတို့ကို စွန့်ပယ်၍ ဗြဟ္မဝိဟာရတရား လေးပါးကို ပွားများရန် အရှင်ဂေါတမက တပည့်များကို ဟောကြားသကဲ့သို့ ငါတို့လည်း တပည့်များကို ဤအတိုင်းပင် ဟောကြားသည်" ဟု ပြောဆိုသည်ကို ထောက်လည်း မထောက်ခံ, ကန့်လည်း မကန့်ကွက်ဘဲ ပြန်လာကြပြီးနောက် ထိုအကြောင်းကို ဘုရားရှင်အား လျှောက်ထားကြသည်။

ထိုအခါ ဘုရားရှင်က ရဟန်းတို့အား ဤသို့ ဟောတော်မူ၏။

## သာသနာအပြင်ဘက်၌ အပြည့်အစုံ မရနိုင်

"ရဟန်းတို့၊ ဤသို့ ပြောဆိုလေ့ ရှိကြကုန်သော သာသနာပြင်ပ အယူရှိကြကုန်သော ပရိဗိုဇ်တို့ကို ဤသို့ ပြောဆိုမေးမြန်းအပ်ကုန်၏။ 'ငါ့ရှင် ပရိဗိုဇ်တို့၊ မေတ္တာစေတောဝိမုတ္တိကို (ကရုဏာစေတောဝိမုတ္တိကို၊ မုဒိတာ စေတောဝိမုတ္တိကို၊ ဥပေက္ခာစေတောဝိမုတ္တိကို) အဘယ်သို့ ပွားများ အပ်သည်ရှိသော် အဘယ်လျှင် ပြီးပြည့်စုံမှု ရှိသနည်း။ အဘယ်လျှင် အထွတ်အမြတ် ရှိသနည်း၊ အဘယ်လျှင် အကျိုးဖြစ်ထွန်းမှု ရှိသနည်း၊ အဘယ်လျှင် အဆုံးတိုင်ရောက်မှု (ပန်းတိုင်)ရှိသနည်း" ဟု ဤသို့ ပြောဆို မေးမြန်းအပ်ကုန်၏။

"ရဟန်းတို့၊ ဤသို့ မေးမြန်းအပ်ကုန်သည်ရှိသော် အညတိတ္ထိယပရိဗိုဇ် တို့သည် ပြည့်စုံစွာလည်း မဖြေဆိုနိုင်ကုန်လတ္တံ့။ ထိုမှတစ်ပါး အလွန်လည်း စိတ်ဆင်းရဲခြင်းသို့ ရောက်ကြကုန်လတ္တံ့။ ထိုသို့ဖြစ်ခြင်းသည် အဘယ့်ကြောင့် နည်း။ ရဟန်းတို့၊ ထိုဗြဟ္မဝိဟာရသည် ၎င်းတို့၏ အရာမဟုတ်သော ကြောင့်တည်း။ ရဟန်းတို့၊ ငါဘုရားကိုဖြစ်စေ၊ ငါ၏ တပည့်သာဝကကိုဖြစ်စေ၊ ဤသာသနာတော်မှ တစ်ဆင့် ကြားနာရဖူးသူကိုဖြစ်စေ ဖယ်ရှား၍ ဤပြဿနာတို့ကို ဖြေဆိုခြင်းဖြင့် စိတ်ကို နှစ်သက်စေနိုင်မည့် သူကို (မာရ်နတ်, ဗြဟ္မာနှင့် တကွသော) နတ်လောက၊ (ရဟန်း ပုဏ္ဏား မင်းနှင့်တကွသော) လူ့လောက၌ ငါဘုရား မြင်တော်မမူ။

> ဤအချက်ဖြင့် မေတ္တာတရားမျှလောက်ကိုပင် သာသနာအပြင်ဘက် တရားတို့၌ ပြည့်စုံစွာ မရရှိနိုင်ကြောင်း သိအပ်၏။ အဋ္ဌကထာ၌တိတ္ထိ တို့၏ တရား၌ နိဝရဏာပယ်မှုနှင့် ဗြဟ္မဝိဟာရ ပွားများနည်းမရှိ'ဟုပင် ဖွင့်ပြ၏။

## မေတ္တာစိတ်ဓာတ်၏ ပန်းတိုင်

"ရဟန်းတို့၊ မေတ္တာစေတောဝိမုတ္တိကို အဘယ်သို့ပွားများအပ်သည် ရှိသော် အဘယ်လျှင် ပြီးပြည့်စုံမှု ရှိသနည်း။ အဘယ်လျှင် အထွတ်အမြတ် ရှိသနည်း။ အဘယ်လျှင် အကျိုးဖြစ်ထွန်းမှု ရှိသနည်း။ အဘယ်လျှင် အဆုံး တိုင်ရောက်မှု (ပန်းတိုင်) ရှိသနည်း။

"ရဟန်းတို့၊ ဤသာသနာတော်၌ ရဟန်းသည် မေတ္တာနှင့်တကွ ဖြစ်သော (မေတ္တာဓာတ်ပါဝင်သော)–

၁။ သတိသမ္ဗောဇ္ဈင် (ဗောဓိဉာဏ်ရကြောင်းဖြစ်သော သတိ–သခ်ါရ တရား တို့၌ အောက်မေ့မှု)ကို ပွားများ၏။

၂။ ဓမ္မဝိစယ သမ္ဗောဇ္ဈင် (သခ်ါရတရားတို့၌ ပညာဖြင့် ဆင်ခြင်

သုံးသပ်မှု)ကို ပွားများ၏။

၃။ ဝီရိယသမ္ဗောဇ္ဈင် (အားထုတ်မှု)ကို ပွားများ၏။

၄။ ပီတိသမ္ဗောဇ္ဈင် (နှစ်သိမ့်မှု)ကို ပွားများ၏။

၅။ ပဿဒ္ဓိသမ္ဗောဇ္ဈင် (ကိုယ်စိတ်အေးငြိမ်းမှု)ကို ပွားများ၏။

၆။ သမာဓိသမ္ဗောဇ္ဈင် (တည်ကြည်မှု)ကို ပွားများ၏။

၇။ စိတ်ငြိမ်ခြင်းကို မှီသော၊ စွဲလမ်းတပ်မက်မှု ကင်းခြင်းကိုမှီသော၊ ချုပ်ငြိမ်းခြင်းကို မှီသော၊ နိဗ္ဗာန်သို့ ညွတ်ရှိုင်းသော၊ မေတ္တာနှင့်တကွ ဖြစ်သော ဥပေက္ခာသမ္ဗောဇ္ဈင် (ဗောဓိဉာဏ်ရကြောင်းဖြစ်သော သင်္ခါရတရားတို့၌ အညီအမျှ ရှုမြင်မှု)ကို ပွားများ၏။

ထိုရဟန်းသည် စက်ဆုပ်ဖွယ်မဟုတ်သော အာရုံ၌ စက်ဆုပ်ဖွယ် အမှတ်သညာပြု၍ နေလိုခဲ့မူ ထိုအာရုံ၌ စက်ဆုပ်ဖွယ် အမှတ်သညာပြု၍ နေနိုင်၏။

စက်ဆုပ်ဖွယ်အာရုံ၌ စက်ဆုပ်ဖွယ်မဟုတ်ဟု အမှတ်သညာပြု၍ နေလိုခဲ့မူ နေနိုင်၏။

စက်ဆုပ်ဖွယ် မဟုတ်သော အာရုံ၌လည်းကောင်း၊ စက်ဆုပ်ဖွယ် အာရုံ၌ လည်းကောင်း စက်ဆုပ်ဖွယ် အမှတ်သညာပြုနေ၍ နေလိုခဲ့မူ နေနိုင်၏။

စက်ဆုပ်ဖွယ်အာရုံ၌လည်းကောင်း၊ စက်ဆုပ်ဖွယ် မဟုတ်သော အာရုံ၌ လည်းကောင်း စက်ဆုပ်ဖွယ် မဟုတ်ဟု အမှတ်သညာပြု၍ နေလိုခဲ့မူ နေနိုင်၏။

စက်ဆုပ်ဖွယ်မဟုတ်သော အာရုံကိုလည်းကောင်း၊ စက်ဆုပ်ဖွယ်အာရုံ ကိုလည်းကောင်း ထိုနှစ်ပါးစုံကို ကြဉ်ရှောင်၍ အောက်မေ့မှု ဆင်ခြင်မှု (သတိသမ္ပဇဉ်) နှင့် ပြည့်စုံလျက် သင်္ခါရတရားတို့၌ အညီအမျှ ရှုမြင်၍ နေလိုခဲ့မူ ထိုအာရုံ၌ သတိသမ္ပဇဉ်ရှိလျက် အညီအမျှရှု၍ နေနိုင်၏။ (ဆဠင်္ဂုပေက္ခာဖြင့်နေသည်။)

[အပ္ပဋိကူလေ=စက်ဆုပ်ဖွယ် မဟုတ်သော အာရုံ၌၊ ပဋိကူလသညီ =စက်ဆုပ်ဖွယ် အမှတ်သညာပြု၍နေသည် ဆိုခြင်းမှာ အသုဘဘာဝနာ၊ အနိစ္စဘာဝနာဖြင့်နေခြင်းကို ဆိုလို၏။ စက်ဆုပ်ဖွယ်၌ စက်ဆုပ်ဖွယ် မဟုတ်ဟု အမှတ်သညာပြု၍ နေသည်ဆိုခြင်းမှာ မေတ္တာဖြန့်ပွား၍ဖြစ်စေ၊ ဓာတ်သဘာဝ (ဓာတုမနသိကာရ) ဆင်ခြင်၍ဖြစ်စေ နေခြင်းကို ဆိုလို၏။ အရိယာတန်ခိုး အပြည့်အဝရှိသော ရဟန္တာတို့၌သာ ထိုသို့ နေနိုင်သည်။ ပဋိသမ္ဘိဒါမဂ်–၃၉၀၊ မဟာဝဂ္ဂသံယုတ် အဋ္ဌကထာ–၂၀၇။]

တင့်တယ်မှုကို အာရုံပြု၍ ဖြစ်သော နီဝရဏတို့မှ လွတ်မြောက်ခြင်း 'သုဘာဝိမောက္ခ=ရူပါဝစရဈာန်'သို့ ရောက်၍နေရ၏။ ရဟန်းတို့ အထွက်

အထိပ်ဖြစ်သော လွတ်မြောက်မှု 'အရဟတ္တဖိုလ်' ကို မရနိုင်၍ လောကီပညာမျှသာရှိသော ရဟန်း၏ မေတ္တာစေတောဝိမုတ္တိကို တင့်တယ်မှု 'သုဘဝိမောက္ခ=ရူပါဝစရဈာန်' လျှင် အလွန်အမြတ်(အပြီးအဆုံး အပိုင်းအခြားပန်းတိုင်)ရှိ၏ဟူ၍ ငါဘုရား ဟောတော်မူ၏။

[မေတ္တာဈာန်ကို အခြေခံ၍ ရဟန္တာအဖြစ်တိုင်အောင်လည်း ပြီးဆုံးစေနိုင်ပေ၏။ အဋ္ဌကထာ–၂၀၇။]

### ကရုဏာစိတ်ဓာတ်၏ ပန်းတိုင်

ရဟန်းတို့၊ ကရုဏာစေတောဝိမုတ္တိကို အဘယ်သို့ ပွားများအပ်သည် ရှိသော် (လ)၊ သတိ, သမ္ပဇဉ်ရှိလျက် အညီအမျှ ရှု၍ နေနိုင်၏။

ရုပ်ဟူသော အမှတ်သညာတို့က အကြွင်းမဲ့ လွန်မြောက်ခြင်းကြောင့်လည်းကောင်း၊ ထိခိုက်မှုဟူသော အမှတ်သညာ 'ပဋိဃသညာ' တို့၏ ချုပ်ပျောက်ခြင်းကြောင့်လည်းကောင်း၊ အထူးထူးသော အမှတ်သညာ 'နာနတ္တသညာ' တို့ကို နှလုံးမသွင်းခြင်းကြောင့်လည်းကောင်း၊ ကောင်းကင်သည် အဆုံးအပိုင်းအခြား မရှိ 'အနန္တော အာကာသော' ဟု စီးဖြန်းလျက် အာကာသာနဉ္စာယတနဈာန်သို့ ရောက်၍နေရ၏။ (အာကာသာနဉ္စာယတနဈာန်ရ၏။)၊ ရဟန်းတို့၊ အထွတ်အထိပ်ဖြစ်သော လွတ်မြောက်မှု 'အရဟတ္တဖိုလ်' ကို မရနိုင်၍ လောကီပညာမျှသာရှိသော ရဟန်း၏ ကရုဏာစေတောဝိမုတ္တိကို အာကာသာနဉ္စာယတနဈာန်လျှင် အလွန်မြတ်ရှိ၏ ဟူ၍ ငါဘုရား ဟောတော်မူ၏။

### မုဒိတာစိတ်ဓာတ်၏ ပန်းတိုင်

ရဟန်းတို့၊ မုဒိတာစေတောဝိမုတ္တိကို အဘယ်သို့ ပွားများအပ်သည် ရှိသော် (လ) သတိ, သမ္ပဇဉ်ရှိလျက် အညီအမျှရှု၍ နေနိုင်၏။

အာကာသာနဉ္စာယတနဈာန်ကို အကြွင်းမဲ့လွန်မြောက်၍ ပထမာရုပ္ပဝိညာဉ်သည် အဆုံးမရှိ 'အနန္တံ ဝိညာဏံ' ဟု စီးဖြန်းလျက် ဝိညာဏဉ္စာ ယတနဈာန်သို့ ရောက်၍နေရ၏။ ရဟန်းတို့၊ အထွတ်အထိပ်ဖြစ်သော လွတ်မြောက်မှု 'အရဟတ္တဖိုလ်'ကို မရနိုင်၍ လောကီပညာမျှသာရှိသော ရဟန်း၏ မုဒိတာစေတောဝိမုတ္တိကို ဝိညာဏဉ္စာယတနဈာန်လျှင် အလွန်အမြတ်ရှိ၏ ဟူ၍ ငါဘုရား ဟောတော်မူ၏။

## ဥပေက္ခာစိတ်ဓာတ်၏ ပန်းတိုင်

ရဟန်းတို့၊ ဥပေက္ခာစေတောဝိမုတ္တိကို အဘယ်သို့ ပွားများအပ်သည် ရှိသော် (လ)သတိ၊ သမ္ပဇဉ်ရှိလျက် အညီအမျှရှု၍ နေနိုင်၏။

ဝိညာဏဉ္စာယတနစျာန်ကို အကြွင်းမဲ့လွန်မြောက်၍ တစ်စုံတစ်ရာ ဘာမျှမရှိ 'နတ္ထိ ကိဉ္စိ'ဟု စီးဖြန်းလျက် အာကိဉ္စညာယတနစျာန်သို့ ရောက်၍ နေရ၏။ ရဟန်းတို့၊ အထွတ်အထိပ်ဖြစ်သော လွတ်မြောက်မှု 'အရဟတ္တဖိုလ်'ကို မရနိုင်၍ လောကီပညာမျှသာရှိသော ရဟန်း၏ ဥပေက္ခာ စေတောဝိမုတ္တိကို အာကိဉ္စညာယတနစျာန်လျှင်အလွန်အမြတ်ရှိ၏ဟူ၍ ငါဘုရား ဟောတော်မူ၏။

[မဟာဝဂ္ဂသံယုတ် မေတ္တာသဟဂတသုတ် ခေါ် ဟလိဒ္ဒဝသနသုတ် (ဝိသုဒ္ဓိ ၁၊ ၃၁၇) လိုရင်းထုတ်နုတ်ချက်၊ ၁၀၁၊ ၁၀၄၊ ၂၀၇၊ ၄၄၅၊ ဒေသနာအဆုံး၌ ရဟန်းငါးရာတို့ ရဟန္တာဖြစ်တော်မူကြသည်။]

မေတ္တာပွားများသူ၌ အချင်းခပ်သိမ်း ကောင်းသော အာရုံမြင်မှု၊ ကရုဏာပွားသူ၌ ရုပ်ကြောင့် နာကျင်ဆင်းရဲရသဖြင့် ရုပ်အပေါ် အပြစ်မြင်မှု၊ မုဒိတာပွားသူ၌ သတ္တဝါတို့၏ ဝမ်းမြောက်ကြည်နူးစိတ်ကို အာရုံပြုများသဖြင့် ဝိညာဉ်အပေါ် နိုင်နင်းမှု၊ ဥပေက္ခာပွားသူ၌ကား ရှေးဘာဝနာ ၃–မျိုးကဲ့သို့ ပရမတ္ထတရားကို အခြေခံသော သတ္တပညတ်ကို အာရုံမပြု၊ ထင်ရှားမရှိသော သတ္တဝါပညတ် သက်သက်ကိုသာ လေ့ကျက်ကျွမ်းကျင်မှုတို့ကြောင့် ပြဆိုပြီး စျာန်များကို တစ်ခုနှင့် တစ်ခု မတူခြားနားစွာ ရရှိကြသည်။ (အကျယ် ဝိသုဒ္ဓိမဂ် ဗြဟ္မဝိဟာရအခန်း ၃၁၇–နှင့် သံယုတ်အဋ္ဌကထာတို့၌ ရှုပါလေ။)

## ၈–နီဝရဏပ္ပဟာနဝဂ်၊ သတ္တမသုတ်
## နှစ်ခုမရှိသော စိတ်ဆင်းရဲပျောက်နည်း

ရဟန်းတို့ ၊ ဤမေတ္တာစေတောဝိမုတ္တိ (ကြွယ်စင်သော မေတ္တာစျာန်စိတ်) သည် မဖြစ်ပေါ်သေးသော ဗျာပါဒ၏လည်း မဖြစ်ပေါ်ကြောင်း၊ ဖြစ်ပေါ်ပြီးသော ဗျာပါဒ၏လည်း ကင်းပျောက်ကြောင်း ဖြစ်သကဲ့သို့ ဤအတူ မဖြစ်ပေါ်သေးသော ဗျာပါဒ၏လည်း မဖြစ်ပေါ်ကြောင်း၊ ဖြစ်ပေါ်ပြီးသော ဗျာပါဒ၏လည်း ကင်းပျောက်ကြောင်းဖြစ်သော အခြားတစ်ပါးသော တရားတစ်ခုမျှကိုပင်လျှင် ငါဘုရား မြင်တော်မမူ။

ရဟန်းတို့၊ မေတ္တာစေတောဝိမုတ္တိကို သင့်လျော်သော အကြောင်းအားဖြင့် နှလုံးသွင်းသောသူအား မဖြစ်ပေါ်သေးသော ဗျာပါဒသည်လည်း မဖြစ်ပေါ်၊ ဖြစ်ပေါ်ပြီးသော ဗျာပါဒသည်လည်း ကင်းပျောက်၏ ဟု မိန့်တော်မူ၏။

[ကောဂိုတ္တရ၊ နိဝရဏပ္ပဟာနဝဂ်၊ သတ္တမသုတ်၊ ၃၊ ၅၊ ၃၆၊ ၈၄၊ အဋ္ဌကထာ ဋီကာတို့၌ ဗျာပါဒ်နီဝရဏ ဖြေဖျောက်နည်း ခြောက်မျိုးနှင့် ဋီကာ ၅၂၈-ယှုပုံ ဖွင့်ပြထားသည်။]

## ၉-အစ္ဆရာသင်္ဃာတသုတ်များ
## လက်ဖျစ်တစ်တွက်မျှ မေတ္တာ

ရဟန်းတို့၊ ရဟန်းသည် (လူများလည်း ပါဝင်၏။) လက်ဖျစ် တစ်တွက်ခန့်မျှ လည်း မေတ္တာနှင့်ယှဉ်သော စိတ်ကို အကယ်၍ မှီဝဲအံ့။ (ပွားများအံ့၊ နှလုံးသွင်းအံ့၊) ရဟန်းတို့၊ ဤရဟန်းသည် ဈာန်မှဆိတ်သုဉ်း ကင်းကွာမှု မရှိမူ၍ နေသူ၊ ဘုရားရှင့် သွန်သင်မှုကို လိုက်နာ၍နေသူ၊ ဘုရားရှင့် အဆုံးအမတော်ကို နာယူ၍ နေသူ၊ ပြည်သူ့ဆွမ်းကို အချည်းအနှီး မဖြစ်စေမူ၍ အကျိုးများအောင် သုံးဆောင်၍ နေသူဟု ဆိုထိုက်၏။

ထိုမေတ္တာနှင့်ယှဉ်သောစိတ်ကို ကြိမ်ဖန်များစွာ လေ့လာပွားများကုန်သော ရဟန်းတို့ကိုမူကား အဘယ်ဆိုဖွယ်ရာ ရှိတော့အံ့နည်းဟု မိန့်တော်မူ၏။ [ဧကင်္ဂုတ္တရ၊ အစ္ဆရာသင်္ဃာတဝဂ်၊ ဒု-တ-စ- သုံးသုတ်၊ ၉-၁၀။၁၂။၅၃။၁၀၆။]

### တာဝန်မကျေ၊ တာဝန်ကြောက်သော ရဟန်းများအတွက်

ထိုမေတ္တာနှင့်နေသော ရဟန်းမျိုးကို လှူရသော ဒါနသည် ပို၍ အကျိုး ကြီးမြတ်ကြောင်းကိုလည်း အဋ္ဌကထာ၌ ဖွင့်ပြထား၏။ **မေတ္တာကို လက်ဖျစ် တစ်တွက်မျှ ပွားများလျှင် ဆွမ်းဖိုးကျေသည်** ဟုလည်း ဆိုသင့်သည်။ (အရှင်သုဘူတိ မထေရ်အကြောင်းနှင့် စပ်ကြည့်ပါ။)

မြတ်စွာဘုရား 'အဂ္ဂိက္ခန္ဓောပမသုတ်'ကို ဟောတော်မူရာ သီလဝန္တ ရဟန်း ခြောက်ကျိပ် ရဟန္တာဖြစ်တော်မူကြ၏။ (ပါရာဇိကကျသော) ဒုဿီလရဟန်း ခြောက်ကျိပ်မှာ သွေးအန်၍၊ (သိက္ခာပုဒ်ငယ်များကို ကျူးလွန်မိသော) အလဇ္ဇီ ရဟန်းခြောက်ကျိပ်တို့ လူထွက်သွားကြသည်။ အဆင့်ဆင့် ကြားသိကြသော ရဟန်းများလည်း ရာနှင့်ထောင်နှင့်ချီ၍ အစုလိုက်၊ အပြုံလိုက် လူထွက်သွားကြ ကုန်၏။

"မြတ်စွာဘုရားသာသနာဟာ အလွန်ပဲ ခက်ခဲကျပ်တည်းလှပါတယ်၊ အသက် ထက်ဆုံး ပြည့်စုံအောင် ဖြည့်ကျင့်ဖို့ မလွယ်ဘူး၊ ပြည့်စုံအောင်မှ မဖြည့်ကျင့်နိုင်ရင်လဲ လှူဒကာတို့က သဒ္ဓါဒေယျ လှူသောပစ္စည်းများကို မသုံးဆောင်ထိုက်တော့ဘူး" ဟု ထင်မြင်ကာ သာသနာမှ ထွက်သွားကြသည်ကို သိတော်မူသဖြင့်-

"ရဟန်းတို့၊ မေတ္တာပွားများခြင်းသည် အမှုကိစ္စအားလုံးတို့၏ ရှေးဦးပြုဖွယ် ဖြစ်သည်။ (သဗ္ဗပုဗ္ဗဘာဂ ဆိုသည်မှာ အပ္ပနာသို့ရောက်မှ၊ ဥပစာရသို့ရောက်မှသာ မဟုတ်ချေ။ သတ္တဝါအားလုံး အကျိုးစီးပွား ချမ်းသာစေလိုသောစိတ် ပြန့်ပွား ရုံမျှသည်လည်း ရှေးဦးပြုဖွယ်ဖြစ်တော့သည်။ မေတ္တာပွားသည် မည်တော့၏"ဟု မိန့်တော်မူကာ ဤ'ဈူဠအစ္ဆရာသင်္ဃာတသုတ်' ကို ဟောတော်မူရပြန်လေသည်။ အင္ဂုကထာ ၅၃။)

လက်ဖျစ်တစ်တွက်မျှ ပွားများရသော မေတ္တာဖြင့် လှူဒကာတို့အား ချီးမြှောက်ရာကျရုံ (ဆွမ်းဖိုးကျေရုံ) မျှမက 'သာသနာ့ဝန်ထမ်း ရဟန်းဘဝ၌ ပျော်ပိုက်သွားစေနိုင်သည်။ မေတ္တာ (ကိုယ်ချင်းစာတရား) အရင်းခံထားသဖြင့် သီလ, သမာဓိ, ပညာ သိက္ခာလုပ်ငန်းတို့ကို ဖြည့်စွမ်းရာ၌ ပေါ့ပါးသွား စေနိုင် သည်။ အမိန့်အာဏာကြောင့် မနိုင်ဝန်ကို ထမ်းထားရခြင်းသည် ပင်လည်း ပင်ပန်း၍ အကျိုးလည်း မပြီးနိုင်ချေ။

မနိုင်ဝန်ဟု ထင်မှတ်ရသော သာသနာ့တာဝန်ကြီးမှာ (ဝန်ချီစက်ပမာ) အညာဖြစ်သော မေတ္တာကစ၍ ကိုင်လိုက်သောအခါ တာဝန်ဟူ၍ပင် မထင်ရတော့ဘဲ အလုံးစုံပေါ့ပါးကာ မိမိအကျိုး၊ သတ္တဝါအကျိုးကို လွယ်လင့်တကူ ပြုမှု သည်ပိုး နိုင်တော့သည်ဟု ညွှန်ပြတော်မူလိုပေသည်။ "ဘယ်သမာဓိမှ မဖြစ်ချင် နေပါစေဦး၊ မေတ္တာပွားရုံ ကလေးပဲ ပွားစမ်းပါ၊ အတိုင်းမသိ အကျိုးများလှပြီ" ဟု ဟောတော်မူလိုပေသည်။

### ၁၀–စတုက္ကအင်္ဂုတ္တိုရ်လာ မေတ္တာဈာန်ရသုတ်များ ဖြပ္ပာပြည်သွား ဖြပ္ပာစိရ်ရထား

ရဟန်းတို့၊ လောက၌ ပုဂ္ဂိုလ်လေးမျိုးတို့သည် ထင်ရှားရှိကုန်၏။ လေးမျိုးတို့ ဟူသည် အဘယ်တို့နည်းဟူမူ ရဟန်းတို့၊ ဤသာသနာတော်၌ အချို့သော ပုဂ္ဂိုလ်သည် မေတ္တာနှင့်တကွဖြစ်သော စိတ်ဖြင့် တစ်ခုသော အရပ်လေးမျက်နှာကို ဖြန့်လွှမ်း၍နေ၏။ ထို့အတူ နှစ်ခု–သုံးခု–လေးခု မြောက်သော အရပ်မျက်နှာကို ဖြန့်လွှမ်း၍နေ၏။

ဤနည်းအားဖြင့် ထက်, အောက်, ဖီလာ အလုံးစုံသော အရပ်၊ အလုံးစုံ သော သတ္တဝါတို့၌ မိမိနှင့် ထပ်တူညီမျှပြု၍ သတ္တဝါအားလုံး ပါဝင်သော သတ္တလောကကို ကျယ်ပြန့်သော၊ ကြီးမြတ်သော၊ ပိုင်းခြားကန့်သတ်ချက် မရှိ များပြားသော၊ ဘေးရန်မရှိသော၊ စိတ်၏ဆင်းရဲခြင်း မရှိသော မေတ္တာနှင့်တကွ ဖြစ်သောစိတ်ဖြင့် ဖြန့်လွှမ်း၍နေ၏။

ထိုပုဂ္ဂိုလ်သည် ထိုမေတ္တာဈာန်ကို သာယာ၏။ ထိုမေတ္တာဈာန်ကို ကြိုက်နှစ်သက်၏။ ထိုမေတ္တာဈာန်ဖြင့်သာလျှင် အားရကျေနပ်ခြင်းသို့ ရောက်၏။ ထိုမေတ္တာဈာန်၌တည်၍၊ ထိုမေတ္တာဈာန်ကို နှလုံးသွင်းစွဲလမ်း၍၊ ထိုမေတ္တာ ဈာန်ဖြင့် ကြိမ်ဖန်များစွာ ဝင်စားနေလေ့ရှိသည်ဖြစ်၍ ထိုဈာန်မှ မလျှောကျဘဲ သေလွန်လတ်သော် ပထမဈာန်ဘုံ ဗြဟ္မာတို့၏ အပေါင်းအဖော်အဖြစ်သို့ ရောက်ရ၏။

ရဟန်းတို့၊ ပထမဈာန်ဘုံ ဗြဟ္မာတို့၏သက်တမ်းကား (မဟာကပ်) တစ်ကပ်ဖြစ်၏။ ပုထုဇဉ်သည် ထိုဘုံ၌ ဗြဟ္မာတို့၏ သက်တမ်းရှိသလောက် တည်နေ၍ သက်တမ်းကုန်လတ်သော် ငရဲဘုံသို့လည်း ရောက်ရ၏။ တိရစ္ဆာန်မျိုး တိရစ္ဆာန်ဘုံသို့လည်း ရောက်ရ၏။ ပြိတ္တာဘုံသို့လည်း ရောက်ရ၏။

ဘုရားရှင်၏တပည့်သာဝကသည်ကား ထိုဘုံ၌ ဗြဟ္မာတို၏ သက်တမ်း ရှိသလောက် တည်နေ၍ သက်တမ်းကုန်လတ်သော် ထိုဗြဟ္မာဘုံ၌ပင်လျှင် ပရိနိဗ္ဗာန်ပြုရ၏။ ရဟန်းတို့၊ ဤလားရာ (ဂတိ) တစ်ဖန်ပဋိသန္ဓေဖြစ်ရာရှိခြင်း မရှိခြင်းသည်သာလျှင် အကြားအမြင် မရှိသော ပုထုဇဉ်နှင့် အကြားအမြင် ရှိသော အရိယာသာဝကတို့၏ ထူးခြားခြင်းပင်တည်း။ ဤသည်ပင် ကဲလွန်သော စွမ်းရည် ပေတည်း။ ဤသည်ပင် ကွဲလွဲခြင်းပေတည်း။

(ကရုဏာ, မုဒိတာ, ဥပေက္ခာဈာန်များ အစဉ်အတိုင်း-အာဘဿရာဘုံ မဟာကပ် နှစ်ကပ်၊ သုဘကိဏှာဘုံ-မဟာကပ် လေးကပ်၊ ဝေဟပ္ဖိုလ်ဘုံ-မဟာကပ် ငါးရာသက်တမ်း၊ ဤမျှသာ ထူး၏။ )

[အံ=အင်္ဂုတ္တရပါဠိတော်၊ စတုက္က၊ ပထမ မေတ္တာသုတ်၊ ၄၄၃၊ ၄၅၆။]

## စိတ်မချရသော မေတ္တာနှင့် စိတ်ချရသော မေတ္တာ

ဒုတိယမေတ္တာသုတ်၌ 'မေတ္တာနှင့်ယှဉ်သောစိတ်ဖြင့် ဖြန့်လွှမ်း၍နေ၏' စကား၏နောက်၌ "ထိုပုဂ္ဂိုလ်သည် ထိုဘုံ၌ ဈာန်စိတ်နှင့်တကွဖြစ်သော ရုပ်, ဝေဒနာ, သညာ, သင်္ခါရ, ဝိညာဏ်တို့ကို ဒုက္ခစသည်ဖြင့် ရှု၍ သေသည်မှနောက် သုဒ္ဓါဝါသဘုံ၌ ရောက်ရကြောင်း၊ သုဒ္ဓါဂါသဘုံ၌ ဖြစ်ခြင်းသည် ပုထုဇဉ်တို့နှင့် မဆက်ဆံကြောင်း" ဤမျှသာ ထူးသည်။ မေတ္တာဈာန်မှ ဝိပဿနာကူးယူပုံ ပြခြင်းပင်တည်း။ အဋ္ဌကထာ၌ နှစ်သုတ်လုံး မဖွင့်၊ ဈာန်မှ ဝိပဿနာကူးပုံ နဝကနိပါတ် ဈာနသုတ်အဖွင့် (အံ-ဋ္ဌ၊၃၊၂၇၇၊)၌ ဖွင့်ထားသည်။

မေတ္တာဈာန်မျှဖြင့် အားရကျေနပ်သူသည် မေတ္တာကြောင့် ဗြဟ္မာပြည်သို့ တက်ရသော်လည်း အပါယ်သံသရာမှ မလွတ်သေး။

စတုတ္ထအကြိမ်

ထို့ကြောင့် မေတ္တာဈာန်ကို အခြေခံ၍ ခန္ဓာငါးပါးကို ဝိပဿနာ ရှုမှသာလျှင် ဈာနလာဘီ အရိယာဖြစ်ကာ အပါယ်သံသရာ, ကာမသံသရာ, ဗြဟ္မာသံသရာဘေးကြီးမှ အဆင့်ဆင့် (အင်အားအလိုက်) ကင်းဝေးကာ ချမ်းသာရာအစစ်ကို ရကြပေမည်ဟု ဟောတော်မူလိုကြောင်း သင်ခန်းစာ ယူကြရပေမည်။

## ၁၁–ကရဏီယသုတ်

### မေတ္တာမနောကံ၏ အင်အား

ရဟန်းတို့၊ စေ့ဆော်, အားထုတ်, ပြုလုပ်, ဆည်းပူး အပ်ကုန်ပြီးသော ကံတို့၏ (အကျိုးကို) မခံစံရဘဲလျက် ကင်းပျောက်သွားသည်ကို ငါမဆို၊ ထိုကံတို့၏ အကျိုးကို ယခုဘဝ၌သော်လည်းကောင်း၊ တမလွန်ဘဝ၌သော်လည်းကောင်း၊ နောက်ဘဝအဆက်ဆက်၌သော်လည်းကောင်း ခံစံရ၏။ ရဟန်းတို့ စေ့ဆော်, အားထုတ်, ပြုလုပ်, ဆည်းပူးအပ်ကုန်ပြီးသော ကံတို့၏ (အကျိုးကို) မခံစံရဘဲလျက်လည်း ဆင်းရဲကုန်ဆုံးမှုကို ပြုနိုင်၏ ဟုလည်း ငါမဆိုသည်သာတည်း။

### ချေဖျက်နိုင်သောကံ

ရဟန်းတို့၊ အရိယာဖြစ်သော တပည့်တော်သည် အဘိဇ္ဈာ, ဗျာပါဒ ကင်း၍ မတွေဝေဘဲ ကောင်းစွာဆင်ခြင်နိုင်သော ဉာဏ်, ထင်သော သတိ ရှိသည်ဖြစ်၍ မေတ္တာနှင့်တကွဖြစ်သောစိတ်ဖြင့် တစ်ခုသော အရပ်မျက်နှာကို ဖြန့်လွှမ်း၍နေ၏။ (ပေယျာလ)၊ ဖြန့်လွှမ်း၍နေ၏။

ထိုသူသည် "ငါ၏ ဤစိတ်သည် ရှေးအခါက ကျဉ်းမြောင်းသေးငယ်သေး၏။ မပွားရသေး။ ယခုမူကား ငါ၏ ဤစိတ်သည် ပိုင်းခြားကန့်သတ်ချက် မရှိ များပြား၏။ ကောင်းစွာ ပွားများပြီးဖြစ်၏။ တစ်စုံတစ်ရာ ပမာဏပြုထားသော (ပိုင်းခြားကန့်သတ်မှု ပြုတတ်သော ကာမာဝစရ) ကံသည် ထို (ပိုင်းခြားကန့်သတ်ချက်မရှိ များပြား၍ ကောင်းစွာပွားအပ်ပြီးသော မဟဂ္ဂုတ်) ကံ၌ မကြွင်းကျန်၊ ထိုမဟဂ္ဂုတ်ကံ၌ မတည်" ဟု ဤသို့ သိ၏။

### ဆင်းရဲမဖြစ်နိုင်အောင် နေနည်း

ဘုရား –ရဟန်းတို့၊ ထိုအရာကို အဘယ်သို့ မှတ်ထင်ကုန်သနည်း၊ ဤသူငယ်သည် ကလေးအရွယ်မှစ၍ မေတ္တာစေတောဝိမုတ္တိ= မေတ္တာဟူသော စိတ်၏လွတ်မြောက်မှုကို ပွားများခဲ့လျှင် မကောင်းမှုကို ပြုလုပ်သေးသလောဟု မေးတော်မူ၏။

ရဟန်းများ –အရှင်ဘုရား၊ ဤသို့ပြုလုပ်ခြင်းသည် မဖြစ်နိုင်ပါ။
ဘုရား –မကောင်းမှု မပြုလုပ်သူကို ဆင်းရဲခြင်းသည် ထိတွေ့ရသေး သလော။
ရဟန်းများ –အရှင်ဘုရား၊ မထိတွေ့နိုင်ပါ၊ မကောင်းမှု မပြုလုပ်သူကို ဆင်းရဲခြင်း သည် အဘယ်မှာ ထိတွေ့ပါအံ့နည်း အရှင်ဘုရား ဟု လျှောက်ကုန်၏။

## အကုသိုလ်ကံဟောင်းကိုပင်
## ချေဖျက်နိုင်သော မေတ္တာ

ဘုရား –ရဟန်းတို့၊ ဤမေတ္တာဟူသော စိတ်၏ လွတ်မြောက်မှုကို မိန်းမဖြစ်စေ၊ ယောကျာ်းဖြစ်စေ ပွားများအပ်သည်သာတည်း။ ရဟန်းတို့၊ မိန်းမ ဖြစ်စေ၊ ယောကျာ်းဖြစ်စေ ဤခန္ဓာကိုယ်ကို ယူဆောင်၍ မသွားနိုင်။ ရဟန်းတို့၊ ဤသတ္တဝါဟူသည် စိတ်လျှင်အကြောင်းရှိ၍ စုတိစိတ်ဖြင့် ခြားကွယ်လျက်ရှိပေ၏။ ထိုသူသည် 'ငါသည် ရှေးက ဤမကောင်းမှု တစ်စုံတစ်ရာကို ဤကိုယ်ဖြင့်သာ ပြုအပ်ခဲ့ပြီ။ ထိုမကောင်းမှု အလုံးစုံကို ဤယခုဘဝ၌သာလျှင် ခံစားအပ်ပြီ။ ထိုကံသည် လိုက်ပါလာတော့မည်မဟုတ်' ဟု ဤသို့သိ၏။

(မေတ္တာဘာဝနာဖြင့် နောက်နောင်ဘဝ ခံစားရမည်ကို ပယ်သတ်ပြီးပြီ၊ ယင်ယင်ကတည်းက မေတ္တာပွားသူ ဆင်းရဲဟူ၍ မတွေ့နိုင်။ ရှေးရှေးဘဝက ပါလာသော အကုသိုလ်လည်း မေတ္တာကြောင့် ပျက်ပြယ်သွားပြီဟု ဆိုလိုသည်။ အဋ္ဌကထာ။)

ရဟန်းတို့၊ ဤသို့ပွားများအပ်သော မေတ္တာဟူသော စိတ်၏ လွတ်မြောက်မှု သည် ဤသာသနာတော်၌ ပညာရှိသော ရဟန်းအား ထိုထက်အလွန် အရဟတ္တဖိုလ် ဟူသော လွတ်မြောက်မှုကို ထိုးထွင်းမြင်သိ မရရှိသေးပါမူ ဗြဟ္မလောကိ အနာဂါမ် ဖြစ်ရန်အလို့ငှာ ဖြစ်ပေ၏။

[ကရုဏာ, မုဒိတာ, ဥပေက္ခာတို့ကိုလည်း ထိုနည်းဟောတော်မူသည်။ အံ ၁၀၊ ကရဇကာယသုတ်၊ ၅၀၃၊ ၄၉၃၊ ၃၄၀၊ ၃၅၆။]

## သရျာလွန် ကုသိုလ်

မည်သည့်ကံမဆို အကျိုးမပေးဘဲမနေ။ သို့ရာတွင် ကာမာဝစရကံ တို့သည် အကန့်အသတ် အတိုင်းအရှည် ပမာဏရှိ၏။ ဥပမာ–ငွေတစ်ရာကုန် လှူသည်။ ကျောင်းတစ်ဆောင်ဆောက်သည်။ မဟဂ္ဂုတ် ကံတို့ကား ထိုသို့မဟုတ်၊ ဥပမာ– မေတ္တာကုသိုလ်ကံသည် သတ္တဝါ အာရုံပြုရာ၌လည်း ကန့်သတ်ချက်မရှိ၊

ပွားထုံရာ၌လည်း ကန့်သတ်ချက် မရှိ၊ အပ္ပမာဏကံ (သချာလွန်ကောင်းမှု) တည်း။

ထို့ကြောင့် မေတ္တာစသော မဟဂ္ဂုတ်ကံများကို ကျင့်သုံးလျှင် အားကြီးသော ရေစီးကြောင်းသည် ရေကွက်အနည်းငယ်ကို လွှမ်းမိုးသွားသကဲ့သို အကန့်အသတ် ရှိသော ကာမာဝစရကံများကို လွှမ်းမိုးချေဖျက်၍ အကျိုးပေးနိုင်သည်။ တစ်ခုထက် တစ်ခု အားကြီးသော ကံကို လေ့ကျင့်ထူထောင်ရသည်။ နည်းသောကုသိုလ်ဖြစ်လျှင် ကျေပျောက်၍ များသောအကုသိုလ်ဖြစ်လျှင်လည်း (အရိယာဖြစ်က) ဤတစ်ဘဝ ၌သာ ခံစားရတော့သည်။

အင်အားကြီးဆုံးသော အရဟတ္တမဂ် ကုသိုလ်ကံကား ဆိုဖွယ်မရှိ။ 'ယဿ ပါပံ ကတံ ကမ္မံ, ကုသလေန ပိဓီယတိ' (ဓမ္မပဒနှင့် မဇ္ဈိမ အင်္ဂုလိမာလသုတ်။)

တစ်သံသရာလုံးက ပါလာသမျှ အကုသိုလ်ကိုပင် သင်ပုန်းချေ၏။ ယခု တစ်ဘဝ၌သာ အတန်အသင့် ကြွေးဆပ်ရတော့သည်။ အင်္ဂုလိမာလမထေရ် စသည် တို့ကိုထောက်၊ အင်အားတို့၏ နိယာမပင်တည်း။ အခွင့်သာခိုက် အကောင်းဆုံး အင်အားကို ကိုင်တွယ်မိဖို့ အရေးကြီးလှသည်။ (ဣတိဝုတ် ပါဠိတော် နှင့် အဋ္ဌကထာ ၈၅–၈၉–မေတ္တာဘာဝနာ သုတ်၌လည်း အထက်ပါအတိုင်းပင် ပြဆို ထား၏။)

## ၁၂။ ဝေလာမသုတ်
## အမြတ်ဆုံး ဒါန သီလ နှင့် မေတ္တာ

### ဒါန

သူကြွယ်၊ အကြင်သူသည် ပစ္စေကဗုဒ္ဓါတစ်ရာကို ကျွေးမွေးရာ၏။ အကြင်သူ သည်ကား ပွဲဖော်အထူးကို ခံယူတော်မူထိုက်သော တရားအားလုံးကို ကိုယ်တော်တိုင် သိတော်မူသော မြတ်စွာဘုရားရှင်ကို ကျွေးမွေးရာ၏။ ထိုမြတ်စွာဘုရားတစ်ပါးကို ကျွေးမွေးရခြင်းသည် ထိုပစ္စေကဗုဒ္ဓါ အပါးတစ်ရာ ကျွေးမွေးရခြင်းထက် သာ၍ အကျိုးကြီးမြတ်ပေ၏။

အကြင်သူသည်ကား မြတ်စွာဘုရားအမှူးရှိသော သံဃာတော်ကို ကျွေးမွေး ရာ၏။ (ပေယျာလ) အကြင်သူကား အရပ်လေးမျက်နှာ၌ရှိသော သံဃာကို ရည်ညွှန်း၍ ကျောင်းဆောက်ရာ၏။ (ပ)။

**သရဏဂုံ**

အကြင်သူကား ယုံကြည်သောစိတ် ရှိသည်ဖြစ်၍ ဘုရား, တရား, သံဃာကို ကိုးကွယ်ရာ၏ဟု ဆည်းကပ်၏။ (သရဏဂုံ တည်၏။) (ပ)။

**သီလ**

အကြင်သူသည်ကား ယုံကြည်သောစိတ် ရှိသည်ဖြစ်၍ (သရဏဂုံနှင့်တကွ ငါးပါးသော )သိက္ခာပုဒ်တို့ကို ဆောက်တည်၏။

**မေတ္တာ**

အကြင်သူသည်ကား ယုတ်စွာအဆုံး နို့သာတစ်ရှူတစ်ရှိုက်ခန့်အချိန်မျှလောက် မေတ္တာစိတ်ကို ပွားများရာ၏။ ဤမေတ္တာပွားများခြင်းသည် ထိုသရဏဂုံငါးပါးသီလ ဆောက်တည်ရခြင်းထက် သာ၍ အကျိုးကြီးမြတ်ပေ၏။

**ဝိပဿနာ**

အကြင်သူသည်ကား လက်ဖျစ်တစ်တွက်ခန့် အချိန်မျှလောက် အနိစ္စသညာကို ပွားများရာ၏။ ဤအနိစ္စသညာ ပွားများရခြင်းသည် ထိုမေတ္တာပွားများခြင်းထက် သာ၍ အကျိုးကြီးမြတ်ပေ၏။

[အံ–၉၊ ဝေလာမသုတ် ကောက်နုတ်ချက်၊ ၁၉၇၊ ၁၉၉၊ ၂၆၇၊ ၂၇၇။]

သာသနာပကာလ၌ ကြီးကျယ်ခမ်းနား များပြားစွာလှူရသော ဝေလာမပုဏ္ဏားကြီး အလှူမျိုးထက် သာသနာတွင်း သောတာပန်ပုဂ္ဂိုလ်တစ်ဦးကို လှူရသော အလှူက သာလွန်၍ အကျိုးမြတ်ပုံ၊ ထို့အတူ သောတာပန်တစ်ရာ၊ သကဒါဂါမ်တစ်ပါးစသည်ဖြင့် အနာဂါမ်, ရဟန္တာ, ပစ္စေကဗုဒ္ဓါ၊ နောက်ဆုံး အနိစ္စသညာ ပွားများခြင်းအထိ တစ်ခုထက်တစ်ခု သာလွန်ပုံကို ဟောတော်မူသည်။

အနုအရင့် အတိမ်အနက်အားဖြင့် ခြားနားစေကာမူ ဒါန, သီလ, မေတ္တာ ကျင့်စဉ်တို့ကား ဘုရားမပွင့်သော်လည်း ရနိုင်၏။ သာသနာပ,မှာပင် ရနိုင်သော ကျင့်စဉ်များဖြစ်သည်။ သာသနာခေတ် လူဖြစ်လာရသူများ ဘုရားနှင့် တွေ့ရသူမည်အောင် ဝိပဿနာအလုပ်ကိုလည်း မဆုတ်မနစ် အရယူသင့်ကြကုန်၏။

**၁၃။ သတ္တဂုံတ္တရ မေတ္တာသုတ်**

**မေတ္တာပဓာန**

ရဟန်းတို့၊ ကုသိုလ်ကောင်းမှုတို့ကို မကြောက်ကြကုန်လင့်။ ရဟန်းတို့၊

ကုသိုလ်ကောင်းမှုတို့ဟူသော အမည်သည် ချမ်းသာသုခ၏ အမည်တည်း။

ရဟန်းတို့၊ ငါသည် ကြာမြင့်စွာသော ကာလပတ်လုံး ပြုအပ်ကုန်သော ကောင်းမှုတို့၏ ကြာမြင့်စွာသော ကာလပတ်လုံး လိုလားနှစ်သက် မြတ်နိုးဖွယ် ကောင်းသော အကျိုးထူးကို ခံစားရဖူးသော အဖြစ်ကို သိမြင်တော်မူ၏။

(ငါသည်) ခုနစ်နှစ်ပတ်လုံး မေတ္တာစိတ် (မေတ္တာဈာန် သမာဓိ) ကို ပွားများခဲ့ဖူးပြီ။ ခုနစ်နှစ်တို့ ကာလပတ်လုံး မေတ္တာစိတ်ကို ပွားများခဲ့၍ ခုနစ်ခုကုန်သော သံဝဋ္ဋကပ် ၊ ဝိဝဋ္ဋကပ်(မဟာကပ်) တို့ပတ်လုံး ဤလူ့ပြည်သို့ မလာရပြီ။ ရဟန်းတို့၊ ငါသည် မီးဖျက်၍ ကမ္ဘာပျက်လတ်သော် ပဋိသန္ဓေအားဖြင့် အာဘဿရာဗြဟ္မာ့ဘုံသို့ ကပ်ရောက်ရ၏။ ကမ္ဘာတည်ပြန်လတ်သော် သတ္တဝါ ဆိတ်သုဉ်းသော (ပဌမဈာန်) ဗြဟ္မာ့ဗိမာန်၌ဖြစ်ရ၏။

ရဟန်းတို့၊ ထိုဗြဟ္မာ့ဘုံ၌ ဗြဟ္မာဖြစ်၏။ မဟာဗြဟ္မာဖြစ်၏။ လွှမ်းမိုးနိုင်သူဖြစ်၏။ မည်သူကမျှ မလွှမ်းမိုးနိုင်။ စင်စစ် (အတိတ် အနာဂတ် ပစ္စုပ္ပန်) အမြင်သန်သူ ဖြစ်၏။ အခြားသူတို့ကို မိမိအလိုသို့ လိုက်ပါစေနိုင်၏။ (စိတ်အလိုအတိုင်း ဖြစ်စေနိုင်၏။)

ရဟန်းတို့၊ ငါသည် နတ်တို့ကို အစိုးရသော သိကြားမင်း ၃၆–ကြိမ် ဖြစ်ဖူး၏။ တရားစောင့်သော ၊ တရားနှင့်အညီ မင်းပြုသော၊ သမုဒ္ဒရာလေးစင်း အပိုင်းအခြားရှိသည့် လေးကျွန်းလုံးကို အစိုးရသော၊ ရန်အပေါင်းကို အောင်မြင်သော၊ တိုင်းနိုင်ငံကို တည်ငြိမ်စေသဖြင့် မင်းစည်းစိမ် ခိုင်မြဲသော၊ ရတနာ ခုနစ်ပါးနှင့် ပြည့်စုံသော စကြဝတေးမင်းကား အကြိမ် တစ်ရာမက ဖြစ်ခဲ့ရဖူးပြီ။ ရဟန်းတို့၊ ငါ့အား ဤရတနာ ခုနစ်ပါးတို့သည် ဖြစ်ပေါ်ကုန်၏။ ဤသည်တို့ကား အဘယ်တို့နည်းဟူမူ (၁) စကြရတနာ၊ (၂) ဆင်ရတနာ၊ (၃) မြင်းရတနာ၊ (၄) ပတ္တမြားရတနာ၊ (၅) မိဖုရားရတနာ၊ (၆) သူဌေးရတနာ၊ (၇) ခုနစ်ခုမြောက် သားကြီးရတနာတို့ပင်တည်း။

ရဟန်း၊ ငါ့အား အရာအထောင်မကသော၊ ရဲရင့်သော၊ သူရဲကောင်း အင်္ဂါရုပ်ရှိသော၊ သူ့စစ်ရန်ကို တွန်းလှန်နိုင်ကုန်သော သားတော်တို့သည် ရှိကုန်၏။ ငါသည် သမုဒ္ဒရာ အဆုံးအပိုင်းအခြားရှိသော ဤမြေပြင်ကို တုတ်မဆောင်, လက်နက်မဆောင်မူ၍ တရားသဖြင့် အောင်မြင်စွာ အုပ်စိုးခဲ့ဖူးပြီ ဟု မိန့်တော်မူ၏။

### ကြီးပွားမြင့်မြတ်သော ဘဝနေနည်းစနစ်

ချမ်းသာကို ရှာမှီးကြကုန်သော သူတော်ကောင်းတို့၊ ကုသိုလ် ကောင်းမှု တို့၏ အကျိုးကို ရှုကြလော့။ ရဟန်းတို့၊ ခုနစ်နှစ်တို့ပတ်လုံး မေတ္တာစိတ်ကို

ပွားများ၍ သံဝဋ္ဋကပ်, ဝိဝဋ္ဋကပ် ခုနစ်ကပ်တို့ ကာလပတ်လုံး ဤလူ့ပြည်သို့ တစ်ဖန် မလာရပြီ။ ကမ္ဘာပျက်လတ်သော် အာဘဿရာဘုံသို့ ကပ်ရောက်၍ဖြစ်ရ၏။

ကမ္ဘာသစ် တည်ပြန်လတ်သော် သတ္တဝါ ဆိတ်သုဉ်းသော ပထမဈာန် ဗြဟ္မာ့ဘုံ၌ ဖြစ်၏။ ထိုအခါ သူတစ်ပါးတို့ကို မိမိအလိုသို့ လိုက်ပါစေနိုင်သော မဟာဗြဟ္မာ ခုနစ်ကြိမ်ဖြစ်ဖူး၏။

နတ်တို့အစိုးရသော သိကြားမင်း သုံးဆယ့်ခြောက်ကြိမ်ဖြစ်၍ နတ်၏ မင်းအဖြစ်ကို ပြုဖူး၏။

ဇမ္ဗူဒိပ်အပြင်ကို အစိုးရသော စကြဝတေးမင်းဖြစ်ဖူး၏။ ဦးထိပ်၌ အဘိသိက်သွန်းအပ်သော၊ မြေကို အစိုးရသော၊ လူတို့၏ အကြီးအမှူးဖြစ်သော မင်းဖြစ်ခဲ့ဖူး၏။ တုတ်, လက်နက် မဆောင်ဘဲ ဤမြေပြင်ကို အောင်နိုင်၏။ ငါသည် တရားနှင့်အညီ မင်းပြု၍ နိုင်ငံထက်ကလူ မပြုမူဘဲ တရားသဖြင့် ဆုံးမ အုပ်ချုပ်ခဲ့ပြီ။

ငါသည် ကာမဂုဏ် အလုံးစုံတို့နှင့်လည်းကောင်း၊ ရတနာခုနစ်ပါးတို့နှင့် လည်းကောင်း ပြည့်စုံသော၊ များသောဥစ္စာ, များသောအသုံးအဆောင်ရှိသော, ကြွယ်ဝသော အမျိုး၌ ဖြစ်ဖူးလှပြီ။

လောက၌ သတ္တဝါတို့အား သနားချီးမြှောက်တော်မူကုန်ကြသော ဘုရားရှင်တို့သည် "ငါ၏ မြေအပြင်ကို အစိုးရသော မင်းအဖြစ်သည် မပျက်စီး၊ များပြားသော, အသုံးအဆောင် အဆောက်အဦရှိသော အရှိန်အစော်ကြီးမားသော မင်းဖြစ်၏။ ဇမ္ဗူဒိပ်မြေအပြင်ကို အစိုးရသော တန်ခိုးနှင့် ပြည့်စုံသော အခြံအရံနှင့် ပြည့်စုံသော မင်းဖြစ်၏။ ကြီးမားမြင့်မြတ်ခြင်း၏ အကြောင်းရင်းကား ဤမေတ္တာစသော ကောင်းမှုပင်တည်း" ဟု ဤတရားကို ကောင်းစွာ ဟောကြားတော်မူအပ်၏။

ဤတရားကို ကြားနာရသည်ရှိသော် အဘယ်သူသည် မကြည်ညိုဘဲ ရှိနိုင် အံ့နည်း။ ယုတ်ညံ့သော သဘောရှိသော သူပင်သော်လည်း ကြည်ညိုလေရာ၏။ (အသိဉာဏ်ကြည်လင်ပြတ်သားစေရာ၏။) ထို့ကြောင့် အကျိုးစီးပွားကို အလိုရှိသော ကြီးမားမြင့်မြတ်ခြင်းကို တောင့်တသော သူသည် ဘုရားရှင်တို့၏ အဆုံးအမတော်ကို အောက်မေ့လျက် သူတော်ကောင်းတရားကို အလေးအမြတ် ပြုအပ်၏။

[အံ ၇၊မေတ္တသုတ် ၄၆၅။ ၅၈၅။ ၁၇၆။ ၁၈၀။]

**မေတ္တာအင်အားသည်သာ မူလအင်အား**

ငရဲကာ၌ ဗြဟ္မာ့ဘုံသို့ ရောက်ရခြင်းကို မဟဂ္ဂုတ် မေတ္တာကံအကျိုး၊ သိကြားမင်း စသည်ဖြစ်ရခြင်းကို ကာမာဝစရကံအကျိုးဟု ဖော်ပြ၏။

ဖြင်စစ် ခုနစ်နှစ်ပွားများသော မေတ္တာအင်အားသည် ဗြဟ္မာ့ပြည်၌ မဟာကပ် ခုနစ်ကပ် သက်ရှည်ချမ်းသာစေ၏။ ကမ္မာပျက်လာတော်သော်လည်း အပျက်ကင်းလွတ်ရာ အထက်ဗြဟ္မာ့ဘုံသို့ တင်ပို့ပေးပြန်သည်။

ဗြဟ္မာ့ပြည်သို့ တိုက်ရိုက်တင်ပို့ပေးသော မေတ္တာအင်အားသည် အရှိန်အဝါ ကုန်၍ လျှောကျလာရသော်လည်း နတ်ပြည်၌ သိကြားမင်းဖြစ်၊ လူ့ပြည်၌ မင်းထက်မင်းအဖြစ် အကြိမ်ပေါင်းများစွာ ခံစားရသည်။ နောက်ဆုံး လူသာမန် ဖြစ်ရစေကာမူ စည်းစိမ်ဥစ္စာ များစွာကြွယ်ဝသူ ဖြစ်ရသေး၏။ (မေတ္တာအခြေခံမှု မရှိလျှင် သီလစသည် ဖြစ်မလာနိုင်ပုံကို ချဲ့ထွင်သိပါ။)

**ကြီးပွားမြင့်မြတ်မှုအားလုံး၏ အခြေခံဖြစ်သော အင်အားကား မေတ္တာပင်တည်း** (ဧသော ဟောတု မဟန္တ သဿ)၊ မြတ်စွာဘုရားရှင် ဟောတော်မူလိုရင်း ပါဠိတော် အာဘော်၊ ကိုယ်တော်တိုင် ဖြစ်ရပ်ကို တပ်တပ်ထင်ထင် ဆင်ခြင်သုံးသပ်ကြပါကုန်။

## ၁၄။ သတ္တသူရိယသုတ် စသည်

### ကမ္ဘာပျက်ခြင်းနှင့် မေတ္တာ

မြတ်စွာဘုရားရှင်သည် သင်္ခါရတရားတို့၏ အမြဲမရှိပုံနှင့်စပ်၍ ရဟန်းတို့အား နေခုနစ်စင်းထွက်၍ ကမ္ဘာပျက်ပုံကို (အံ-၇၊ သတ္တသူရိယသုတ်-၄၇၃။ ၅၉၄။ ၁၇၉။၁၈၇။) ဟောတော်မူရာ၌ "ဤအကြောင်းကို အရိယာဖြစ်သူမှတပါး သိမြင်ယုံကြည်ရန် ခက်ခဲကြောင်း" ကိုပါ ဟောတော်မူသည်။

ထိုမှဆက်၍ ရှေးအခါက မေတ္တာဈာန်ကို ကိုယ်တိုင်လည်းပွားများ၊ တပည့်များကိုလည်း ညွှန်ကြားပြသ၍ ဗြဟ္မာ့ပြည်သို့ ရောက်နိုင်သည့် နည်းလမ်းကို ညွှန်ပြနိုင်သော သုနေတ္တ (တိတ္ထိဆရာကြီး) အကြောင်းကိုပါ ဆက်၍ ဟောတော် မူသည်။ (ဗြဟ္မာဖြစ်ရန်လမ်းစဉ်ကို ညွှန်ပြနိုင်သူထို 'သုနေတ္တအကြောင်း၊ အံ-၆၊ ဓမ္မိကသုတ်နှင့် အံ-၇၊သုနေတ္တသုတ်တို့၌လည်း ဟောတော်မူထား၏။)

### သူဌေး၊ နတ်၊ ဗြဟ္မာ ရလွယ်ပါ

သုနေတ္တဆရာကြီးသည် ရာပေါင်းများစွာသော တပည့်တို့အား မေတ္တာဝါဒကို ဟောပြရာ အပြည့်အစုံ နားလည်ကျင့်ပွားနိုင်သူများ ဗြဟ္မာ့ပြည်သို့ ရောက်ကြသည်။ အပြည့်အစုံ နားမလည်၊ မကျင့်ပွားနိုင်သူတို့ကား နတ်ပြည်ခြောက်ထပ်၌ ရောက်ကြရ၏။ အောက်ထစ်ဆုံး လူ့ပြည်၌ မင်း သူဌေး သူကြွယ်များ ဖြစ်ကြရ၏။

ထိုအခါ သုနေတ္တဆရာကြီးသည် 'တမလွန်ဘဝ၌ တပည့်တို့နှင့် တူမျှသော ဘဝဂတိ အဖြစ်မျိုးသည် ငါ့အား မသင့်လျော်။ ငါသည် မေတ္တာဈာန်ကို ,

(ဒုတိယဈာန်စသည်)ထို့ထက် တက်၍ ပွားများရသော် ကောင်းလေစွာ’ ဟူသော အကြံပေါက်၍ ခုနစ်နှစ်လုံးလုံး (စတုတ္ထဈာန်အထိ) တိုးတက်ကျင့်ပွားသည်။

ယင်းသို့ မေတ္တာဈာန်ကို ပွားများခြင်းကြောင့် (အံ-၇၊ မေတ္တသုတ်လာ ဘုရားအလောင်းတော်ကဲ့သို့ပင်) မဟာကပ် ခုနစ်ကပ်လုံးလုံး ဗြဟ္မာမင်းကြီးဖြစ်ရ၏။ ထို့နောက် သိကြားမင်း ခုနစ်ကြိမ်၊ စကြဝတေးမင်း အကြိမ်တစ်ရာမက ဖြစ်ရ၏။ မေတ္တာဈာန်ကြောင့် ယင်းသို့ အသက်ရှည်ကြာသော (လူထက်လူ၊ နတ်ထက်နတ်၊ ဗြဟ္မာထက်ဗြဟ္မာ) ဘဝကို ရရှိခဲ့သော်လည်း အရိယာတို့၏ သီလ, သမာဓိ, အရိယာတို့၏ ပညာ, ဝိမုတ္တိကို မရရှိ မသိမမြင်ခဲ့သဖြင့် တစ်ဖန် ပဋိသန္ဓေနေရခြင်း အိုရနာရခြင်း သေရခြင်း စသော သံသရာဆင်းရဲမှ မလွတ်မြောက်နိုင်ခဲ့ပေ။ ယခုမူကား ကိုယ်တော်တိုင် ထိုးထွင်းသိမြင်တော်မူသည့်အတိုင်း အရိယာသီလ စသော လွတ်မြောက်ရေးတရားတို့ကို ဟောတော်မူထားသည်။

### တိရစ္ဆာန်များပင် နတ်ပြည် ဗြဟ္မာပြည်သို့

(ဝိသုဒ္ဓိမဂ် အဋ္ဌကထာ ၂၊ ပုဗ္ဗေနိဝါသာနုဿတိ အဘိညာဉ်အခန်း၌)

ကမ္ဘာကြီးသည် ရာဂ လောဘ ပြန့်ပွားသောအခါ မီးကြောင့်၊ ဒေါသ ပြန့်ပွားသောအခါ ရေကြောင့်၊ မောဟ ပြန့်ပွားသောအခါ လေကြောင့် ပျက်စီးရကြောင်း ပြဆိုရာတွင် မီးလောင်၍ ကမ္ဘာပျက်မည် ရှိသော အခါ ကမ္ဘာလောကဓာတ်အတွင်းရှိ သတ္တဝါတို့၏ အခြေအနေကို ဤသို့ ပြဆိုထား၏။

“အကြင်အခါ၌ ကမ္ဘာကြီးသည် မီးဖြင့်ပျက်၏။ ဦးစွာ ကမ္ဘာပျက်မိုးကြီး သည် စကြဝဠာ ကုဋေတစ်သိန်းအတွင်း၌ တစ်ခဲနက် ရွာသွန်း၏။ လူတို့သည် အလွန်ဝမ်းမြောက်ကြ၍ ရှိသမျှ မျိုးစေ့တို့ကို အကုန်ထုတ်၍ ကြဲကြကုန်၏။ ကောက်ပင်များ နွားစားလောက်ရုံ ကြီးပြင်းလာသောအခါ မြည်းကဲ့သို့ အော်မြည်လျက် မိုးတစ်ပေါက်မျှ မရွာ။ ထိုအခါမှစ၍ မိုးပြတ်တော့၏။

“ရဟန်းတို့၊ များစွာသော နှစ်တို့ပတ်လုံးလည်းကောင်း၊ အနှစ်အရာ ပတ်လုံး လည်းကောင်း၊ အနှစ်အထောင်ပတ်လုံး လည်းကောင်း၊ နှစ်ပေါင်းအသိန်း ပတ်လုံး လည်းကောင်း မိုးမရွာသောအခါ ရှိပေသေးသည်”ဟု သတ္တသူရိယ သုတ်၌ ဘုရားရှင် ဟောတော်မူထား၏။

“မိုးကိုမှီ၍ အသက်ရှင်ကုန်သော သတ္တဝါတို့သည် သေ၍ (မီးလွတ်ရာ) ဗြဟ္မာ့ပြည်၌ ဖြစ်ကုန်၏။ အပွင့်အသီးမှီ၍ အသက်ရှင်ကုန်သော နတ်တို့ သည်လည်း သေ၍ ဗြဟ္မာ့ပြည်၌ ဖြစ်ကုန်၏။ ယင်းသို့လျှင် နှစ်ပေါင်းများစွာ ကြာလတ်သော် ထိုထိုအရပ်၌ ရေကုန်ခန်း၏။ ထို့နောက် အစဉ်အားဖြင့်

ငါးလိပ်တို့သည် သေ၍ ဖြဟ္မာ့ပြည်၌ ဖြစ်ကုန်၏။ ငရဲသားတို့လည်း သေ၍ ဗြဟ္မာ့ပြည်၌ ဖြစ်ကုန်၏။ (ထိုတွင် ငရဲသားတို့မှာကား နေခုနစ်စင်း ထွက်ပေါ်ချိန်မှသာ ပျက်စီးကုန်၏ဟုလည်း ဆရာအချို့က ဆိုကုန်၏။)

## လောကဗျူဟာနတ်တို့ နှိုးဆော်ပုံ

"ဈာန်နှင့်ကင်း၍ ဗြဟ္မာ့ပြည်၌ ဖြစ်ခြင်းမည်သည် မရှိချေ။ သတ္တဝါတို့တွင် အချို့ကား ငတ်မွတ်၍ သေကုန်၏။ အချို့လည်း ဈာန်ရခြင်းငှာ မထိုက်တန်။ ထိုသူတို့ အဘယ်သို့လျှင် ထိုဗြဟ္မာ့ပြည်၌ ဖြစ်နိုင်သနည်းဟူမူ နတ်ပြည်၌ ဈာန်ရသဖြင့် ဖြစ်ကြ၏။ ဆိုဦးအံ့၊ ထိုကမ္ဘာပျက်ခါနီးအချိန်၌ အနှစ်တစ်သိန်းလွန်လျှင် ကမ္ဘာပျက်မည်ကို သိကြသော လောကဗျူဟာမည်သော ကာမာဝစရ နတ်တို့သည် ဆံပင်ဖားလျားချ၍ ဖရိုဖရဲ ဆံပင်ဖြန့်ကျဲ၍ ငိုသောမျက်နှာရှိ၍ မျက်ရည်တို့ကို လက်ဖြင့်သုတ်ကုန်လျက် အဝတ်နီကြီးကို ဝတ်ကုန်လျက်၊ အလွန်ဖောက်ပြန်သော ရုပ်အဆင်းကိုဆောင်၍ လူတို့သွားရာ ခရီးလမ်း၌ လှည့်လည်ကာ–

"အို အချင်းတို့၊ နောင်နှစ်ပေါင်း တစ်သိန်းကျော်လွန်သောအခါ ကမ္ဘာပျက်မိုးကြီး ရွာသွန်းလတ္တံ့၊ ဤကမ္ဘာကြီး ပျက်စီးလတ္တံ့၊ မဟာသမုဒ္ဒရာ လည်း ခန်းခြောက်လတ္တံ့၊ ဤကမ္ဘာမြေကြီးနှင့်တကွ မြင်းမိုရ်တောင်ကြီးသည်လည်း မီးလောင်ပျက်စီးလတ္တံ့၊ ဗြဟ္မာပြည်တိုင်အောင် ဤကမ္ဘာကြီး ပျက်စီးလတ္တံ့၊ အချင်းတို့ ၊ မေတ္တာတရားကို ပွားများကြကုန်လော့၊ ကရုဏာ, မုဒိတာ, ဥပေက္ခာ တရားတို့ကို ပွားများကြကုန်လော့၊ အမိအဖတို့ကို ပြုစုလုပ်ကျွေးကြကုန်လော့၊ ဆွေကြီးမျိုးကြီး (မိမိတို့အမျိုး၌ အကြီးအကဲ) တို့ကို ရိုသေလေးစားကြကုန်လော့" ဟု ကြွေးကြော်နှိုးဆော်ကြကုန်၏။

"ထိုနတ်တို့၏ နှိုးဆော်စကားကို ကြားကြကုန်၍ အများအားဖြင့် လူတို့သည်လည်းကောင်း၊ ဘုမ္မစိုးနတ်တို့သည်လည်းကောင်း သံဝေဂ ဖြစ်ကြကုန်၍ အချင်းချင်း နူးညံ့သောစိတ် ရှိကြကုန်လျက် မေတ္တာစသော (ကာမာဝစရ)ကုသိုလ်ကောင်းမှုတို့ကို ပြု၍ နတ်ပြည်၌ ဖြစ်ကြကုန်၏။ ထိုနတ်ပြည်၌ နတ်ပြည်ရှိ သုဓာဘုတ်ကို သုံးဆောင်၍ (သိမ်မွေ့သောလေ၏ ထိတွေ့မှု အလေ့အကျက် များသည် အားလျော်စွာ) ဝါယောကသိုဏ်း၌ ပရိကံပြု၍ ဈာန်ကို ရကုန်၏။

## လုံးဝအပါယ်ရေးမှ လွတ်ခွင့်မရသူ

"ထိုမှတစ်ပါးသော အပါယ်လေးဘုံသားတို့သည်ကား ဘဝအဆက်ဆက်က ဆည်းပူးခဲ့သော (အပရာပရိယဝေဒနီယ) ကံအစွမ်းဖြင့် နတ်ပြည်၌ ဖြစ်ကြရ

ကုန်၏။ အပရာပရိက်နှင့်ကင်း၍ သံသရာ၌ ကျင်လည်နေရသော သတ္တဝါမည်သည် မရှိချေ။ ထိုအပါယ်ဘုံသားတို့သည်လည်း နတ်ပြည်၌ ရှေးနည်းအတူပင် စျာန်ကို ရကြကုန်၏။ (ကမ္ဘာပျက်သောနေ့ကား ငရဲထောင် ဖွင့်သော နေ့တည်း။)

ဤသို့လျှင် နတ်ပြည်၌ ဈာန်ရသည်ဖြစ်၍ သတ္တဝါအားလုံးတို့သည် (ကမ္ဘာပျက်လုလတ်သော်) ဗြဟ္မာ့ပြည်၌ ဖြစ်ကြရကုန်၏။ ကမ္ဘာဖျက်မိုးကြီး ပြတ်ပြီးနောက် နှစ်ပေါင်းများစွာ ကြာလတ်သော် နေနှစ်စင်း ထွက်ပေါ်လာ၏။"
(ဤကား ဝိသုဒ္ဓိမဂ် အဋ္ဌကထာစကား။)

ဤနေရာ၌ အထူးမှတ်သားရန် ရှိ၏။ မိစ္ဆာဒိဋ္ဌိ အယူခိုင်မြဲသူများအား ရေထဲ၌ ပစ်ချသော ခဲပမာ သေပြီးနောက် မလွဲမသွေ ငရဲသို့ ကျရောက်ရ၏။ ကမ္ဘာပျက်ခါနီး အခြားငရဲသားများ အဆင့်ဆင့် ဗြဟ္မာ့ပြည်သို့ ရောက်ခွင့်ရကြသော်လည်း မိစ္ဆာဒိဋ္ဌိ ခိုင်မြဲ၍ ကျရသော မိစ္ဆာဒိဋ္ဌိငရဲသားတို့အား လွတ်ခွင့်မရကုန်၊ စကြဝဠာ ကျောဘက်တစ်နေရာ၌ ငရဲဒုက္ခကို ခံမြဲခံနေကြရလေသည်။

(ယင်းငရဲသားတို့ ဒုက္ခကို 'အံ-၄-တထာဂတအစ္ဆရိယသုတ်'၌လည်း ကြည့်နိုင်သည်။)

အယူဝါဒ လွဲမှားခြင်းသည် လောက၌ အပြစ်အကြီးဆုံး ဖြစ်၏။ ကြောက်မက်ဖွယ်ကောင်းလေစွ၊ (အံ ဌ-၁၊ ၃၇၁-ဧကဓမ္မ-တတိယဝဂ် အဖွင့် စသည်။)

(အင်္ဂုတ္တရ အဋ္ဌကထာ-၃၊ သတ္တသူရိယသုတ်အဖွင့် (၁၈၀)၌ကား ဤသို့ ဖွင့်ပြထား၏။

"ကမ္ဘာကြီး ပျက်စီးသည်ရှိသော် ရှေးဦးစွာ အဝီစိမှ သတ္တဝါ ဆိတ်သုဉ်း၏။ အဝီစိမှ လွတ်မြောက်လာသော သတ္တဝါတို့သည် လူ့ဘုံနှင့် တိရစ္ဆာန်လောက၌ ဖြစ်လာကြကုန်၏။ တိရစ္ဆာန်လောက၌ ဖြစ်ရသော သတ္တဝါတို့သည်လည်း သားမယား၊ ညီအစ်ကို မောင်နှမတို့အပေါ်၌ မေတ္တာစိတ်ထားနိုင်ကြသဖြင့် သေလွန်လျှင် လူ့ဘုံနတ်ဘုံ၌ ဖြစ်ကြကုန်၏။ ထိုအခါ နတ်တို့သည် ကောင်းကင်၌ သွားလာကြ၍ "အချင်းတို့၊ ဤဘုံဌာနသည်လည်း မြဲမြံ ခိုင်ခံ့ခြင်း မရှိ။ မေတ္တာကို ပွားများကြကုန်လော့၊ ကရုဏာ, မုဒိတာ, ဥပေက္ခာ တို့ကို ပွားများကြကုန်လော့" ဟု တိုက်တွန်းကြကုန်၏။ သတ္တဝါတို့သည် မေတ္တာဈာန် စသည်တို့ကို ပွားများကြ၍ လူနတ်ဘဝမှ စုတေကြသောအခါ ဗြဟ္မာ့ပြည်၌ ဖြစ်ကြရကုန်၏။"

## လူလိုလူမှ လူထက်လူဖြစ်အောင်

သတ္တဝါတို့ အဆင်းအင်္ဂါနှင့်သက်တမ်းများ ဆုတ်ယုတ်ရသည်မှာ လောဘ, ဒေါသ, မောဟတရားများ ပြန့်ပွား၍ လူကြီးမိဘ မရိုသေခြင်း၊ ကိုယ်ချင်းစာတရား ခေါင်းပါးခြင်း စသည်တို့ကြောင့် ဖြစ်ရကြောင်း 'စက္ကဝတ္တိသုတ်' ပါထိကဝဂ် ပါဠိတော်၌ ဘုရားဟောတော်မူရာ နောက်ဆုံး ယင်းဒုစရိုက်တရားတို့ပင်လျှင် ကမ္ဘာကို ဖျက်ဆီးသော တရားများဖြစ်ကြောင်း ဤ၌ ရှုမြင်နိုင်ပြန်သည်။

တစ်ဖန် သတ္တဝါတို့သည် ရှေးကံကို အရင်းခံကြသူချည်းဖြစ်သည့်အတိုင်း မေတ္တာရှာနှ်စသော တရားတို့ကြောင့် နတ်ပြဟ္မာလည်း အကြိမ်ကြိမ် ဖြစ်ခဲ့ဖူး လုပြီကိုလည်း မမေ့သင့်ကြချေ။ မိမိတို့ လေ့လာဖူးသော တရားများချည်း ဖြစ်ပေရာ၏။ လောကုတ္တရာတရားမှလွဲ၍ ကျင့်ကြံပွားများ ခံစားဖူးသည်က များကုန်၏။ အဘယ့်ကြောင့် ခက်ခဲသည်ဟု ထင်နေရသနည်း။

သတ္တဝါတို့ကို တစ်ဆင့်ထက်တစ်ဆင့် ရင့်ကျက်စေ၍ မြင့်ထက်မြင့်တက် လာစေရန်မှာ ကိုယ့်အားကိုယ်ကိုးရန်သာ ရှိ၏။ နည်းလမ်းကား သာသနာခေတ်တွင် ပွင့်လင်းလှပေ၏။ ဒါန သီလ စသော ကာမာဝစရကုသိုလ် အမျိုးမျိုးနှင့် မေတ္တာ စသော မဟဂ္ဂုတ်ကုသိုလ်တို့ပင်တည်း။ သာသနာပ ကာလမှာပင် ပြဟ္မာ့ပြည်သွားရာ လမ်းကို ရရှိခဲ့ကြပေသေးသည်။ လူ့ထက်လူ့ နတ်ထက်နတ် ဖြစ်အောင် လုပ်ဆောင် နိုင်ခဲ့ကြပေသေး၏။

## ၁၅-အင်္ဂုတ္တိုရ် မေတ္တာအကျိုးပြ သုတ်များ

### မေတ္တာအကျိုး ၁၁ မျိုး

အကျွန်ုပ် (အာနန္ဒာ)သည် ဤသို့ နာခံမှတ်သား ဆောင်ထားခဲ့ပါသည်။ အခါတစ်ပါး မြတ်စွာဘုရားသည် သာဝတ္ထိပြည် အနာထပိဏ်သူဌေး၏ အရံဖြစ်သော ဇေတဝန်ကျောင်း၌ သီတင်းသုံးနေတော်မူ၏။ ထိုအခါ မြတ်စွာဘုရားသည် ရဟန်းတို့ကို ' ရဟန်းတို့ ' ဟု ခေါ်တော်မူ၏။ ရဟန်းတို့သည် မြတ်စွာဘုရားအား 'အရှင်ဘုရား' ဟု ပြန်ကြားလျှောက်ထားကုန်၏။ မြတ်စွာဘုရားသည် ဤစကားကို မိန့်တော်မူ၏။

ရဟန်းတို့၊ ဗျာပါဒ စသော ဆန့်ကျင်ဘက်တရားတို့မှ လွတ်မြောက် သော မေတ္တာစိတ်ကို မှီဝဲအပ်၊ ပွားများအပ်၊ ကြိမ်ဖန်များစွာ လေ့ကျက် အပ်သည် ရှိသော် ၊ (အဆင်သင့် မောင်းနှင်၍ရအောင်) ယာဉ်ကဲ့သို့ ပြုအပ်သည်ရှိသော်၊ မှီရာတည်ရာ (မိမိအမြဲနေရာအရပ်)ကဲ့သို့ (သန့်ရှင်း စင်ကြယ်အောင်) ပြုလုပ် အပ်သည်ရှိသော်၊ စွဲမြဲစွာ တည်စေအပ်သည်ရှိသော်၊ ပြည့်စုံစွာ လေ့ကျက်

ဆည်းပူးအပ်သည်ရှိသော်၊ ကောင်းစွာအပြီးတိုင် အားထုတ်အပ်သည်ရှိသော် ရှစ်မျိုးသော အကျိုးတရားတို့ကို ကေန်ရလိမ့်မည်ဟု မျှော်လင့်အပ်ကုန်၏။

အဘယ်ရှစ်မျိုးတို့နည်းဟူမူ-

၁။ ချမ်းချမ်းသာသာ အိပ်ရ၏။

၂။ ချမ်းချမ်းသာသာ နိုးရ၏။

၃။ အိပ်မက်ဆိုးကို မမြင်မက်ရ။

၄။ လူတို့ချစ်ခင်မြတ်နိုးခြင်းကို ခံယူရ၏။

၅။ သားရဲတိရစ္ဆာန် နတ် ဘီလူး ပြိတ္တာတို့၏ ချစ်မြတ်နိုးခြင်းကို ခံယူရ၏။

၆။ ရင်ဝယ်သားကဲ့သို့ နတ်တို့ စောင့်ရှောက်ကုန်၏။

၇။ ထိုမေတ္တာပွားသူအား မီး, အဆိပ်လက်နက်တို့ မဖျက်ဆီးနိုင်။

၈။ ထို့ထက် လွန်မြတ်သော အရဟတ္တဖိုလ် မရရှိသေးသော်မှ ဗြဟ္မာ့ပြည်သို့ မုကား လားရောက်ရ၏။

ရဟန်းတို့၊ မေတ္တာစေတောဝိမုတ္တိကို မှီဝဲအပ်၊ ပွားများ၊ ကြိမ်ဖန်များစွာ လေ့ကျက်အပ်သည်ရှိသော် (လ) အပြီးတိုင် အားထုတ်အပ်သည်ရှိသော် ဤရှစ်မျိုးသော အကျိုးတရားတို့ကို ကေန်ရလိမ့်မည်ဟု မျှော်လင့်အပ်ကုန်၏ ဟူ၍ မိန့်တော်မူ၏။

[အံ-၁၁၊ မေတ္တာသုတ်၊ ၅၄၂-၌ကား-

၉။ လျင်မြန်စွာ သမာဓိရလွယ်၏။

၁၀။ မျက်နှာအဆင်း ကြည်လင်၏။

၁၁။ မတွေမဝေ သေလွန်ရ၏ ဟူသော အကျိုးသုံးမျိုးကိုပါ ထည့်၍ ၁၁-မျိုး ဟောသည်။)

## စကြဝတေးမင်း လုပ်ရသည်ထက် မြတ်သောကုသိုလ်

အကြင်သူသည် ထင်သော သတိရှိသည်ဖြစ်၍ မေတ္တာကို ပိုင်းခြား ကန့်သတ်ခြင်း မရှိ ပွားများ၏။ ဥပဓိတရားတို့၏ကုန်ရာ မေတ္တာကို ပွားများသောသူအား ပဋိဃစသော သံယောဇဉ် အနှောင်အဖွဲ့တို့သည် ပါးလျားလာကုန်၏။

ပျက်စီးစေလိုသောစိတ် မရှိမူ၍ သတ္တဝါ တစ်ဦးတစ်ယောက်ကိုပင် သောလည်း မေတ္တာပွားများ၏။ ထိုသို့ပွားများခြင်းကြောင့် များသောကုသိုလ် ရှိသူဖြစ်၏။ သတ္တဝါအားလုံးတို့ကို သနားကြင်နာစိတ်ရှိသော သူမြတ်သည်ကား များပြားလှသော ကုသိုလ်အစုအပုံကို ပြုလုပ်သည်မည်ပေ၏။

## စတုတ္ထအကြိမ်

(သတ္တဝါ တစ်ဦးတစ်ယောက်အပေါ်၌ ထားရှိသော မေတ္တာသည်ပင် မဟာကုသိုလ် အစုအပုံကြီး ဖြစ်ပေ၏။ အလုံးစုံသော သတ္တဝါတို့ကို မိမိရင်ဝယ်သားကဲ့သို့ အကျိုးစီးပွား များပြားစေလိုသော စိတ်ကိုဖြန့်ပွားသော သနားကြင်နာသူကား အဆုံးအပိုင်းအခြားမရှိ မဟာကပ် ၆၄–ကပ်တိုင်တိုင် အကျိုးအာနိသင် အဆက်ဆက် ဖြစ်ပွားစေနိုင်သော ကြီးကျယ်မြင့်မြတ်သော ကုသိုလ်ကြီးကို ပြုသည်မည်၍ ထိုအမှုကို စင်ကြယ်မြင့်မြတ်သူတို့မှသာ ပြုလုပ်နိုင်ပေ၏။ ဋီကာ–၂၄၀။)

အကြင် ရသေ့ ရဟန်းနှင့်တူသော တရားသော မင်းမြတ်တို့သည် သတ္တဝါအပေါင်းနှင့် အပြည့်ညပ်လျက်ရှိသော မြေအပြင်ကို ဒဏ်လည်းမဖက်, လက်နက်မဆောင် အောင်မြင်ကြကုန်၍ လျှဒါန်းပေးကမ်းလျက် တိုင်းသူ ပြည်သားတို့ အိမ်တံခါးဖွင့်၍ နေနိုင်အောင် ဆယ်ခိုင့်တစ်ခိုင် အခွန်တော် ကောက်ယူခြင်း 'သဿမေဓ'၊ အမှုထမ်းတို့အား လခရိက္ခာပေးခြင်း 'ပုရိသမေဓ'၊ ဆင်းရဲသားတို့အား အရင်းအနှီး ထောက်ပံ့ကြေးပေးခြင်း 'သမ္မာပါသ'၊ ချစ်ခင်နှစ်လိုဖွယ်သောစကားကို ပြောဆိုခြင်း 'ဝါဇပေယျ' တည်းဟူသော သင်္ဂဟဝတ္ထု (ချီးမြှောက်မှု) လေးခုတို့ဖြင့် ချီးမြှောက်ကာ အစဉ် လှည့်လည်နေကြကုန်၏။

ထိုမင်းတို့၏ ထိုလှူဒါန်းပေးကမ်းချီးမြှောက်မှုတို့သည် ကောင်းစွာ ပွားထုံ အပ်သော မေတ္တာစိတ်၏ ၁၆–စိတ်၊ ၁၆–ပြန်စိတ်၍ တစ်စိတ်ကိုမျှလည်း မမှီနိုင်ကုန်။ ဥပမာသော်ကား–အလုံးစုံသော ကြယ်တာရာ အပေါင်းတို့၏ အရောင်သည် လမင်း၏အရောင် ၁၆–စိတ်၊ ၁၆–ပြန်စိတ်၍ တစ်စိတ်ကိုမျှ မမှီနိုင်သကဲ့သို့တည်း။

အကြင်သူသည် သတ္တဝါအားလုံးတို့၌ မေတ္တာစိတ် အဖို့အစုရှိသည်ဖြစ်၍ တစ်စုံတစ်ယောက်ကိုမျှ မိမိကိုယ်တိုင်လည်း မညှဉ်းဆဲ မနှိပ်စက်၊ သူတစ်ပါးတို့ကိုလည်း မသတ်ဖြတ်စေ၊ မိမိကိုယ်တိုင်လည်း အနိုင်မယူ၊ သူတစ်ပါးတို့ကို လည်း အနိုင်မကျင့်စေ၊ ထိုမေတ္တာပွားသူအား တစ်စုံတစ်ယောက်နှင့်မျှ အတွင်းရန် အပြင်ရန်ဟူ၍ မရှိနိုင်ချေ။

(အံ–၈၊ မေတ္တသုတ် ၁၊၁၊၁၉၃၊၂၀၃။)

## ၁၆။ မူလပဏ္ဏာသ၊ စူဠအဿပုရသုတ် မေတ္တာရေကန်ကြီး

"ရဟန်းတို့၊ (အဘိဇ္ဈာ–ဗျာပါဒ–ဣဿာ–မစ္ဆေရ မာယာ သာဌေယျ မိစ္ဆာဒိဋ္ဌိစသော) ရဟန်း၏ အညစ်အကြေး အားလုံးတို့မှ စင်ကြယ်သော မိမိ ကိုယ်ကို ရှုမြင်သော ရဟန်းအား ဝမ်းမြောက်ခြင်း၊ နှစ်သက်ခြင်း၊ ကိုယ်ငြိမ်း

အေးခြင်း၊ ချမ်းသာခြင်းကို ခံစားရ၏။ ချမ်းသာခြင်းရှိသော ရဟန်း၏ စိတ်သည် သမာဓိရ၏။

"ထိုသို့ (အပြစ်ကင်းစင် ရွှင်လန်းဝမ်းသာ သမာဓိ ရသော) ရဟန်းသည် မေတ္တာ၊ ကရုဏာ၊ မုဒိတာ၊ ဥပေက္ခာနှင့်ယှဉ်သော စိတ်ဖြင့် တစ်ခုသော အရပ်မျက်နှာကို ပျံ့နှံ့စေ၍နေ၏။ နှစ်ခု၊ သုံးခု၊ လေးခု၊ ထက်အောက်၊ ဖီလာ အရပ်ကို ပျံ့နှံ့စေ၍နေ၏။ အလုံးစုံသောအရပ်, အလုံးစုံသော သတ္တဝါတို့၌ ကိုယ်နှင့်ထပ်တူ အကြွင်းမရှိ တစ်လောကလုံးကို သိမ်းကျုံးလျက် (ကျယ်ပြန့်၍ မဟဂ္ဂုတ်ဈာန်စိတ်ဖြစ်၍) မြင့်မြတ်သော၊ ပိုင်းခြားကန့်သတ်ချက် မထင်၊ တွင်းပြင်အေးရန်လည်း မစွက် မေတ္တာစိတ်သက်သက်ဖြင့် ပျံ့နှံ့စေ၍နေ၏။

"ရဟန်းတို့၊ ဥပမာသော်ကား ကြည်လင် ချိုအေး ဖြူဖွေးသောရေနှင့် ကောင်းသောရေဆိပ်ရှိသဖြင့် မွေ့လျော်ဖွယ်ကောင်းသော ရေကန်သည်ရှိရာ၏။ အရှေ့အရပ်မှ၊ အနောက်, မြောက်, တောင်အရပ်မှ၊ မည်သည့်အရပ်မှမဆို ထိုရေကန်သို့ နွေနေပူတို့ဖြင့် နှိပ်စက်ခံရ၍ အစာရေစာ ဆာလောင်မွတ်သိပ် သဖြင့် ပင်ပန်းနွမ်းနယ်နေသော ယောကျာ်းသည် အကယ်၍ လာငြားအံ့။ ထိုယောကျာ်းသည် ထိုရေကန်ကိုစွဲ၍ ရေမွတ်သိပ်ခြင်းကို ပယ်ဖျောက်ရာ၏။ နွေနေပူတို့ဖြင့် ပူလောင်ခြင်းကို ပယ်ဖျောက်ရာ၏။

"ရဟန်းတို့၊ ဤအတူပင်လျှင် မင်းမျိုးမှသော်လည်းကောင်း၊ ပုဏ္ဏားမျိုး၊ ကုန်သည်မျိုး၊ သူဆင်းရဲမျိုးမှသော်လည်းကောင်း မည်သည့်အမျိုးမှ မဆို လူ့ဘောင်မှ ထွက်ခွာ၍ ရဟန်းပြုသူ(ဟူသမျှ)သည် မြတ်စွာဘုရား ဟောကြားထားသော အဆုံးအမတော်ကို စွဲ၍ ဤမေတ္တာ၊ ကရုဏာ၊ မုဒိတာ၊ ဥပေက္ခာကို ပွားများ လတ်သော် မိမိကိုယ်၌ ငြိမ်းချမ်းခြင်းကိုရ၏။ ထို့ကြောင့် ငါသည် ထိုသို့သော ရဟန်းကို ရဟန်းနှင့် သင့်လျော်သောအကျင့်ကို ကျင့်သူ" ဟု ဟောတော်မူ၏။

[မူလပဏ္ဏာသ–စူဠအဿပုရသုတ် ၃၅၃။ ၃၆၃။၂၂၆။၂၄၁]

### ၁၇။ ကတစူပမသုတ်

### မြေကြီးနှင့် ကောင်းကင်ပမာ မေတ္တာအင်အား

မောဠိယဖဂ္ဂုန မည်သောရဟန်းသည် ဘိက္ခုနီ (ရဟန်းမိန်းမ)တို့နှင့် အချိန်မဲ့ အရောတဝင် ချစ်ခင်ရင်းနှီးစွာ နေလေ့ရှိ၏။

မောဠိယဖဂ္ဂုနသည် ရဟန်းတစ်ပါးပါးကို သူ့ရှေ့၌ ဘိက္ခုနီမများ၏ ကျေးဇူးမဲ့ (မကောင်းကြောင်း) ပြောလျှင် စိတ်ဆိုး၏။ ကလန်ကဆန် လုပ်၏။ ငြင်းခုံ၏။ ဘိက္ခုနီမများကလည်း ရဟန်းတစ်ပါးပါးက သူတို့ရှေ့၌ မောဠိယဖဂ္ဂုန၏

ကျေးဇူးမဲ့ကို ပြောလျှင် ထို့အတူ စိတ်ဆိုး၏။ ကလန်ကဆန် လုပ်၏။ ငြင်းခုံ၏။

မောဠိယဖဂ္ဂုန၏ သတင်းသည် ဝိဝါဒ အဓိကရဏ်းပေါ်၌ပင် ရပ်တည်နေကာ ရဟန်းတော် ရဟန်းမတို့လောက၌ ကျယ်ပွားလာလေရာ သူ့အကျိုးကို လိုလားသော ရဟန်းတစ်ပါးက အကြောင်းစုံ ဘုရားရှင်အား လျှောက်ထားသည်။ ဘုရားရှင် ဆုံးမတော်မူမှသာ သာသနာလည်း မညှိုးငယ်၊ သူ့အားလည်း အကျိုးမဲ့မဖြစ်ဟု ယုံကြည်၍ လျှောက်ထားခြင်းဖြစ်သည်။ ဘုရားရှင်လည်း ချက်ချင်းခေါ်စေ၍ မေးမြန်းရာ မောဠိယဖဂ္ဂုနလည်း ဟုတ်မှန်ကြောင်း ဝန်ခံရလေ၏။

သဒ္ဓါသဖြင့် ရဟန်းပြုလာသော အမျိုးကောင်းသားတစ်ဦးအား ထိုအပြုအမူမျိုးသည် မသင့်တော်ကြောင်း၊ ဘိက္ခုနီမတို့၏ ကျေးဇူးမဲ့ကို တစ်စုံတစ်ဦးက ပြောလာလျှင်လည်း မိမိသာလျှင် ဘိက္ခုနီမတို့အပေါ်၌ ခင်မင်တွယ်တာသော တဏှာအကြံ့၊ တဏှာဆန္ဒတို့ကိုသာ ပယ်ဖြတ်ရမည့် အကြောင်း ဆုံးမတော်မူ၏။

"ချစ်သား ဖဂ္ဂုန၊ 'ထိုသို့ ပြောဆိုခြင်းကြောင့် ငါ၏စိတ်သည် ဖောက်ပြန်ပြောင်းလဲခြင်း မဖြစ်စေရ၊ ကြမ်းကြုတ်ယုတ်မာသော စကားကိုလည်း မထွက်ဆိုမိစေရ၊ ဒေါသ မသမ်း၊ မေတ္တာလွှမ်းကာ ချမ်းသာကြီးပွားစေလိုသော စိတ်ထား၍သာ ငါနေမည်' ဟု မိမိကိုယ်ကို နှလုံးသွင်းလေ့ကျင့်ရမည်" ဟု မိန့်တော်မူ၏။ ထိုဘိက္ခုနီမတို့အား မိမိရှေ့၌ပင် လက်ဖြင့်၊ ခဲဖြင့်၊ တုတ်ဖြင့်၊ ဓားဖြင့် ရိုက်ပေါက် ခုတ်သတ်စေကာမူ ထိုသို့ပင် ဆောက်တည် လေ့ကျင့်ရန် ဆုံးမတော်မူ၏။

မြတ်စွာဘုရားရှင်သည် ရဟန်းများဘက် စကားလှည့်၍ မိန့်တော်မူပြန်၏။

ပထမဗောဓိခေါ် ရှေ့ပိုင်း ဝါနှစ်ဆယ်အတွင်းက ရဟန်းတော်များ ဆုံးမစကားပင် မဆိုရ၊ အမြွက်မျှ သတိပေးရုံနှင့် ရှောင်အပ်သည်ကို ရှောင်၊ ဆောင်အပ်သည်ကို ဆောင်ကြကြောင်း၊ မြေညီညီ လမ်းကောင်းကောင်းတွင် မြင်းကောင်းက,သော ရထားကို စီးနင်းလိုက်ပါရသကဲ့သို့ နှင်တံမျှ မတို့ရ ချမ်းသာလှကြောင်း မိန့်တော်မူ၏။

မြို့ရွာမနီး အင်ကြင်းတောကြီးအတွင်း၌ ကြက်ဆူပင်များ ဖုံးလွှမ်းလာလျှင် အကျိုးလိုလားသူသည် ရှင်လင်းသုတ်သင်၍ ကောက်ကွေးသော အပင်ပျိုများကို ချတ်ဖျဉ်ပြုစုပေးမှ ကြီးပွားနိုင်သကဲ့သို့ အကုသိုလ်စရိုက်ဆိုးများကို ဖယ်ရှား၍ ကုသိုလ်တရားတို့၌ မွေ့လျော်နိုင်သူမှ ကြီးပွားရသည့်အကြောင်းကိုလည်း မိန့်တော်မူ၏။

အရေးမကြုံသေး၍ သက်လုံကောင်းသူ

ရှေးက ဖြစ်ခဲ့ဖူးသော အိမ်ရှင်နှင့် အိမ်စေမတို့ အကြောင်းကိုလည်း ဆက်၍ ဟောတော်မူရာ အလွန်မှတ်သားဖွယ် ကောင်းလှပေသည်။

ရှေးက ဝေသာလီပြည်၌ 'ဝေဒေဟိကာ' ခေါ် အိမ်ရှင်မကြီးတစ်ဦးရှိ၏။ သဘောကောင်းသည်။ မာန်မာန မရှိ၊ ကိုယ်စိတ်ငြိမ်းအေး သိမ်မွေ့သည်ဟုလည်း အများက ချီးကျူးပြောဆိုနေကြသည်။ သူ၏ အစေခံကျွန်မ ကာဠီမှာလည်း အရာရာအလိုက်သိ ဆောင်ရွက်တတ်သူ၊ ကျွမ်းကျင်၍ ထထကြွကြွရှိသူဖြစ်၏။

တစ်နေ့သောအခါ ကာဠီသည် သူ့အရှင်မ၏ သဘောကောင်းကြောင်း၊ မာန်မာနမရှိကြောင်း၊ ကိုယ်စိတ်ငြိမ်းအေးသိမ်မွေ့ကြောင်း၊ အများက ချီးကျူး ပြောဆိုသည်ကို လက်တွေ့စုံစမ်းချင်လာ၏။ အနေအထိုင် အလွန်သိမ်မွေ့လှ သဖြင့် 'အရိယာမကြီး' လားဟု ထင်ရလေသည်။

'အရှင်မ,ဟာ ဒေါသစိတ်ရှိလျက်နှင့် မျိုသိပ်ထားတာလား၊ မရှိလို့ကို စိတ်မဆိုးတာလား၊ ဒါမှမဟုတ် ငါလုပ်တာကပဲ အပြစ်ပြောစရာ၊ စိတ်ဆိုးစရာ မရှိလောက်အောင် ဆောင်ရွက်ပေးနိုင်လို့ပဲလား' ဟု စဉ်းစားကာ ကာဠီသည် နောက်တစ်ရက်တွင် ခါတိုင်းထက် နောက်ကျပြီး အိပ်ရာမှ ထ၏။ ထိုအခါ အိမ်ရှင်မကြီး 'ဒေါ်ဝေဒေဟိကာ' သည်–

"ဟဲ့–သဘောက်မ ကာဠီ၊ ဘာဖြစ်လို့ နင် အိပ်ရာထ နောက်ကျသလဲ" ပြောဆိုမြည်တွန်လေ၏။ မျက်မှောင်ကုပ် ဒေါသထွက်ကာ ကြိမ်းမောင်း ဆူပူ၏။

ကာဠီသည် ပို၍သေချာအောင် တစ်နေ့ထက်တစ်နေ့ ပိုပြီး နောက်ကျ ခံကာ အိပ်ရာမှထလေရာ သုံးကြိမ်မြောက်တွင် ဆဲဆိုကြိမ်းမောင်းကာ ကာဠီအား မင်းတုပ်ဖြင့် ခေါင်းကိုရိုက်၍ သွေးသံများ ယိုစီးကုန်၏။ ကာဠီလည်း အိမ်နီးချင်းများ အားလုံးထံသွား၍ ခေါင်းကွဲဒဏ်ရာကိုပြကာ–

"ကြည့်ကြပါအုံး၊ သဘောကောင်းတဲ့ ဒေါ်ဝေဒေဟိကာ လုပ်ပုံ ကြည့်ကြပါအုံး၊ တော်တို့ပြောတော့ သဘောကောင်းသတဲ့၊ မာန်မာန မရှိဘူးတဲ့၊ သိမ်မွေ့လိုက်တာတဲ့၊ ခုတော့ ကြည့်ကြပါအုံး" ဟုဆိုကာ လိုက်၍ ပြောလေရာ ထိုအခါမှစ၍ ဒေါ်ဝေဒေဟိကာအားလည်း မိန်းမကြမ်းကြီးအဖြစ် သတ်မှတ်ကြလေတော့သည်။

"ရဟန်းတို့၊ ထို့ဥပမာကဲ့သို့ ရဟန်းသည် အမနာပစကား ထိပါးပုတ်ခတ် ပြောဆိုခြင်း မရသေးသမျှ သဘောကောင်းသူ၊ နှိမ့်ချသူ၊ သိမ်မွေ့သူဟု ဆိုကြသော်လည်း ငါသည် ထိုရဟန်းမျိုးကို စကားနာယူသူ (သုဝစ) ဟု မဆိုနိုင် သေး။ ပစ္စည်းလေးပါးရရန် အခွင့်ရှိနေ၍ စကားနားထောင်သူကိုလည်း 'သုဝစ' ဟု မဆိုနိုင်သေး။ မရသောအခါ မနာယူသူသာ ဖြစ်သွားပေလိမ့်မည်။ တရားကို

ရှိသေလေးမြတ် ဆည်းကပ်ကျင့်ကြံသူမှသာလျှင် စကားနာယူသူ ဖြစ်သည်" ဟု မိန့်တော်မူ၏။

## ဆန့်ကျင်ဘက်စကား ၅-မျိုးနှင့် လွှတရား

ဆက်လက်၍ ဝစနပထ=အကြောင်းရာ ပြောဆိုလာတတ်သော စကား ၅-မျိုးကိုလည်း ဟောတော်မူသည်။

၁။ ချိန်ခါခွင့်သင့်သည်လည်းရှိ၊ မသင့်သည်လည်းရှိသော စကား။

၂။ မှန်သည်လည်းရှိ၊ မှားသည်လည်းရှိသောစကား၊

၃။ ယဉ်ကျေးသိမ်မွေ့၊ ရိုင်းပြကြမ်းတမ်း၊

၄။ အကျိုးရှိ၊ အကျိုးမရှိ၊

၅။ မေတ္တာစိတ်၊ ဒေါသစိတ် (ဖျက်လိုဖျက်ဆီးစိတ်) နှင့်ပြောသောစကား။

"ရဟန်းတို့၊ တစ်ပါးသောသူတို့သည် ချိန်ခါအခွင့် သင့်သည်ဖြစ်စေ၊ မသင့်သည်ဖြစ်စေ (လ) မေတ္တာစိတ်ထား၍ဖြစ်စေ၊ ဒေါသစိတ်ထား၍ဖြစ်စေ တစ်စုံတစ်ရာ ပြောဆိုလာကြရာ၏။ ထိုအခါ သင်တို့သည် ကိုယ့်စိတ်နှင့်ကိုယ် ဤသို့ နှလုံးသွင်းလေ့ကျင့်ကြရမည်။

"ငါ၏စိတ်သည် ဖောက်ပြန်ပြောင်းလဲခြင်း မဖြစ်စေရ၊ ကြမ်းကြုတ်ယုတ်မာသော စကားကိုလည်း မထွက်ဆိုမိစေရ၊ ဒေါသမသမ်း မေတ္တာလွှမ်းကာ ချမ်းသာကြီးပွားလိုသောစိတ် ထား၍သာ ငါနေမည်။

"ထိုပါးပြောဆိုလာသူကိုလည်း မေတ္တာစိတ် ဖြန့်လွှမ်းပို့လွှတ်၍သာ နေမည်။ သတ္တလောက တစ်ခုလုံးကိုလည်းကျယ်ပြန့်မြင့်မြတ်၍ ကန့်သတ်ချက် မထင်၊ တွင်းပြင်ဘေးရန်လည်း မစွက်၊ မေတ္တာစိတ် သက်သက်ဖြင့် ဖြန့်လွှမ်း ပို့လွှတ်၍သာ ငါနေမည်"ဟု နှလုံးသွင်း လေ့ကျင့်ကြကုန်လော့"

ဆက်လက်၍ မေတ္တာစိတ်ထားရှိသူကို မည်သည့်အရာကမျှ မဖျက်ဆီး နိုင်သော မဟာပထဝီမြေကြီးနှင့် ကောင်းကင်စသော ဥပမာတို့ဖြင့် နှိုင်းယှဉ် ဟောပြတော်မူရာ ပို၍ပင် မေတ္တာအင်အားများ ပေါ်လွင်လှပေသည်။

-လူတစ်ယောက်သည် ပေါက်တူးကို ထမ်း၍ အတိုင်းမသိ ထုထည် ကြီးမားလှသော ဤမဟာပထဝီမြေကြီးကို မြေကြီးမဟုတ်အောင် တူးဖြိုဖြန့်ကျဲ ပစ်မည်ဟုဆိုကာ ထိုသို့ပြုလုပ်သော်လည်း တူးဖြိုဖြန့်ကျဲ၍ မရနိုင်၊ ထိုသူသာလျှင် ကိုယ်စိတ်ပင်ပန်းခြင်း ရှိသကဲ့သို့လည်းကောင်း၊

-အပြောကျယ် ထိတွယ်ရာ မရှိသော ကောင်းကင် လဟာပြင်ကြီးတွင် ဆေးနီဆေးဝါ စသည်တို့ဖြင့် ပန်းချီအရုပ်ရေးမည်ဟုဆိုကာ ရေးခြယ်သော်လည်း

ရေး၍မရ၊ ပြုလုပ်သူသာ ပင်ပန်းရုံ ရှိသကဲ့သို့လည်းကောင်း၊

–မြက်များကို စုစည်း၍ မီးရှို့ကာ ဂင်္ဂါမြစ်ရေများကို ဆူပွက်ကုန်ခန်းသွားအောင် မီးတင်ရှို့မည်ဟုဆိုကာ မီးရှို့သော်လည်း မရ၊ ပြုလုပ်သူသာ ပင်ပန်းရုံရှိသကဲ့သို့လည်းကောင်း၊

–ဝါဂွမ်းကဲ့သို့ နူးညံ့သော သားရေအိတ်ကို တုတ်၊ အိုးခြမ်းဖြင့် အသံမြည်အောင် ရိုက်နှက်မည်ဟုဆိုကာ ရိုက်နှက်သော်လည်း မရ၊ အသံမထွက်၊ ပြုလုပ်သူသာ ပင်ပန်းရုံ ရှိသကဲ့သို့လည်းကောင်း၊

မည်သည့်အန္တရာယ်ကမျှ မဖျက်ဆီးနိုင်အောင် မေတ္တာအင်အားကြီးမားပုံကို မေတ္တာစိတ်ပွားသူနှင့် ထိပါးပြောဆိုသူများကို နှိုင်းယှဉ်၍ ဟောပြတော်မူ၏။ အထက်ပါအတိုင်း စိတ်ထားလေ့ကျင့်ရန် တိုက်တွန်းတော်မူသည်။

### ကြီးပွားချမ်းသာချင်ရင် ဒီအတိုင်းသာလုပ်

နိဂုံးချုပ်အားဖြင့် “အရှည်သဖြင့် ချမ်းသာစီးပွား များလိုလျှင် ဤလွှဥပမာကို အမြဲမပြတ် နှလုံးသွင်းကြ” ဟု သတိပေးကာ–

“ရဟန်း–သင်တို့သည် အကယ်၍ လူသတ်သမား လုယက်သမားများက သင်တို့၏ ခြေလက်များကို အရိုးနှစ်ဖက်တပ်သော (ငါးမန်းစွယ်) လွှဖြင့် တိုက်ဖြတ်ကြကုန်ရာ၏။ ထိုအခါ အကြင်ရဟန်းသည် တိုက်ဖြတ်သူအား စိတ်ဆိုးခြင်း ဖြစ်သေး၏။ ထိုရဟန်းသည် ငါ၏အဆုံးအမကို နာယူသူ ငါ့စကား နားထောင်သူ မဖြစ်နိုင်ချေ” ဟု စကားကုန် မိန့်တော်မူကာ ထိပါးလှာသူနှင့် တစ်လောကလုံးအပေါ် (အထက်ပါအတိုင်း) မေတ္တာပွားများ လေ့ကျင့်ရန်ကိုသာ တိုက်တွန်းညွှန်ပြတော်မူလေသည်။

ဗုဒ္ဓ၏ မေတ္တာဝါဒသည် ရှင်းလင်းလှပေ၏။

မိမိနှင့်တကွ တစ်လောကလုံး၏ ငြိမ်းချမ်းသာယာမှုကို လိုပါလျှင် မည်သို့မျှ ဆင်ခြေတက်စရာ မရှိ။

သဗ္ဗညုတဉာဏ်တော်ကို အလေးမူကာ လက်တွေ့လေ့ကျင့်ရန်သာ ရှိပေတော့သတည်း။

[မူလပဏ္ဏာသ–ကတစူပမသုတ်။ ၁၇၃၊ ၁၇၇ (၂)၁ ။ (၂)၇၈။]

နိဗ္ဗာနပစ္စယော ဟောတု

**မွှာစရိယ ဦးရွှေလှိုင်**

## မေတ္တသုတ်ပရိတ်တော်

၁။ ယဿာ'နုဘာဝတော ယက္ခာ၊ နေဝ ဒဿေန္တိ ဘီသနံ၊
ယမှိ စေဝါ, နုယုဉ္ဇန္တော၊ ရတ္တိန္ဒိဝ မ'တန္ဒိတော။

၂။ သုခံ သုပတိ သုတ္တော စ၊ ပါပံ ကိဉ္စိ န ပဿတိ။
ဧဝမာ'ဒိ ဂုဏူပေ'တံ၊ ပရိတ္တံ တံ ဘဏာမဟေ။

၃။ ကရဏီယ မ'တ္ထ ကုသလေန၊
ယန္တ သန္တံ ပဒံ အဘိသမေစ္စ၊
သက္ကော ဥဇူ စ သုဟုဇူ စ၊
သုဝစော စ'ဿ မုဒု အနတိမာနီ။

၄။ သန္တုဿကော စ သုဘရော စ၊
အပ္ပကိစ္စော စ သလ္လဟုကဝုတ္တိ။
သန္တိန္ဒြိယော စ နိပကော စ၊
အ-ပ္ပဂဗ္ဘော ကုလေသွ' နနုဂိဒ္ဓေါ။

၅။ န စ ခုဒ္ဒ' မာစရေ ကိဉ္စိ၊
ယေန ဝိညူ ပရေ ဥပဝဒေယျုံ။
သုခိနော ဝ ခေမိနော ဟောန္တု၊
သဗ္ဗသတ္တာ ဘဝန္တု သုခိတတ္တာ။

၆။ ယေ ကေစိ ပါဏဘူတတ္ထိ၊
တသာ ဝါ ထာဝရာ ဝ' နဝသေသာ။
ဒီဃာ ဝါ ယေ ဝ မဟန္တာ၊
မဇ္ဈိမာ ရဿကာ အဏုကထူလာ။

၇။ ဒိဋ္ဌာ ဝါ ယေ ဝ အဒိဋ္ဌာ၊
ယေ ဝ ဒူရေ ဝသန္တိ အဝိဒူရေ။
ဘူတာ ဝ သမ္ဘဝေသီ ဝ၊
သဗ္ဗသတ္တာ ဘဝန္တု သုခိတတ္တာ။

၈။ န ပရော ပရံ နိကုဗ္ဗေထ၊
နာတိမညေထ ကတ္ထစိ နံ ကံစိ။
ဗျာရောသနာ ပဋိဃသညာ၊
နာညမညဿ ဒုက္ခ'မိစ္ဆေယျ။

၉။ မာတာ ယထာ နိယံ ပုတ္တ-
မာယုသာ ဧကပုတ္တ' မနုရက္ခေ။
ဧဝမ္ပိ သဗ္ဗဘူတေသု၊
မာနသံ ဘာဝယေ အပရိမာဏံ။

၁၀။ မေတ္တဉ္စ သဗ္ဗလောကသ္မိံ၊
မာနသံ ဘာဝယေ အပရိမာဏံ။
ဥဒ္ဓံ အဓော စ တိရိယဉ္စ၊
အသမ္ဗာဓံ အဝေရ' မသပတ္တံ။

၁၁။ တိဋ္ဌံ စရံ နိသိန္နော ဝါ၊
သယာနော ယာဝတာ'ဿ ဝိတမိဒ္ဓေါ။
ဧတံ သတိံ အဓိဋ္ဌေယျ၊
ဗြဟ္မ'မေတံ ဝိဟာရ,မိဓ,မာဟု။

၁၂။ ဒိဋ္ဌိဉ္စ အနုပဂမ္မ
သီလဝါ ဒဿနေန သမ္ပန္နော။
ကာမေသု ဝိနေယျ ဂေဓံ၊
န ဟိ ဇာတု'ဂ္ဂဗ္ဘသေယျ ပုန'ရေတိ။ ။

[မေတ္တသုတ္တံ နိဋ္ဌိတံ။]

# မဇ္ဈာစရိယ ဦးဒွေးလှိုင်ရေး
## ထွက်ပြီးကျမ်းစာများ

**၁။ ရတနာသုံးပါးကျေးဇူး (ကိုယ်တွေ့ဝတ္ထုများ)**

ဘာသာရေး အခြေခံ အနိမ့်ဆုံးအဆင့်မှ သမထ ဝိပဿနာ အလုပ်ခွင် အထိ လက်တွေ့ကျသော ကျင့်စဉ်များ၊ ဒါနတန်ခိုး၊ သီလတန်ခိုး၊ မေတ္တာတန်ခိုး။ သစ္စာစွမ်းရည် – မယုံကြည်နိုင်လောက်အောင် အားကျဖွယ်, အံ့သြဖွယ် ကောင်းသော ကိုယ်တွေ့ဝတ္ထုပေါင်း ၄၀–ခန့် ပါဝင်သည်။ စာမျက်နှာ ၅၀၀–ကျော်။

**၂။ ရဟန္တာနှင့် ပုဂ္ဂိုလ်ထူးများ**

ဟန်လင်း, သရေခေတ္တရာ ပျူခေတ်မှ မျက်မှောက်ခေတ်အထိ မြန်မာနိုင်ငံ၌ ပေါ်ထွန်းခဲ့သော ရဟန္တာ ပုဂ္ဂိုလ်ထူးကြီးပေါင်းများစွာ၏ ထေရုပ္ပတ္တိနှင့် ကျင့်စဉ်များ၊ သာသနာ ရေစီးကြောင်း၊ မဟာယာန အမူအကျင့်, ဂိုဏ်းဂဏ အမွေဓာတ်များ အကြောင်း ခြေခြေမြစ်မြစ် စိစစ်ပြထားသည်။ အလုပ်ခွင်သင်ခန်းစာ ရယူမှုကို ဦးစားပေး၍ ရေးသားထားသည်။

ပုဂ္ဂိုလ်ထူးကြီးများ၏ ပုံတော်များကိုလည်း ဖော်ပြထားရာ သင့်အိမ်၌ အမြဲပူဇော်ထားသင့်သော စာတစ်အုပ်။

**၃။ အနာဂါမ် ဆရာသက်ကြီး**

အာနာပါန, သတိပဋ္ဌာန်အလုပ်ကို စာဖတ်တတ်သူတိုင်း နားလည်အောင် အရှင်းဆုံး ရေးထားသော စာအုပ်။ သူ့ဘဝ–သူ့တရားနှင့် သူ့ကျေးဇူး၊ အပိုင်းကြီး သုံးပိုင်း။

နိုင်ငံရပ်ခြားမှ ပါမောက္ခကြီးများ၊ ပါရဂူကြီးများပင်လျှင် ဆရာသက်ကြီး ကမ္မဋ္ဌာန်းနည်းဖြင့် ထူးခြားစွာ ပြောင်းလဲသွားကြပုံ ကိုယ်တွေ့ရေးသားချက်များ၊ သမိုင်းဝင် ဓာတ်ပုံများကို ကြွေရောင်စက္ကူချောဖြင့် တခမ်းတနား ဖော်ပြထားသည်။

**၄။ သီဟိုဠ်ခေတ် စံတော်ဝင် အရိယာများ**

ဤစာအုပ်ကား 'ရဟန္တာ ပုဂ္ဂိုလ်ထူး' ပထမတွဲအဖြစ် သမိုင်းကွင်းဆက် များနှင့်တကွ ဟန်လင်း, ဗိဿနိုး, သရေခေတ္တရာ ရှေးဦး မြန်မာ့သာသနာကို နောက်တွေ့သမိုင်းပစ္စည်း အထောက်အထားများ၊ ဓာတ်ပုံ၊ မြေပုံများဖြင့် တခမ်းတနား ဖော်ပြထားသည်။

ဗုဒ္ဓအသံစာပေ

အရှင်မဟာဗုဒ္ဓဃောသနှင့် အဋ္ဌကထာသမိုင်း၊ သီဟိုဠ်-မြန်မာ ဆက်ဆံရေး၊ သီဟိုဠ်ပုဂ္ဂိုလ်ထူးများ၊ တရားအတွေ့အကြုံများ၊ သီဟိုဠ် သာသနာဝင် အပြည့်အစုံ၊ ထေရဝါဒသည် ဟီနယာန မဟုတ်၊ ရှင်ဥပဂုတ်ကား မဟာယာန၊ ဂေါတမ ဗုဒ္ဓသည် ဗမာလူမျိုး-စသော သမိုင်းစိစစ်ချက် ဗုဒ္ဓဝါဒရေးရာ သဘောတရား စိစစ်ချက်များ များစွာပါဝင်သည်။

## ၅။ ဓမ္မဒူတ (ပ၊ ဒု၊ တ)

ဒါနကထာ၊ သီလကထာ၊ သဂ္ဂကထာနှင့် သာသနဝံသကထာ အခန်း ၅-ခန်း ခွဲခြားကာ မြန်မာနိုင်ငံ၌ ခေတ်အဆက်ဆက် ပေါ်ထွန်းခဲ့သော ဒါနသူရဲကောင်း၊ သီလသူရဲကောင်း၊ ဘာဝနာသူရဲကောင်းများအကြောင်း ကိုယ်တွေ့ဝတ္ထုများ (သီလပျက်၍ အပါယ်လေးပါး ကျရောက်သူများ အကြောင်းလည်း ပါဝင်ပါသည်။)

အမည်၊ နေရပ်၊ အကြောင်းအရာ ခိုင်မာသော ပစ္စုပ္ပန်ဝတ္ထုများ။

"သာသနဝံသကထာ" အခန်းမှာ ကြွင်းကျန်သော "ရဟန္တာနှင့် ပုဂ္ဂိုလ်ထူးများ" (ဖြည့်စွက်တွဲ)အဖြစ် အာသံပြည် သာသနာဝင်နှင့် ဗြဟ္မ ပုတြ မြစ်ရေပြင်မှာ ခြေလျင်ကြွ၍ ဆင်ဖြူများပင် လာရောက်ပူဇော်ရသော အာသံပြည် သာသနာပြု ရာဇဂုရု ပယင်းတွင်း ဆရာတော်အကြောင်း ဖော်ပြထားသည်။

## ၆။ တောင်တန်းသာသနာပြု ဆရာတော်ကြီး ဦးဥတ္တမသာရ၏ ချမ်းမြေ့စွာ ဘဝနေထိုင်နည်း

ကမ္မနိယာမနှင့် မေတ္တာအာနိသင်၊ ပရိတ်စွမ်းအား၊ သေနည်းသင်တန်းနှင့် သမထဝိပဿနာ အခန်း ၅-ခန်း ပါဝင်သည်။ ကိုယ်တွေ့ပစ္စုပ္ပန်ဝတ္ထုများ၊ တစ်သက်တာ ကိုယ်တွေ့ကျင့်စဉ်နှင့် ဖြစ်ရပ်ဆန်းများ။

မေတ္တာဖြင့် သံရုံးရာထူးလုပ္ပံ၊ အိမ်ရှင်အိမ်ငှား အမှုကြီးများ စသည် အောင်မြင်ခဲ့ပုံ။ ၂-ကြိမ်တိုင်တိုင် ဝိဇ္ဇာဓိုရ်များနှင့် တွေ့ဆုံ၍ တောင်စောင့် နတ်မင်းကြီး ၆-ကြိမ်လာပုံ။ ပရိတ်ရေပွက်၍ အံ့သြစွာ မီးကွင်းပုံများ၊ ကင်ဆာစသော ရောဂါမျိုးစုံ ပျောက်ကင်းပုံ၊ ချင်းတောင်ပေါ်မှ ထိုးထွက်နေသော အလင်းရောင်ကြီးနှင့် သမထဝိပဿနာ အတွေ့အကြုံများ။

စီစဉ်သူ ဓမ္မာစရိယ ဦးဌေးလှိုင်၏အမှာစကား၊ ဖြစ်ရပ်ဆန်းနှင့် ကောလဟာလ သုံးသပ်ချက်များ ပါဝင်သည်။

၇။ မေတ္တာစရိုးသည်ကြီး (ပထမပိုင်း၊ ဒုတိယပိုင်း)

တောင်တန်းသာသနာပြု ဆရာတော်ကြီး ဦးဥတ္တမသာရ၏ ကိုယ်တွေ့မှတ်တမ်းများ၊ စိစဉ်သူ မဇ္ဈာစရိယ ဦးဒွေးလှိုင်၏ အထူးနိဒါန်းနှင့် ခရီးသွားအတွေ့အကြုံများ၊ ပတ်ဝန်းကျင်အပေါ် ရှုမြင်ပုံ၊ အကျိုးရှိအောင် သဘောထားပုံ၊ တကယ့်ကိုယ်တွေ့ ဖြစ်ရပ်မှန်များ၊ သမိုင်းဝင်ဓာတ်ပုံများနှင့် ထူးဆန်း အံ့သြဖွယ်ရာ မဟာမြိုင်တောကြီးအကြောင်း၊ အာသံ မဏိပူရ သာသနာသမိုင်းနှင့် သာသနာရေးအခြေအနေ၊ ကောသမ္ဗီ ဗုဒ္ဓသာသနာဝင်များ၊ အတုယူဖွယ်ကောင်းသော ဗုဒ္ဓရုပ်ပုံတော်များ၊ မာလာခေါ် စိတ်ပုတီးသမိုင်း၊ တောင်တန်း သာသနာပြု သမိုင်းနှင့် ချင်းရာဇဝင်စသည်တို့အပြင် ဘယ်ဆေးကျမ်းတွင်မှ မရနိုင်သော လက်တွေ့ဆေးနည်းကျော်များစသည်ပါဝင်သည်။

၈။ ကမ္ဘာကို ချုပ်ကိုင်မည့်သူ

၁၂-နှစ်တိုင်တိုင် ပျောက်ကွယ်နေရာမှ ယခင်မူရင်းအတိုင်း တရားဝင်ပြန်လည်ရိုက်နှိပ်ထားသည်။ လောကီဝိဇ္ဇာ ဂန္ဓာရီ တန်ခိုးရှင်တို့၏ လျှို့ဝှက်ချက်နှင့် တဘောင်ကိန်းခန်းများ၊ ရှာန်ပျံ ရဟန်းတော်များ၏ ထေရုပ္ပတ္တိများ၊ သိပ္ပံပညာ၊ စိတ်ပညာ ဗုဒ္ဓအဘိဓမ္မာ ရှုထောင့်မျိုးစုံမှ မျက်မှောက် ကမ္ဘာ့အခြေအနေကို သုံးသပ်ထားသည်။ ကမ္ဘာအရပ်ရပ်မှ အကြားအမြင်ရ ပုဂ္ဂိုလ်များ၏ အနာဂတ်ကမ္ဘာအတွက် အမြင်များ၊ သိပ္ပံပါရဂူတို့၏ ဟောကိန်းများ၊ ရဟန္တာ အရှင်မြတ်ကြီးများ၏ ဗျာဒိတ်တော်များ တစ်အုပ်တည်းဖြင့် သုတမျိုးစုံ တစ်ဝကြီး ခံစားရမည်။

၉။ ခရီးဖော်

ခရီးဖော်စာစဉ်လည်း တစ်အုပ်ပြီးတစ်အုပ် ထွက်ပေါ်လာပါလိမ့်မည်။ ခရီးဖော်သည် တဖက်သူတို့အား ခရီးလမ်း ဖြောင့်ဖြောင့်တိုတိုနှင့် လိုရာပန်းတိုင်ကို ညွှန်ပြပေးပါလိမ့်မည်။ ခရီးလမ်းတစ်လျှောက်တွင် မှောင်နှင့်မည်းမည်း အခက်အခဲတွေက များလှပါ၏။ ချောက်ထဲကျရန် လမ်းခွဲတွေကလည်း များပါ၏။ စင်ကြယ်သော ထေရဝါဒ သာသနာမှာ ရောနှောပူးဝင်လာသော အဆိပ်အတောက်များကို ဖယ်ထုတ်ရှင်းလင်း ပေးပါလိမ့်မည်။

လျှောက်ရမည့်ခရီးတွင်လည်း ဓမ္မ၍ မဖြစ်။ အရေးအကြီးဆုံး ယူဆောင်သွားရမည့် အဓိက အချက်များကိုသာ ရွေးထုတ်ညွှန်ကြား ပေးပါလိမ့်မည်။ လက်တွေ့လုပ်ရမည့် ရှောင်စရာ ဆောင်စရာတို့ကိုသာ ရွေးထုတ်လမ်းညွှန်သွားပါလိမ့်မည်။

**၁၀။ အိတာလျံ ဘုန်းတော်ကြီး ဦးလောကနာထ၏ ကမ္ဘာလှည့် တရား**

မြန်မာနိုင်ငံ၌ အသက် ၂၈–နှစ်မှ သက်တော် ၆၈–နှစ်အထိ ရာသက်ပန် သီတင်းသုံး နေထိုင်ပြီး ကမ္ဘာကို သုံးပတ်ပတ်၍ ဟောခဲ့သော တရားများ။

၁၉၃၄–ခုနှစ်က တောင်ငူမြို့မှ မစ္စတာ သော်မဆင် ဦးဆောင်သော ကရင်အမျိုးသား ၇၀၀၀–တို့ ဗုဒ္ဓဘာသာ ဝင်ရာ၌ နှုတ်ခွန်းဆက် အားပေးစကား။

သိပ္ပံနည်းကျ ဘာသာတရား ရှာဖွေရေး တရားတော်။

ကမ္ဘာ့ခေါင်းဆောင်ကြီးများထံ ဗုဒ္ဓဝါဒဖြင့် ကမ္ဘာစစ် တားဆီးရေး နှိုးဆော်ချက်များ။

ဓမ္မပဒစာအုပ်ကို စတင်ဖတ်မိရာမှ ဗုဒ္ဓဘာသာသို့ ကူးပြောင်းခဲ့ပုံ၊ သူ့ဘဝ၊ သူ့အမြင်များအား ကမ္ဘာတစ်ခွင် လှည့်လည်၍ ဟောကြားသော တရားများကို စုဆောင်း၍ ဘာသာပြန်ပေးထားသည်။

ကမ္ဘာ့သာသနာပြုတိုင်း လက်စွဲပြုရမည့် သာသနာပြုနည်း သော့ချက်များ၊ ဘာသာတရား စိစစ်ချက်များ အပြည့်အစုံ ပါဝင်သည်။

အမြို့မြို့ ကိုယ်စားလှယ်များထံတွင် မရမှသာ အောက်ပါလိပ်စာတပ်၍ မှာကြားပါ။

**ဗုဒ္ဓအသံစာပေ**
**စာတိုက်ဗူးအမှတ် (၁၃၂၃)**
**ဗဟိုစာတိုက်ကြီး၊ ရန်ကုန်။**

# မေတ္တာဝါဒ

## (ပြဟ္မဝိဟာရအဖွင့်)

- အဘက်ဘက်မှ ကျဂ်တည်းကျဉ်းမြောင်းစွာ အသက်လု၍နေကြရသော ယနေ့ ကမ္ဘာသူ ကမ္ဘာသားတို့အတွက် အမြန်ဆုံး ဖတ်ရှုလေ့လာ၍ သင်ခန်းစာ ယူရမည့် သမိုင်းကား မေတ္တာဝါဒ (ကမ္ဘာဦးဝါဒ) သမိုင်းပင် ဖြစ်သည်။

- ကမ္ဘာဖျက် လက်နက်ကြီးများ အန္တရာယ်မှ လွတ်မြောက်စေ၍ ငြိမ်းချမ်းစွာ အတူတကွနေထိုင်ရေး၊ ဆိုးသွမ်းလူငယ်များ စိတ်ဓာတ်ပြောင်း၍ ခေါင်းဆောင်ကောင်း ဖြစ်လာစေရေးနှင့် အိမ်တွင်း ငြိမ်းချမ်းရေးမှသည် ကမ္ဘာ့ ငြိမ်းချမ်းရေးအထိ ပို့ဆောင်ပေးမည့် မေတ္တာဝါဒ . . . ။

- ကမ္ဘာဦး လူသားမှသည် မနုဿလူသားအားလုံးနှင့် မေတ္တာ၊ ဗုဒ္ဓခေတ်၊ သီဟိုဠ်ခေတ်နှင့် မြန်မာပြည် မျက်မှောက်ခေတ် အထိ မေတ္တာစံပြ ပုဂ္ဂိုလ်ကြီးများ . . . မွန်အာဇာနည်မယ် 'တလထော်'၊ ဂျပန်စစ်ဗိုလ်ကြီးနှင့် မိုးညှင်းဆရာတော်၊ စစ်ပွဲကြားက ဝေဘူ ဆရာတော် စသည် . . . ။

- မေတ္တာဓာတ်ရိုက်ပုံ၊ မေတ္တာစျာန် ထူထောင်နည်း၊ မေတ္တာစျာန်မှ ဝိပဿနာတက်ပုံ၊ ဆည်ကြီး–သေဉ္ဇတောင်–မိုးညှင်း–မြဝတီ–မဟာစည်–တိပိဋကရေအဘိဓေ–ပဋ္ဌာန်းတောင်တန်းသာသနာပြုအရှင်ဦးဥတ္တမသာရ စသော ဆရာတော်ဘုရားကြီးများ၏ လက်တွေ့နည်းနာများ အပြည့်အစုံ ပါဝင်သည်။

- နိကာယ်ငါးရပ်လာ မေတ္တာနှင့်စပ်သမျှ ဟောညွှန်ချက် အဆိုအနစ်များအားလုံး မူရင်းအတိုင်း ဖော်ပြချက်နှင့် သိပ္ပံ၊ ဗိုလ်ဆိုဖီနှင့် စိတ်ပညာဆရာတို့ အဆိုအမိန့်များကိုပါ သုံးသပ်ဖော်ပြထားသည်။

**မေတ္တာနှင့်စပ်၍ စာတွေ့လက်တွေ့ အခိုင်မာဆုံး**
**လွယ်ကူပွင့်လင်း၍ အရှင်းလင်းဆုံး ပညာပေးကျမ်းစာ**